

ဥပုသ်သည်တို့ဖတ်ဖွယ်

# ပုံဝတ္ထုလေးဆယ်

ဦးအောင်မွန်(မြတ်ဆုမွန်)

ဒုတိယအကြိမ်

# ဖတ်ဖွယ်ပုံဝတ္ထုလေးဆယ်

မဓုရရသဝါဟိနီကျမ်း
ဇမ္ဗူဒီပုပ္ပတ္တိကထာအပိုင်းကို
ဘာသာပြန်ဆိုသည်

**ဦးအောင်မွန် (မြတ်ဆုမွန်)**





၂၀၀၄–ခုနှစ်၊ ဇူလိုင်လ

အုပ်ရေ–၁၀၀၀

ဒုတိယအကြိမ်

တန်ဖိုး–

ကွန်ပျူတာစာစီ
လယ်တီရောင်ခြည်ကွန်ပျူတာ

စိစဉ်သူ
ဒေါ်သက်သက်ခိုင်

မြတ်ဆုမွန်စာပေထုတ်ဝေရေးလုပ်ငန်း
ခြံအမှတ်(၈/၉)၊ သန်လျင်ချဉ်းကပ်ဝါတားလမ်း၊
သာကေတအပိုင်းအနီး၊ ၁၀၈ တောင် ဘုရားရှေ့၊
၁၀–တောင်ရပ်ကွက်၊ သာကေတမြို့နယ်၊ ရန်ကုန်မြို့။
ဖုန်း–၀၁–၇၀၉၂၀၇၊ ၀၉၈၀–၃၁၇၂၄

ရန်ကုန်မြို့၊ ကမ္ဘာအေး၊ သာသနာရေးဝန်ကြီးဌာန
သာသနာရေးဦးစီးဌာနအတွက်
ဦးရှိန်ဘီး(မြဲ–၀၆၇၅၉) ဝင်းလိုက်မိတ်ပုံနှိပ်တိုက်
ပင်မရေတပ်စက်မှုလက်မှုတပ်၊ အောက်ပုဇွန်တောင်လမ်း၊
သန်လျက်စွန်း၊ ဗိုလ်တထောင်မြို့နယ်တွင် ရိုက်နှိပ်၍
ညွှန်ကြားရေးမှူး ဦးညွန့်မောင်
(မှတ်ပုံတင်အမှတ်–၀၃၈၄၃/၀၂၄၀၅)က ထုတ်ဝေသည်။


မာတိကာ

ဤပုံဝတ္ထုလေးဆယ်ပါဝင်သော စာအုပ်ငယ်ဖြင့်-

- ဇမ္ဗူဒီပုပ္ပတ္တိကထာကျမ်းကို မြန်မာဘာသာအက္ခရာဖြင့် ရှေးဦးပထမ ဖော်ထုတ်တော်မူခဲ့သော ကျေးဇူးရှင် အဂ္ဂမဟာပဏ္ဍိတ တောင်ပေါက် ဆရာတော်ဘုရားကြီး အရှင်စက္ကပါလမဟာထေရ်
- ဇမ္ဗူဒီပုပ္ပတ္တိကထာ ဤကျမ်းစာဖြစ်မြောက်ရေးအတွက် အားပေး ချီးမြှောက်တော်မူခဲ့သော ကျေးဇူးရှင် အဂ္ဂမဟာပဏ္ဍိတ အဘိဓဇမဟာ ရဋ္ဌဂုရု သပြေကန်ဆရာတော်ကြီး အရှင်ဝါသေဋ္ဌာဘိဝံသမဟာထေရ်
- ဇမ္ဗူဒီပုပ္ပတ္တိကထာကျမ်းလာပုံပြင်များကို နာဖွယ်မငြီး ပြောပြပြီးရင် ပြောပြကာ နားသွင်းခဲ့သော ကျေးဇူးရှင်ဖခင်ကြီးမော်လမြိုင်သခင်သန်း၊ (နိုင်ငံ့ဂုဏ်ရည်ပထမဆင့်)နှင့် မိခင်ကြီးဒေါ်သန်းသန်းမြင့်
- ပုံဝတ္ထုတို့၏အကျိုးရှိပုံကို ပုံသွန်းညွှန်ပြပေးခဲ့သော ကျေးဇူးရှင်ဦးလေး လူထုဦးလှနှင့် ဒေါ်ဒေါ်လူထုဒေါ်အမာ
- ဇမ္ဗူဒီပုပ္ပတ္တိကထာကျမ်းစာသမိုင်းကြောင်းကို သင်ကြားပို့ချပေးခဲ့သော ကျေးဇူးရှင်ဆရာဦးဗိုကေ (ပြဟ္မစာရီမွန်ဗိုကေ)
- ဤဇမ္ဗူဒီပုပ္ပတ္တိကထာကိုချဉ်းကပ်လေ့လာနိုင်ရန် ပါဠိစာပေကို သင်ကြား ပို့ချပေးခဲ့ကြသော အငြိမ်းစား ပါဠိကထိက ဆရာဦးကျော်ရှိန် (ထားဝယ်မြို့)၊ အငြိမ်းစားပါဠိပါမောက္ခ ဆရာဦးတင်လွင်၊ အငြိမ်းစား ပါဠိဌာနမှူး ဆရာဦးကိုကိုနှင့်ဆရာဦးဆန်းထွန်း(မန်းတက္ကသိုလ်)တို့အား လေးမြတ်ကော်ရော်ပူဇော်အပ်ပါသည်။

စာရေးသူ

## မာတိကာ

# မိတ်ဆက်

ဤ'ဥပုသ်သည်တို့ဖတ်ဖွယ် ပုံဝတ္ထုလေးဆယ်'သည် သီရိလင်္ကာနိုင်ငံ၌ ရှေးအခါက ဥပုသ်သည်များ သီတင်းသီလစောင့်သုံးနေကြခိုက်တွင် စာဖတ်ကောင်းသူတစ်ဦးက ဖတ်ပြသည်ကို ဝိုင်း၍နာယူခဲ့ကြသော ပုံဝတ္ထုများဖြစ်ပါသည်။ ဤဝတ္ထုများ၏မူရင်းကျမ်းစာမည်မှာ 'မဓုရရသဝါဟိနီ' ဖြစ်သည်။ 'ရသဝါဟိနီ'ဟုလည်း ခေါ်ကြပါသည်။

ထိုရသဝါဟိနီကျမ်းသည် ရှေးနှစ်ပေါင်းနှစ်ထောင်၊ ခရစ်နှစ်ဦးကာလကပေါ်ထွန်းခဲ့သည်ဟု သီရိလင်္ကာစာပေသမိုင်းကျမ်း၌ ပြဆိုထားပါသည်။*[၁] အဘိဓဇမဟာရဋ္ဌဂုရု ဘဒ္ဒန္တဝါလ်ပိုလာရာဟုလာ ဆရာတော်ကြီးကမူ 'ထိုရသဝါဟိနီကျမ်းတွင် သီရိလင်္ကာနိုင်ငံအနုရာဓမြို့ကို အုပ်ချုပ်သော သိရီနာဂမင်း (ခရစ် ၂၄၉–၂၆၈)အကြောင်း ဖော်ပြထားသည် ဖြစ်၍ သီရိလင်္ကာစာပေသမိုင်းလာ အထက်ပါအဆိုသည် အနည်းငယ် စောလွန်းနေပါသည်၊ ထိုရသဝါဟိနီကျမ်းကို ခရစ် ၃–ရာစုကာလအတွင်း ပေါ်ထွန်းသည်ဟုဆိုပါလျှင် မလွန်တန်ရာ'ဟု တင်ပြထားပါသည်။ *[၂] ဒေါက်တာရာဟုလာဆရာတော်ကြီး ညွှန်ပြသော ခရစ် ၃–ရာစုကို မြန်မာသမိုင်းကာလနှင့်ချိန်ညှိသော် ဟန်လင်း၊ သရေခေတ္တရာစသော ပျူနိုင်ငံများ တည်ထောင်စကာလဖြစ်လေသည်။ *[၃]

ရသဝါဟိနီကျမ်းကို အရှင်မဟာမဟိန္ဒ အစရှိသော ရှေးရဟန္တာ အရှင်မြတ်ကြီးများက ဒါယကာဒါယိကာမတို့ ဒါန,သီလစသော ကောင်းမှုကုသိုလ်တို့၏အကျိုးတရားများကို မျက်မှောက်ထင်ထင် သိမြင်ကြစေခြင်း

---

*[၁] Dr. Malalasekera' Pāli Literature of Ceylon. 1928. Page-225.

*[၂] W. Rāhula' History of Buddhism in Ceylon. 1956. Page-xxxix.

*[၃] ငြိမ်းကျော်၏ ငွေတောင်၊ ၁၉၇၃–၃။ စာမျက်နှာ–၅၁။

ငှာ သီရိလင်္ကာ၊ ဇမ္ဗူဒီပစသောမြို့ရွာများ၌ ဖြစ်ပျက်ခဲ့သောအဖြစ်အပျက် ဝတ္ထုချင်းရာတို့ကို စုရုံး၍ ရေးသားစီရင်ခဲ့သည်ဟု အမှတ်အသားရှိပါသည်။*၄ အရှင်မဟာမဟိန္ဒအစရှိသော ရှေးရဟန္တာမထေရ်ကြီးများသည် ရသဝါဟိနီကျမ်းကို သီရိလင်္ကာဘာသာဖြင့် ရှေးဦးပထမ ရေးသားတော်မူခဲ့ကြပါသည်။ သီရိလင်္ကာဘာသာကို မကျွမ်းကျင်သော ရဟန်းရှင်လူ သူတော်စင်တို့ လွယ်ကူစွာဖတ်ရှုနိုင်ရန်အတွက် သီရိလင်္ကာကျွန်း မဟာဝိဟာရကျောင်းတိုက် ဂုတ္တဝင်္ကပရိဝုဏ်နေ အရှင်ရဋ္ဌပါလမထေရ်မြတ်က ပါဠိဘာသာသို့ပြန်ဆိုခဲ့ပါသည်။ ထိုအရှင်ရဋ္ဌပါလ ပေါ်ထွန်းသောခေတ်ကို ပညာရှင်တို့ စုံစမ်းလေ့လာရာ အတိအကျမသိသေးပါ။*၅ ထိုအရှင်ရဋ္ဌပါလ ပြန်ဆိုသော ရသဝါဟိနီကျမ်းသည် ချွတ်ယွင်းမှုရှိသည့်အတွက် ခရစ် ၁၃–ရာစုတွင် ထင်ရှားခဲ့သော သာသနာပိုင်အရှင်ဝနရတနမေဓင်္ကရမထေရ်*၆ ၏တပည့် အရညဝါသီ အရှင်ဝေဒေဟက ပိုသန့်အောင် ပြုပြင်ပြီး ရသဝါဟိနီကျမ်းသစ်ကို ရေးသားခဲ့ပါသည်။ ထိုအရှင်ဝေဒေဟရေးသားသော ရသဝါဟိနီကျမ်းသစ်သည် ယခုအခါ ထင်ရှား၍ အသုံးများနေပါသည်။*၇ ဆရာကြီး ဦးဆန်းထွန်းက အရှင်ဝေဒေဟမထေရ် ပေါ်ထွန်းသောခေတ်ကို '၁၃–ရာစုအဆုံး၊ ၁၄–ရာစု အစပိုင်း'ဟုဖော်ပြထားပါသည်။*၈

---

*၄ အရှင်အာစရ၏ ရသဝါဟိနီဝတ္ထု၊ ၁၉၂၅–ခု။ နိဒါန်း။

*၅ D.P.P.N., Vol II, 1960. Page-708.

*၆ ဓိနစရိတကျမ်းနှင့် ပယောဂသိဒ္ဓိကျမ်းပြုဖြစ်သည်။ ထိုကျမ်းတို့ကို မြန်မာအက္ခရာဖြင့် ပုံနှိပ်ပြီးဖြစ်၏။

*၇ D.P.P.N., Vol II, Page-923. J. Matsumura' The Rasavāhinī of Vedeha Thera,1992, Page-xxix. Hinüber' A Handbook of Pāli Literature, 1992, Page-191.

*၈ ဦးဆန်းထွန်းအမှာ။ မြတ်ဆုမွန်မဂ္ဂဇင်း၊အတွဲ–၁၊အမှတ်–၁။၁၉၈၈–ခု။ စာမျက်နှာ–၅၃။

ထိုရသဝါဟိနီကျမ်းသည် မြန်မာနိုင်ငံသို့ ပုဂံခေတ်ကပင် ရောက်ရှိခဲ့သည်ဟု သမိုင်းပညာရှင်တို့ ယူဆခဲ့ကြပါသည်။*[၉] သို့ပါသော် ဂန္ထဝင်ကျမ်းစာရင်းပါသော ပုဂံကျောက်စာတစ်ချပ်တွင်*[၁၀] ရသဝါဟိနီကျမ်းကို ဖော်ပြမထားဘဲ (က)ဒသဝတ္ထု (ခ)သီဟဠဝတ္ထုနှင့် (ဂ)သဟဿဝတ္ထုတို့ကိုသာ ဖော်ပြထားပါသည်။*[၁၁] ထိုသုံးကျမ်းတို့တွင် (က)ဒသဝတ္ထု (ဒသဒါနဝတ္ထုပကရဏ)တွင် ပါဠိမိဿယ်ပါးကိုအခြေခံ၍ ရေးဖွဲ့ထားသော ဝတ္ထု (၇၇)ပုဒ်ပါရှိ၏။ မြန်မာနိုင်ငံ၌ ထိုဒသဝတ္ထုကျမ်းစာမူမရှိပါ။ (ခ)သီဟဠဝတ္ထုတွင် ဝတ္ထုအပုဒ်(၅၀)ပါရှိ၏။ ဝတ္ထုအပုဒ်(၂၀)သည် ဂါထာသက်သက်ဖြစ်၏။ ထိုကျမ်းစာမူသည်လည်း မြန်မာပြည်၌ မရှိပါ။ (ဂ)သဟဿဝတ္ထုသည် ဝတ္ထု(၁၀၁)ပုဒ်ပါရှိပြီး ခရစ်-၉၀၀ ပြည့်နှင့် ခရစ် ၁၂၅၀-အတွင်း သီရိလင်္ကာကျွန်း၌ ပေါ်ထွန်းခဲ့သည်ဟု ယူဆခဲ့ကြ၏။ ထိုကျမ်းစာမူသည်လည်း မြန်မာပြည်၌မရှိပါ။ ထိုသဟဿဝတ္ထုကျမ်းပါ ဝတ္ထုအချို့ကို ရသဝါဟိနီ၌ တွေ့ရ၏။*[၁၂]

ရသဝါဟိနီကျမ်း၌ ပုံဝတ္ထု(၁၀၃)ပုဒ်ပါရှိပြီး ဝတ္ထုအပုဒ်(၆၂)ပုဒ်သည် သီရိလင်္ကာနိုင်ငံ (ရှေးအခေါ် သီဟဠကျွန်း၊ လင်္ကာဒီပကျွန်း)၌ ဖြစ်ပျက်ခဲ့သောအကြောင်းအရာများကို ဖော်ပြထားသဖြင့် ထိုဝတ္ထုတို့ကို 'လင်္ကာဒီပရသဝါဟိနီ'တစ်နည်း'သီဟဠဒီပုပ္ပတ္တိကထာ'ဟု ခေါ်ဆိုခဲ့ကြသည်။ ကျန်ဝတ္ထုအပုဒ် (၄၀)တို့မှာ အိန္ဒိယနိုင်ငံ (ရှေးအခေါ် ဇမ္ဗူဒီပ၊ ဇမ္ဗူဒိပ်ကျွန်း)၌ဖြစ်ပျက်ခဲ့သော အကြောင်းအရာများဖြစ်၍ ထိုဝတ္ထုတို့ကို ဇမ္ဗူဒီပုပ္ပတ္တိကထာဟု ခေါ်တွင်ခဲ့ကြသည်။

---

*[၉] U Pe Maung Tin' Buddhism In The Inscriptions of Pagan. BRSFAP, Vol.II, 1960, Page-430. Dr.Than Tun' Buddhism In Burma.JBRS, Vol. LXI, 1978. Page-86.

*[၁၀] ခရစ် ၁၄၄၂-ခုနှစ်ထိုး တက်နွဲကျောင်းကျောက်စာကို ဆိုလိုသည်။

*[၁၁] Bode' The Pāli Literature of Burma 1956.Page-104.

*[၁၂] Hinuber' A Handbook of Pāli Literature. Page-189.

လက်ာဒီပရသဝါဟိနီဝတ္ထု(၆၃)ပုဒ်သည် မြန်မာဘာသာဖြင့် ရှေးကာလကပင် ရှိခဲ့ပါသည်။ ပိဋကတ်သမိုင်းစာတန်းအရ ပုဂံခေတ်က ထင်ရှားခဲ့သော အရှင်ဝဇိရပဘာသမထေရ်၏ လက်ာဒီပ ရသဝါဟိနီကျမ်း မြန်မာပြန်ရှိခဲ့ပြီး၊ ထိုကျမ်းသည် ဒီမိုင်းစာမျက်နှာ(၈၁၁)ပါရှိ၍ ၁၉၁၁–ခုနှစ်၌ ရန်ကုန်မြို့၊ ဟံသာဝတီသတင်းစာပုံနှိပ်တိုက်က ပထမအကြိမ်၊ ၁၉၂၇–ခု၌ မန္တလေးမြို့၊ ဟံသာဝတီပိဋကတ်စာပုံနှိပ်တိုက်က ဒုတိယအကြိမ် နှစ်ကြိမ်ရိုက်နှိပ်ခဲ့ပါသည်။ ထိုမြန်မာပြန်လက်ာဒီပဝတ္ထုကျမ်းတွင် ပုံဝတ္ထု(၆၀)သာပါရှိ၏။ ၁၉၈၉–ခုနှစ်တွင် ဆရာကြီးဒဂုန်ဦးစန်းငွေ၏ လက်ာဒီပဝတ္ထု(၆၀)ကျမ်းကို စပယ်ဦးစာပေမှ ပုံနှိပ်ထုတ်ဝေခဲ့ပါသည်။

ဤစာအုပ်တွင် ဖော်ပြထားသောဇမ္ဗုဒီပုပ္ပတ္တိကထာပုံဝတ္ထုလေးဆယ်တို့ကို သီကျွမ်းသူနည်းပါးသည်။ ဇမ္ဗုဒီပုပ္ပတ္တိကထာကျမ်းနှင့် စပ်လျဉ်း၍ စုဆောင်းရသမျှကိုတင်ပြရလျှင် ရွှေကျင်မြို့၊ ချောင်းတောင်ဘက် ဒက္ခိဏာရာမတိုက် အရှင်အာစရ၏ ရသဝါဟိနီဝတ္ထု (ဇမ္ဗုဒီပုပ္ပတ္တိကထာ)ကျမ်း မြန်မာပြန်ကို ၁၉၂၅–ခု၊ ရန်ကုန်မြို့၊ မြန်မာအမျိုးသား စာပုံနှိပ်တိုက်က ရိုက်နှိပ်ခဲ့ပါသည်။ ထိုဇမ္ဗုဒီပုပ္ပတ္တိကထာကျမ်း၏မူရင်းပါဠိကို သီဟဠအက္ခရာမှ မြန်မာအက္ခရာသို့ မော်လမြိုင်မြို့ တောင်ပေါက်ဆရာတော်ကြီး၏ အမိန့်အရ ဦးဇနိန္ဒက အက္ခရာဖလှယ်ပြီး ၁၉၃၀–ပြည့်၊ ရန်ကုန်မြို့၊ သုဓမ္မဝတီပုံနှိပ်တိုက်တွင် ရိုက်နှိပ်ခဲ့ပါသည်။ တောင်ပေါက်ဆရာတော်ကြီးသည် ထိုကျမ်းလာဝတ္ထုအပုဒ်လေးဆယ်ကို မော်လမြိုင်မြို့၊ ပရိယတ္တိသဒ္ဓမ္မပါလအသင်းစာမေးပွဲ၌ ပြဌာန်းတော်မူခဲ့၍ ထိုစဉ်အခါက တောင်ပေါက်ကျောင်းတိုက်တွင် အနက်အဓိပ္ပါယ်ကိုပါ ချပို့ပေးတော်မူပါသည်။ တောင်ပေါက်ဆရာတော်ပို့ချသော ချနက်တို့ကို ဝတ္ထုဆယ်ပုဒ်လျှင် တစ်အုပ်ကျ ရသဝါဟိနီ ချနက်နိဿယ(၄)အုပ်ကို (၁၃၂၄–ခု၊၁၃၂၅–ခု၊ ၁၃၄၁–ခု၊ ၁၃၄၂–ခုနှစ်တို့တွင်) မော်လမြိုင်မြို့၊ မြန်မာတိုင်း စာပုံနှိပ်တိုက်က ရိုက်နှိပ်ခဲ့ပါသည်။ ၁၉၈၈–ခုနှစ်၊ မြတ်ဆုမွန်မဂ္ဂဇင်းတွင်

ထိုပုံဝတ္ထုလေးဆယ်မှ (က)မိဂလုဒ္ဒကဝတ္ထု၊ (ခ)ဗုဒ္ဓေနီဝတ္ထု၊ (ဂ)အဟိတုဏ္ဍိကဝတ္ထု၊ (ဃ)သရဏတ္ထေရဝတ္ထုနှင့် (င)ဝေဿာမိတ္တာဟု ဝတ္ထု(၅)ပုဒ်ကို ဆရာကြီးဦးဆန်းထွန်း (မန်းတက္ကသိုလ်)က မြန်မာပြန်ဆိုရေးသားခဲ့ပါသည်။

ရသဝါဟိနီကျမ်းသည် မူလသီဟဠဘာသာ၊ နောက်ပါဠိဘာသာတို့ဖြင့် ရေးသားခဲ့သောကြောင့် ရသဝါဟိနီကျမ်းဆိုင်ရာ အဖွင့်ဋီကာ၊ ဂဏ္ဌိကျမ်းများကိုလည်း သီဟဠဘာသာ၊ ပါဠိဘာသာတို့ဖြင့် ပြုစုရေးသားပြီး ရှိနေပါသည်။ ထင်ရှားသောအဖွင့်ကျမ်းများမှာ ၁၉၀၇–ခုနှစ် ကိုလံဘိုရိုက် ရသဝါဟိနီဋီကာ၊ ရှင်သိဒ္ဓတ္ထ၏ သာရတ္ထဒီပိကာခေါ် ရသဝါဟိနီသီဟဠဋီကာ၊ ရှင်သုပတိပါလနှင့် အရှင်သီလက္ခန္ဓတို့၏ ရသဝါဟိနီဂဏ္ဌိပဒတ္ထဝိဝရဏ တို့ဖြစ်ကြပါသည်။

ရသဝါဟိနီကျမ်းကို ဥရောပ၌ ၁၉၁၈–ခုနှစ်က ဂျာမန်ဘာသာဖြင့် ရေးဦးပုံနှိပ်ခဲ့၏။*[၁၃] ထိုကျမ်းကို အိန္ဒိယနိုင်ငံ၌ ၁၉၈၈–ခုတွင် အင်္ဂလိပ်ဘာသာသို့ပြန်ဆို၍ ပုံနှိပ်ခဲ့သည်။ ရသဝါဟိနီကျမ်းကို သီရိလင်္ကာနိုင်ငံ၌ ၁၉၁၃–ခုနှစ်နှင့် ၁၉၂၀–ပြည့်နှစ်တို့တွင် နှစ်အုပ်ခွဲ၍ ပုံနှိပ်ခဲ့သည်။ ဂျပန်နိုင်ငံ အိုဆာကာမြို့၌ ၁၉၉၂–ခုနှစ်တွင် ပါမောက္ခမတ်ဆုမုရက ရသဝါဟိနီဝတ္ထုအပုဒ်(၂၀)ကို ထုတ်နုတ်ပြီးပုံနှိပ်ခဲ့ပါသည်။

စာရေးသူ၏မိဘတို့သည် မော်လမြိုင်မြို့၌နေထိုင်ကြပြီး တောင်ပေါက် ကျောင်းဒကာအနွယ်၊ ပရိယတ္တိသဒ္ဓမ္မပါလအသင်းလူကြီးများဖြစ်ကြ၍ ရသဝါဟိနီဇမ္ဗုဒီပုပ္ပတ္တိကထာလာပုံဝတ္ထုများနှင့် ရင်းနှီးကျွမ်းဝင်ကြသူများဖြစ်သည့်အားလျော်စွာ ထိုပုံဝတ္ထုများကို မိဘများပြောပြ၍ စာရေးသူ အလွန်ငယ်ရွယ်စဉ်အခါကပင် နာ၍မငြီး နားထောင်ခွင့်ရခဲ့ပါသည်။ မန္တလေးတက္ကသိုလ် အရှေ့တိုင်းပညာဌာန၌ ပညာသင်နေစဉ် ပုဂံမြို့

*[၁၃] M.und W. Geiger' Die Zweite Dekade de Rasavāhinī, Munchen, 1918.

ဆရာဦးဗိုကေထံမှ ထိုရှသဝါဟိနီကျမ်း၏ စာပေဂုဏ်မြောက်ပုံနှင့်တကွ ကျမ်းစာသမိုင်းကိုပါ လေ့လာဆည်းပူးခွင့်ရခဲ့ပါသည်။ ၁၉၈၄–ခု၊ ရတနာ မွန်မဂ္ဂဇင်း၌ တာဝန်ယူစဉ်အခါ အယ်ဒီတာချုပ်ဖြစ်သူဆရာကြီး ဒဂုန် ဦးစန်းငွေနှင့်လည်းကောင်း၊ ပခုက္ကူအရှင်ကေလာသနှင့် လည်းကောင်း၊ မိတ်ဆွေကိုမောင်မောင်ကြီး(စာရေးဆရာငြိမ်းကျော်)နှင့်လည်းကောင်း ထိုကျမ်းအကြောင်းကို များစွာနှီးနှောခွင့်ရခဲ့ပါသည်။ ၁၉၈၈–ခု၊ မြတ်ဆုမွန် မဂ္ဂဇင်းထုတ်ဝေသောအခါ၌ဆရာကြီးဦးဆန်းထွန်းနှင့် ထိုကျမ်းအကြောင်း ကို ပို၍နှီးနှောခွင့်ရကာ ပတ်ပတ်နပ်နပ်သိခဲ့ရပါသည်။

ဤဥပုသ်သည်တို့ဖတ်ဖွယ် ပုံဝတ္ထုလေးဆယ်စာအုပ်ကို ပြီးမြောက် အောင်မြင်အောင် ကူညီကြသူများအားလုံးကို ကျေးဇူးတင်ပါ၏။ အထူး အားဖြင့် ဤကျမ်းစာပြုစုနိုင်ရန် လမ်းအခွင့်ပေးတော်မူခဲ့သော သပြေကန် ဆရာတော်ဘုရားကြီးကို အထူးကျေးဇူးတင်ပါ၏။ ဤကျမ်းစာပြုစုနေစဉ် မိမိ၏ဒုလ္လဘရဟန်းဘဝကို ပံ့ပြင်ထိန်းသိမ်း၍ လိုအပ်သမျှ ထောက်ပံ့ပေး တော်မူခဲ့သော ဥပဇ္ဈာယ်ဆရာတော် (ရန်ကုန်မြို့၊ ပုဇွန်တောင် ရွှေကျင် ကျောင်းတိုက် ပဓာနမဟာနာယကဆရာတော်)ကိုလည်း ကျေးဇူးတင် ဦးခိုက်ပါ၏။ ဇမ္ဗူဒီပုပ္ပတ္တိကထာပါဠိ (သုခမ္မဝတီမူ)ကို ငှားရမ်းသူ ဆရာ ဦးကျော်လှိုင် (တိ=နိဥပဋ္ဌာကအဖွဲ့)၊ ဇမ္ဗူဒီပုပ္ပတ္တိကထာပါဠိ ချနက်နိသသယ (တောင်ပေါက်မူ)တို့ကို ငှားရမ်းသူ ဓမ္မာစရိယ(ဘီ၊အေ)ဆရာကြီးဦးအေးနိုင် (မဟာသဒ္ဓမ္မဇောတိကဓဇ)၊ဤကျမ်းစာပြီးမြောက်ရန် တိုက်တွန်း၍ လိုအပ် သမျှ ဖြည့်ဆည်းဆောင်ရွက်ပေးကြသော မောင်ဝင်းညွန့်၊ ရွှေမိနှင့် ဦးအေးသန်း(အောင်ဥက္ကလာကွန်ပျူတာ)တို့အား အထူးကျေးဇူးတင်ရပါ သတည်း။ ။

ဤကျမ်း၌ သတိလွတ်ကင်း မေ့လျော့ခြင်းကြောင့်သော်လည်း ကောင်း၊ အထင်မှားယွင်း ဉာဏ်နုံ့ခြင်းကြောင့်သော်လည်းကောင်း မသင့်သောစကားကို ရေးခဲ့မိပါမူ၊ ထိုသတိလွတ်ကင်း ဉာဏ်နုံ့ခြင်းကြောင့်

မှားယွင်းချွတ်ဆို ရေးသားမိသောစကားတို့ကို အမှန်လိုလား သနားကရုဏာ ရှိကုန်သော သိမြင်ကျိုးကြောင်း သင်သူတော်ကောင်းတို့သည် မိမိရေးသား သောစာကဲ့သို့ ပြုပြင်၍သာ ဖတ်ရှုနာယူတော်မူကြပါဟု တောင်းပန်စကား ဆိုပါ၏။ ။



# ဘီလူးအစားခံ၍ တရားရှာသူ

[၁။ ဓမ္မသောဏ္ဍကဝတ္ထု]

ဤဘဒ္ဒကမ္ဘာ၌ ကဿပမြတ်စွာဘုရားသည် လောကအကျိုးငှာ ပွင့်တော်မူခဲ့ပြီး လူနတ်ဗြဟ္မာသတ္တဝါတို့အား သံသရာဝဋ်ဆင်းရဲမှ ကယ် ထုတ်တော်မူ၍ နေမင်းကြီးဝင်သွားသည့်အလား ပရိနိဗ္ဗာန်စံဝင်တော်မူခဲ့ ပါသည်။ ကဿပမြတ်စွာဘုရားရှင် မဟာပရိနိဗ္ဗာန်စံဝင်တော်မူပြီးသည့် နောက်ကာလ၌ ထိုကဿပဘုရားရှင်၏ အဆုံးအမသာသနာတော်သည် လည်း ကွယ်ပျောက်ခြင်းသို့ ရောက်ခဲ့လေသည်။

ဤသို့ ကဿပဘုရားရှင်၏ သာသနာတော် ကွယ်ပသောအချိန်ကာလ တွင် ဂေါတမမြတ်စွာဘုရားအလောင်းတော်သည် ဗာရာဏသီပြည့်ရှင် ဘုရင်မင်းကြီး၏ အဂ္ဂမဟေသီဒေဝီမိဖုရားကြီးဝမ်း၌ ပဋိသန္ဓေစွဲယူနေခဲ့ လေသည်။ ထိုဘုရားလောင်းသတို့သား ဖွားမြင်သောအခါ၌ တိုင်းသူ ပြည်သား လူအများတို့သည် တရားဓမ္မကိုသာ စိတ်ပါဝင်စား အမှတ်ရနေ ကြသည်ဖြစ်သဖြင့် ထိုမွေးဖွားလာသော မင်းသားငယ်ကို ဓမ္မသောဏ္ဍက မင်းသားဟု အမည်မှည့်ခဲ့ကြ၏။ ဓမ္မသောဏ္ဍကမင်းသား အရွယ်ရောက် သောအခါ အိမ်ရှေ့မင်းအဖြစ် ချီးမြှောက်ခြင်းခံရပြီး၊ ဒါနစသောကုသိုလ် ကောင်းမှုတို့ကိုဖြည့်ကျင့်လျက် ခမည်းတော်မင်းကြီး နတ်ရွာစံသောအခါ ဗာရာဏသီပြည့်ရှင်မင်းအဖြစ်သို့ ရောက်ရှိတော်မူခဲ့သည်။

ဓမ္မသောဏ္ဍကသည် မင်းအဖြစ်သို့ရောက်တော်မူ၍ တစ်လခွဲခန့် ကြာသောအခါ ကျက်သရေအပေါင်းနှင့်ပြည့်စုံသော နန်းမဆောင်အလယ်၌ မင်းစည်းစိမ်ကိုခံစားရင်း 'ငါသည် မင်းစည်းစိမ်ကို ခံစားနေရပါသော်လည်း ကဿပဘုရားရှင်ဟောကြားသောတရားဓမ္မကို မနာကြားရသည့်အတွက်

နေမရှိသော ကောင်းကင်ကဲ့သို့ မတင့်တယ်ပါတကား'ဟု စဉ်းစားတွေးတောနေမိ၏။ ပြီးလျှင် ဓမ္မသောဏ္ဍကမင်းကြီးသည် အောက်ပါအတွေးစဉ်များ အလျဉ်မပြတ် တွေးတောနေမိပြန်လေသည်။

'ငါသည် ရှေးဘဝက သီလစသောကောင်းမှုတို့ကို ကြိုးစားအားထုတ်ခဲ့၍ ယခုဘဝတွင် သိကြားမင်းစည်းစိမ်နှင့်တူသော ဤဗာရာဏသီမင်းစည်းစိမ်ကိုရခဲ့ပြီ။ ဤသို့သော မင်းစည်းစိမ်ကိုရသဖြင့် နား၏အရသာဖြစ်သော ဂီတသံများ၊ နှာခေါင်း၏အရသာဖြစ်သော အမွှေးနံ့သာအမျိုးမျိုး၊ လျှာ၏အရသာဖြစ်သော ချိုချဉ်ရသာ အမယ်မယ်သောစားဖွယ်ရာများ၊ မျက်စိ၏အရသာ ရှုချင့်ဖွယ်အရွယ်ရွယ်အစားစား ပသာဒများနှင့် ပန်းချီကားအမျိုးမျိုး၊ ကိုယ်၏အရသာဖြစ်သော ပိုးဖဲကတ္တီပါတို့မှစ၍ တိမ်းမပ်ဖွယ်ရာ အထိအတွေ့များတို့သည်လည်း လိုလေသေးမရှိ ပြည့်စုံခဲ့လေပြီ။ ဤစည်းစိမ်တို့၌ နစ်မွန်းမွေ့လျော်ကာ မေ့လျော့နေရန်မသင့်။

'မြတ်စွာဘုရားရှင်ဟောကြားတော်မူခဲ့သည့် တရားတော်မြတ်ကို ဟောကြားနိုင်သူရှိပါမူ ထိုသူအား ဥစ္စာပစ္စည်းအမျိုးမျိုးကိုဖြစ်စေ၊ ငါ၏စည်းစိမ်ဥစ္စာကိုဖြစ်စေ၊ ကိုယ်လက်အင်္ဂါကိုဖြစ်စေ၊ နောက်ဆုံးအသက်ကိုဖြစ်စေ ပေးအပ်ရန် ငါဝန်မလေး။ တရားနှင့်ကင်း၍ မင်းစည်းစိမ်ခံစားနေရခြင်းသည် နေမင်းကင်းသောကောင်းကင်ကဲ့သို့၊ လရောင်ကင်းမဲ့သော ညဉ့်ကဲ့သို့၊ အစွယ်မှကင်းသောဆင်ကဲ့သို့၊ အပိုင်းအခြားကမ်းမရှိသော သမုဒ္ဒရာကဲ့သို့၊ ဝတ်လဲတော်ပုဆိုးအဟောင်းကိုဝတ်ထားသော ရှင်ဘုရင်ကဲ့သို့ မတင့်တယ်ပါတကား။

'ငါသည် တရားဓမ္မကိုသာလျှင် နာကြားလိုတော့သည်၊ ငါ၏စိတ်သည်လည်း တရားဓမ္မ၌ မွေ့လျော်လိုတော့သည်၊ ဤလောက၌ တရားထက်မြတ်သောအရာသည် ဘာမျှမရှိ။ လူနတ်နိဗ္ဗာန်သုံးတန်သော ချမ်းသာကို ပေးစွမ်းနိုင်သော ထိုတရားတော်မြတ်သည်သာ လောက၌ အမြတ်ဆုံးပါတကား'။

ဤသို့လျှင် တရားတော်ကို အလွန်အမင်းနာလိုသောဆန္ဒဖြစ်တော်မူပြီးနောက်၊ နံနက်စောစော နန်းမဆောင်အတွင်းမှ ထွက်တော်မူလာပြီး ရာဇပလ္လင်ထက် ထီးဖြူတော်အောက်ဝယ် မင်းပရိသတ်အလယ်၌ နတ်မင်းကြီးပမာ တင့်တယ်စွာ စံနေတော်မူခဲ့၏။ မင်းမှူးမတ်ပရိသတ်စုံညီသောအခါ ဓမ္မသောဏ္ဍကမင်းကြီးက 'အို...အမတ်အပေါင်းတို့၊ အခု စည်းဝေးလာကြတဲ့ မှူးကြီးမတ်ရာသေနာပတိတွေထဲမှာ ကဿပမြတ်စွာဘုရားရှင်ဟောကြားတော်မူခဲ့တဲ့ တရားတော်တစ်ပုဒ်တစ်ဂါထာကို သိရှိသူရှိပါသလား၊ ရှိခဲ့လျှင် အဲဒီတရားဂါထာကို ဟောကြားစမ်းပါ၊နာယူပါရစေ' ဟု မိန့်ကြားတော်မူ၏။ မင်းကြီး၏စကားကိုကြားကြသော မှူးမတ်ပရိသတ်တို့သည် မြတ်စွာဘုရားရှင်၏ တရားဓမ္မဆို၍ တစ်ဂါထာတစ်ပါဒမျှပင် မသိရှိကြသည့်အတွက် မျက်နှာမသာမယာဖြင့် 'အရှင်မင်းကြီး၊ မြတ်စွာဘုရားရှင် ဟောကြားတော်မူခဲ့တဲ့တရားတော်ကို အကျွန်ုပ်တို့ မသိကြရိုးအမှန်ပါ'ဟု ဝန်ခံစကား ပြောကြားကြလေ၏။

ထိုအခါ ဓမ္မသောဏ္ဍကမင်းကြီးသည် စိတ်နှလုံးညှိုးချုံးပြီး တရားဓမ္မဟောပြနိုင်မည့်သူကို ငါရအောင်ရှာမည်ဟူ၍ကြံစည်ကာ မင်္ဂလာဆင်တော်ထက်၌ အသပြာတစ်ထောင်ထုပ်ကို တင်ထားစေပြီး တရားတစ်ပုဒ်တစ်ဂါထာ ဟောနိုင်သူရှိပါက ဤဆုလာဘ်တော်ကို ယူစေဟု မြို့တော်တွင်းသို့ လှည့်လည်ကြေညာစေခဲ့၏။ တစ်နေကုန်၍ ဆင်တော်သာ နန်းတွင်းသို့ပြန်လည်ရောက်လာသည်၊ တရားဟောနိုင်သူကား မပေါ်ပေါက်ခဲ့ပေ။ နောက်တစ်နေ့၌ အသပြာ ၂၀၀၀၊ နောက်တစ်နေ့၌အသပြာ ၃၀၀၀၊ နောက်တစ်နေ့၌ အသပြာ ၄၀၀၀၊ နောက်တစ်နေ့၌ အသပြာ ၅၀၀၀ စသည်ဖြင့် အသပြာငွေတစ်ကုဋေတိုင်အောင် ဆုတော်ငွေတိုး၍တိုး၍ ဆင်ထက်တင်ပြီး လှည့်လည်စေခဲ့၏။ လေးပါဒတစ်ဂါထာပါရှိသော တရားတစ်ပုဒ်ကို ဟောနိုင်စွမ်းရှိသူကား မပေါ်ပေါက်ခဲ့ပေ။

ထိုအခါ တရားဟောနိုင်ပါက ရွာသူကြီးအရာ၊ သူဌေးကြီးအရာ၊

စစ်သူကြီးအရာ၊ အိမ်ရှေ့မင်းအရာ နောက်ဆုံး၌ ဓမ္မာသောဏ္ဍကမင်းကြီးသည် မိမိ၏မင်းစည်းစိမ်အရာကိုပါ ပေးအပ်မည်ဟု တရားတစ်ပုဒ်တစ်ပါဒ ဟောနိုင်သူ ပေါ်ပေါက်စေရန် လှည့်လည်ရှာဖွေခဲ့၏။

မည်သို့ပင် ဥစ္စာစည်းစိမ်တို့ကို ပုံ၍ပေးစေကာမူ တရားဟောတတ်သောပုဂ္ဂိုလ်ကို ရှာ၍မရသောအခါ ဓမ္မာသောဏ္ဍကမင်းကြီးသည် ထိတ်လန့်သံဝေဂဖြစ်ပြီးလျှင် ငါသည် တရားဓမ္မနှင့်ကွေကွင်း၍ မင်းပြုနေခြင်းဖြင့် ဘယ်မှာအကျိုးရှိပါအံ့နည်း၊ အမတ်တို့အား တိုင်းပြည်ကိုအပ်ပြီး တရားဟောနိုင်သောသူကို ရှာဦးမည်ဟုဆိုကာ မြို့ရွာမနီးတောကြီးတွင်းသို့ ဝင်ရောက်ပြီး တရားဟောနိုင်သော ပုဂ္ဂိုလ်ကို ရှာပုံတော်ဖွင့်ခဲ့ပြန်လေသည်။

ဤသို့ ဓမ္မသောဏ္ဍကမင်းကြီး တရားဟောပုဂ္ဂိုလ်ကို ရှာဖွေရန် တောကြီးအတွင်းသို့ ဝင်သောခဏ၌ မင်းကြီး၏တရားနာလိုလှသည့် ဆန္ဒတော်မြတ်ကောင်းမှုအရှိန်အစော်ကြောင့် တာဝတိံသာနတ်ပြည်၌ စံနေသော သိကြားမင်း၏ ပဏ္ဍုကမ္ဗလာကျောက်နေရာသည် အလိုအလျောက် ပြင်းစွာပူလာခဲ့၏။ သိကြားမင်းသည် မိမိနေရာ၏ ပူပြင်းရခြင်းအကြောင်းကို စုံစမ်းသောအခါ လူ့ပြည်၌ ဓမ္မသောဏ္ဍကမင်းကြီး တရားတော်ကို နာယူလိုသောကြောင့် တရားဟောတတ်သူကို စည်းစိမ်ဥစ္စာနှင့် အသက်ပါနှင်း၍ ဇမ္ဗူတစ်ခွင်၌ လှည့်လည်ရှာဖွေနေပုံကို သိမြင်လေသည်။

သိကြားမင်းက ဓမ္မသောဏ္ဍကမင်းသည် ဤဘဒ္ဒကမ္ဘာမှာ ဧကန်ဘုရားဖြစ်မည့် ဘုရားလောင်းအရင့်အမာပုဂ္ဂိုလ်မြတ်ဖြစ်သည်။ ထိုသို့သော အလောင်းတော်မြတ်ပုဂ္ဂိုလ်၌ဖြစ်နေသော အာသီသကို ငါဖြည့်ရမည်။ ထိုဘုရားလောင်းပုဂ္ဂိုလ် ကိုယ်စိတ်နှစ်ပါး ဆင်းရဲစေရန် မပြုသင့်ဟု ကြံစည်ပြီးလျှင် ဓမ္မသောဏ္ဍကမင်း၏ တရားနာလိုသောအလိုဆန္ဒ ပြည့်ဝစေရန် မိမိ၏သိကြားမင်းအသွင်ကိုစွန့်၍ အလွန်ကြောက်မက်ဖွယ်ကောင်းသော ဘီလူးကြီးအသွင်ကိုယူပြီး ဘုရားလောင်းမင်းကြီးရောက်ရှိရာအရပ်နှင့် မနီးမဝေးကနေ၍ ကိုယ်ထင်ပြလေသည်။



ဘုရားလောင်းဓမ္မသောဏ္ဍကမင်းကြီးသည် မိမိထိုင်ရာနှင့်မနီးမဝေး၌ အစွယ်ပြူးပြူး မျက်လုံးပြောင်ပြောင်နှင့် အလွန်တရာကြောက်ဖွယ်ကောင်းသော ဘီလူးကြီး၏အသွင်ကို မြင်ပါသော်လည်း တရားနာလိုစိတ်ကြီးမားလှသဖြင့် ကြောက်လန့်ရကောင်းမှန်းမသိနိုင်ဘဲ ထိုဘီလူးကြီးထံမှ တရားနာခွင့်ရလျှင်ကောင်းမှာပဲဟု စိတ်ကူးကြံစည်ပြီး၊ ဘီလူးကြီးကိုပင် 'သင်ဘီလူး၊ ငါဟာ ပြည့်စည်းစိမ်နဲ့ ဆွေတော်မျိုးတော်အပေါင်းကို စွန့်ပြီး တရားတော်ကိုရှာဖွေရန် ဒီတောအတွင်းသို့ရောက်ခဲ့ရသူဖြစ်ပါတယ်။ သင်ဟာ ကဿပမြတ်စွာဘုရား ဟောကြားတဲ့တရားတော်ကို နာဖူးပါသလား၊ မြတ်စွာဘုရားဟောကြားတဲ့ တရားတော်များမှ တစ်ပုဒ်တစ်ဂါထာမျှ သိပါသလား၊ သင်သိခဲ့လျှင် ငါ့ကိုပြန်ပြီး ဟောကြားစမ်းပါ' ဟု တောင်းပန်ပြောကြားလေသည်။ ဘီလူးက'ငါ့မှာ အရသာအမျိုးမျိုးတို့တွင် အထူးအမြတ်ဆုံးဖြစ်တဲ့ မြတ်စွာဘုရားဟောကြားခဲ့တဲ့ တရားဂါထာတစ်ပုဒ်ကိုတော့ သိပါတယ်၊ ဒါပေမယ့် ငါက သင့်အား အဲဒီတရားဂါထာတစ်ပုဒ်ကို ဟောပြောခဲ့လျှင် သင်ကရော တရားတော်ကို ပူဇော်တဲ့အနေဖြင့် ဓမ္မကထိကဖြစ်တဲ့ ငါ့ကို ဘယ်လိုပစ္စည်းနဲ့ ပြန်လည်ပူဇော်မှာလဲ'ဟု မေးလေသည်။

ထိုအခါ ဓမ္မသောဏ္ဍကမင်းကြီးက 'ငါဟာ ဘုရင်တော့ဘုရင်ပါပဲ၊ နန်းတော်ကြီးမှာနေတဲ့အချိန်ကဆိုရင်တော့ သင်လိုတာအားလုံး ပြည့်စုံအောင် စီမံပေးနိုင်ပါတယ်။ ခုတော့ ငါတစ်ယောက်ထဲ ဒီတောကြီးထဲရောက်နေတာဖြစ်လို့ တရားတော်ကိုပူဇော်ဖို့ရာ ငါ့ရဲ့အသွေးအသား ကိုယ်ခန္ဓာပဲရှိပါတယ်။ တကယ်လို့ သင်ဘီလူးမင်းက ငါ့ရဲ့အသွေးအသားကိုပဲ အလိုရှိပါတယ်ဆိုရင်လဲ ပေးအပ်ဖို့အသင့်ရှိပါတယ်။ ငါ့အား ဗုဒ္ဓမြတ်စွာရဲ့တရားတော်ကို ဟောပေးပါ'ဟုဆိုလေသည်။ ထိုအခါ ဘီလူးက 'ငါကလဲ သင်ရဲ့အသားကိုစားပြီး အားအင်ပြည့်ဖြိုးလာတော့မှ တရားကိုဟောနိုင်လိမ့်မယ်၊အလွန်ဆာလောင်နေတာဖြစ်လို့ တရားဟောနိုင်ဖို့ အားအင်ပင်မရှိပါ'ဟုပြောပြန်သည်။

ဓမ္မသောဏ္ဍကမင်းကြီးက 'သင့်ကို အရင်စားစေပြီးမှ သင်ဟောသော တရားကို နာယူရမည်ဆိုရင်တော့ သင့်ရဲ့တရားကို ငါနာရတော့မှာ မဟုတ်ဘူး။ သင်ကလဲ ငါ့အသားကိုစားရလေအောင် ငါကလဲ သင့်ရဲ့တရားကို နာရလေအောင် ဆောင်ရွက်နိုင်ဖို့အကြံပေးပါ'ဟု ပြောကြားလေသည်။ ထိုအခါ ဘီလူးမင်းက ထိုနေရာ၏အနီး၌ သုံးဂါဝုတ်အစောက်မြင့်သော တောင်တစ်လုံးကိုဖန်ဆင်းပြီး ဓမ္မသောဏ္ဍကမင်းကြီးသည် ထိုတောင်ထက်မှနေ၍ ဘီလူး၏ခံတွင်းထဲသို့ ခုန်ချလိုက်ရန်ဖြစ်သည်။ တောင်ထက်မှ ဘီလူးခံတွင်းဝသို့ မင်းကြီး ခုန်ချနေစဉ် ဘီလူးမင်းက တရားတစ်ပုဒ် တစ်ဂါထာကို ဟောပြောရန် အကြံပေးလေသည်။

ဘီလူးမင်း၏အကြံကို မင်းကြီးက သဘောကျလက်ခံလိုက်ပြီး မင်းကြီးက 'သင်ရဲ့အကြံဟာ နှစ်ဦးစလုံးအတွက် ကောင်းလှပါတယ်၊ ငါလည်း တရားနာရမယ်၊ သင်လည်း ငါ့အသားစားရမယ်'ဟုဆိုလေ၏။ မင်းကြီးသည် ထိုအကြံကိုလက်ခံပြီးနောက် ဤသို့ စဉ်းစားခဲ့၏။

အစမထင် ကျင်လည်ရသော သံသရာဘဝတို့တွင် သစ်ပင်ထက်တက်၍ ကြိုးဆွဲချသေသူ၊ မြစ်ကမ်းပါးချောက်ကမ်းပါးကခုန်ချ၍သေသူ၊ ကိုယ့်လည်ကိုယ်လှီး၍သေသူ၊ အဆိပ်စား၍သေသူ၊ ဖျားနာ၍သေသူ၊ ရာသီဥတုဒဏ်ကြောင့်သေသူ၊ သတ္တဝါတို့ ကိုက်ခဲ၍သေသူစသည်ဖြင့် သေခြင်းအကြောင်းအမျိုးမျိုးရှိခဲ့၏။ ငါးစာ၊လိပ်စာ၊ကျားစာ၊ဝံစာ၊မြွေစာဖြင့် သေခဲ့ရပေါင်းလည်းများလှပြီ။ ထိုသို့သောသေခြင်းမျိုးသည် မိမိအတွက်ရော သူတစ်ပါးအတွက်ပါ ဘာမျှအကျိုးမရှိခဲ့ပေ။

ထိုသို့စဉ်းစားပြီးနောက် မင်းကြီးသည် ဘီလူးကြီးကို 'ငါဟာ အစမထင်သံသရာမှာ ကျင်လည်ရသမျှ ဘဝများစွာတို့မှာ ကျား၊ဝံ၊ခြင်္သေ့၊ ငါး၊လိပ်၊ငှက်တို့ရဲ့အစာ ဖြစ်ခဲ့ပေါင်းများလှပါပြီ။ မြတ်စွာဘုရားရဲ့ တရားတော်ကို နာယူခွင့်ရရန်အတွက် ဒီဘဝမှာတော့ ငါ့ရဲ့အသက်ကို စွန့်လှူပါတော့မယ်။ ဒီလိုပေးလှူရတဲ့အတွက် နတ်စည်းစိမ်၊လူစည်းစိမ်ကို မတောင့်တ

ပါဘူး။ ခပ်သိမ်းသောသတ္တဝါတို့ကိုသာ သံသရာမှ ကယ်ထုတ်နိုင်ရန် လူနတ်သတ္တဝါတို့၏အကျိုးအလို့ငှာ သဗ္ဗညုတဉာဏ်တော်ကိုသာ တောင့်တပါတယ်။ အဆွေဘီလူး၊ သင်ဟာငါ့အတွက် ကျေးဇူးရှင်ပါပဲ။ သင်စေခိုင်းတဲ့အတိုင်း ငါလုပ်ပါ့မယ်။ ငါ့ကိုသာ သင်သိတဲ့တရား ဟောပြောစမ်းပါ'ဟု ပြောဆိုလေသည်။

ထို့နောက် သောဏ္ဍာကမင်းကြီးသည် တောင်ထိပ်သို့တက်ပြီး ဘီလူးအား 'အဆွေဘီလူး၊ သင်ဟာ ငါ့ရဲ့အလိုဆန္ဒကို ဖြည့်စွမ်းနိုင်တဲ့ မိတ်ဆွေကောင်းဖြစ်လို့ သင်ရဲ့စကားကို ငါလိုက်နာပါတော့မယ်။ ငါ့ကို တရားဟောပါတော့။ သင့်အလိုပြည့်အောင် ဒီတောင်ထက်မှနေ၍ သင့်ရဲ့ခံတွင်းထဲသို့ ခုန်ချလိုက်ပါတော့မယ်'ဟုပြောပြီး တောင်ထိပ်မှနေ၍ ခံတွင်းဖွင့်၍ စောင့်နေသော ဘီလူး၏အစွယ်ပြူးပြူးခံတွင်းဝသို့ ရဲရဲရင့်ရင့်ခုန်ချလိုက်လေသည်။

ထိုအခါ ဘီလူးသည် ဘီလူးအသွင်ကို လျင်စွာစွန့် သိကြားမင်းအသွင်သို့ပြောင်းပြီး ဓမ္မသောဏ္ဍာကမင်းကြီးကို လက်နှစ်ဖက်ဖြင့် မြဲမြဲမြံမြံပွေ့ဖမ်းယူကာ နတ်ပြည်သို့ပင့်ဆောင်သွား၍ ပဏ္ဍုကမ္ဗလာကျောက်နေရာ၌ နေစေ၏။ ပန်းနံ့သာတို့ဖြင့် ပူဇော်ပြီးလျှင် ကဿပမြတ်စွာဘုရား ဟောကြားအပ်သော အောက်ပါတရားဂါထာတော်ကို ဟောပြတော်မူပါသည်။

၁။ အနိစ္စာဝတ သင်္ခါရာ၊ ဥပ္ပါဒဝယ ဓမ္မိနော။

ဥပ္ပဇ္ဇိတွာ နိရုဇ္ဈန္တိ၊ တေသံ ဝူပသမော သုခေါ။ ။

သင်္ခါရာ=ရုပ်နာမ်နှစ်ဖြာ၊ သင်္ခါရတရားတို့သည်။ အနိစ္စာဝတ= အမြဲမရှိကြပေကုန်စွတကား။ ဥပ္ပါဒဝယဓမ္မိနော=ဖြစ်ခြင်းပျက်ခြင်းသဘောရှိကြပေကုန်၏။ ဥပ္ပဇ္ဇိတွာ=ဖြစ်လာပေါ်လာကြကုန်ပြီးသော်။ နိရုဇ္ဈန္တိ= ချုပ်ကြပျောက်ကြရလေကုန်၏။ တေသံ=ဒုက္ခအမှန်၊ ထိုရုပ်နာမ်သင်္ခါရတို့၏။ ဝူပသမော=ချုပ်ငြိမ်းရာမှန်၊ နိဗ္ဗာန်တရားတော်သည်။ သုခေါ= ဖြစ်ပျက်ကင်းကွာ၊ ချမ်းသာအစစ်ဖြစ်ပါပေသတည်း။

သိကြားမင်းသည် ထိုဂါထာကိုဟောပြပြီး ဓမ္မသောဏ္ဍကမင်းကြီး၏ အလိုဆန္ဒကိုပြည့်ဝ[illegible]စေခဲ့လေသည်။ သိကြားမင်းသည် ဓမ္မသောဏ္ဍက မင်းကြီးကို နတ်တို့၏စည်းစိမ်ခံစားစေပြီးမှ လူ့ပြည်သို့ ပြန်လည် ပို့ဆောင်ခဲ့၏။ ဓမ္မသောဏ္ဍကမင်းကြီးသည် ဗာရာဏသီပြည်၌ ကုသိုလ် ကောင်းမှုတို့ကို ပြုစုအားထုတ်နေခဲ့ပြီးနောက် ထိုဘဝမှစုတေသော် နတ်ပြည်၌ ဖြစ်ရလေပြီ။

ဤဓမ္မသောဏ္ဍကမင်းကြီး၏ဝတ္ထုကို အကြောင်းပြု၍ ရှေးဆရာ မြတ်တို့က 'အို...သူတော်ကောင်းအပေါင်းတို့၊ မိမိ၏ဂုဏ်သိက္ခာ, အသက် စသည်တို့ကိုမငဲ့ကွက်ဘဲ တရားတော်ကို ရှာဖွေကြကုန်လော့။ ဤလောက၌ ဘာမျှမဟုတ်သောစည်းစိမ်ချမ်းသာနှင့် အလွန်တိုတောင်းလှသည့် အသက် တမ်းရှိပေသော ငါတို့၏လူ့ဘဝတွင် ကုသိုလ်ကောင်းမှုကိုသာ မမေ့ မလျော့ဘဲ အားထုတ်သင့်ကြပေသည်'ဟု မှာကြားခဲ့ကြ၏။



# တရားတစ်ပုဒ်ကြောင့် ချမ်းသာခဲ့ရသူ

[၂။ မိဂလုဒ္ဒကဝတ္ထု]

ဤဘဒ္ဒကမ္ဘာမှ ပြန်၍ရေတွက်သည်ရှိသော် သုံးဆယ့်တစ်ကမ္ဘာ၌ သိခီမြတ်စွာဘုရားပွင့်တော်မူခဲ့ပါသည်။ အခါတစ်ပါးတွင် သိခီမြတ်စွာဘုရားရှင်သည် တစ်ပါးတည်းနေ၍ ဝိဝေကသုခကို ပွားများလိုသောကြောင့် ရှုချင့်စဖွယ်သစ်ပင်ပန်းမာလ်အမျိုးမျိုးတို့နှင့်ပြည့်စုံသော တောကြီးအတွင်းသို့ ကြွတော်မူကာ အေးချမ်းလှသောကျောက်ဖျာပြင်ထက်၌ ဒုကုဋ်သင်္ကန်းကို လေးထပ်ခင်း၍ ခြောက်ပါးသောရောင်ခြည်တော်တို့ ထွန်းထိန်တောက်ပစေလျက် တင့်တယ်သောဘုရားရှင်၏အသရေတော်ဖြင့် စံနေတော်မူခဲ့၏။

ထိုသို့ သစ်တစ်ပင်ရင်းဝါးတစ်ပင်ရိပ် တောရကျောင်းမြတ်၌ အမင်းမင့်ဥသျှောင် ဘုန်းခေါင်ထွတ်ဖျား သိခီမြတ်စွာ သီတင်းသုံးတော်မူရာသို့ နတ်ဗြဟ္မာ နဂါးဂဠုန်တို့သည် စုဝေးရောက်လာကြကုန်၍ သိခီ မြတ်စွာဘုရားရှင်ကို နတ်ပန်းနံ့သာတို့ဖြင့် ပူဇော်ဦးခိုက်နေကြလေသည်။ မြတ်စွာဘုရားရှင်သည် ထိုနတ်ဗြဟ္မာနဂါးဂဠုန်စသော ပရိသတ်တို့အား ဗြဟ္မာမင်း၏အသံနှင့်တူသော အသံတော်ဖြင့် သစ္စာလေးပါးမြတ်တရားတော်ကို မိုးကြီးရွာသကဲ့သို့ တသွန်သွန်ဟောကြားတော်မူခဲ့ပါသည်။

ထိုစဉ်အခါ တောလိုက်မုဆိုးတစ်ဦးသည် မြတ်စွာဘုရားစံနေတော်မူရာ တောကြီးအတွင်းသို့ဝင်ခဲ့၍ သားကောင်တို့ကို ဖမ်းယူသတ်ဖြတ်စားသောက်နေခဲ့၏။ ထိုမုဆိုးသည် တောလည်ရင်း မြတ်စွာဘုရားရှင် တရားဟောတော်မူသော နေရာသို့ရောက်ရှိလာလေသည်။ ထိုမုဆိုးသည် မြတ်စွာဘုရားရှင် တရားဟောတော်မူနေသည်ကို မြင်တွေ့လျှင် သင့်တင့်လျောက်ပတ်သောအရပ်မှနေ၍ တရားတော်ကို ရိုသေစွာ နာယူခဲ့လေသည်။

ထိုတောလိုက်မုဆိုးသည် တရားတော်ကိုနာယူပြီး ရတနာသုံးပါး၌ ကြည်ညိုသောစိတ်ဖြင့် ထိုဘဝမှစုတေသေလွန်သောအခါ နတ်ပြည်ခြောက်ထပ်၌ဖြစ်ခဲ့သည်။ ထိုမှတစ်ဖန် လူ့ပြည်၌ပြန်ဖြစ်၍ စည်းစိမ်ချမ်းသာအမျိုးမျိုးတို့ကို ခံစားစံစားကာ နတ်ရွာလူ့ပြည်တို့တွင် လူးလာစုန်ဆန်နေခဲ့လေသည်။

ဂေါတမမြတ်စွာဘုရားရှင် ပွင့်တော်မူသောအခါ၌ သာဝတ္ထိပြည်တွင် ပစ္စည်းဥစ္စာချမ်းသာကြွယ်ဝပြီး မြတ်သောအမျိုး၌ မွေးဖွားခဲ့ပြန်သည်။ သိတတ်သည့်အရွယ်သို့ ရောက်သောအခါ မြတ်စွာဘုရားသာသနာ၌ ရှင်ရဟန်းပြုခဲ့၏။ တစ်နေ့သ၌ မြတ်စွာဘုရားရှင် ဟောကြားတော်မူသော သစ္စာလေးပါးတရားတော်မြတ်ကိုကြားနာရ၍ ပဋိသမ္ဘိဒါလေးပါးနှင့်တကွ ရဟန္တာအဖြစ်သို့ ဆိုက်ရောက်တော်မူသည်။ ရဟန္တာဖြစ်တော်မူသည့်အခါ သံဃာပရိသတ်အလယ်၌ သိခီဘုရားရှင်လက်ထက်ကဖြစ်ခဲ့သော မိမိ၏ ရှေးအတိတ်ဘဝဖြစ်စဉ်နှင့် ပြုခဲ့သော ကောင်းမှုကုသိုလ်တို့ကို နှစ်ဆယ့်လေးဂါထာတို့ဖြင့်ရွတ်ဆိုကာ ဝမ်းမြောက်သောပီတိဖြင့် ဥဒါန်းကျူးရင့်တော်မူလေသည်။

ထိုဂါထာတို့၏အဆုံး၌ 'ငါသည် သိခီမြတ်စွာဘုရားရှင် ကောင်းစွာဟောကြားအပ်သောတရားတော်ကိုတမုဟုတ်မျှနာကြားခဲ့ရ၏။ထိုတခဏမျှနာကြားရသောကောင်းမှုကြောင့် အပါယ်လေးပါး၌ တစ်ရံတစ်ဆစ်မဖြစ်ခဲ့။ ထို့ပြင်လည်း ဖြစ်လေရာဘဝတို့တွင် ဘယ်နေရာကများ ဘေးဒုက္ခလာလေမလဲဟူသော တွေးတောပူပန် ကြောက်လန့်နေရခြင်းမျိုးလည်း မရှိခဲ့ပေ။

'ငါသည် လက်ရုံးကိုမြှောက်ချီဆန့်တန်း၍ ရဲရဲဝံ့ဝံ့ဆိုပါအံ့။ ငါပြောကြားသော ထိုစကားတို့ကို ယုံကြည်ပြီး လိုက်နာကြပါ။ ငါ့ကိုပမာထား၍ တရားတော်ကို ရိုသေစွာနာယူကြပါ' ဟု နှိုးဆော်တိုက်တွန်းတော်မူခဲ့၏။

ဤတောလိုက်မုဆိုး၏ အဖြစ်အပျက်ကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'အနည်းငယ်သော အချိန်အတွင်းမှာ တရားတော်ကို နာကြားရုံမျှဖြင့် စည်းစိမ်ချမ်းသာရခဲ့သည်။ ထိုတောလိုက်မုဆိုး၏ ဝတ္ထုကို အတုယူ၍ သင် သူတော်ကောင်းတို့သည်လည်း ဘဝဝိဘဝသုခံဟု ဘဝ၌ဖြစ်သော လူနတ်ချမ်းသာ၊ ဘဝနှင့်ကင်းသော နိဗ္ဗာန်ချမ်းသာတို့ကို တောင့်တ၍ ပျင်းရိခြင်းကို စွန့်ပယ်ကာ နာရခဲလှစွာသော မြတ်စွာဘုရား၏ တရားတော်ကို ရိုသေစွာ နာယူကြပါကုန်'ဟု မိန့်ကြားခဲ့ကြ၏။



# တိရစ္ဆာန်လောက်မျှကျေးဇူးမသိတတ်သူ

[၃။ တိတ္တိရဇာတ်ဝတ္ထု]

လွန်လေပြီးသောအချိန်က ဇမ္ဗူဒိပ်ဟုခေါ်တွင်သော ဤအိန္ဒိယနိုင်ငံကြီး၌ ရာသီဥတုမမျှမတ အလွန်တရာပူပြင်းလှစွာသောအပူကပ်ကြီးတစ်ရပ် ဆိုက်ရောက်ခဲ့သည်။ နေအပူရှိန်သည် တစ်နေ့ထက်တစ်နေ့ ပို၍လာသောကြောင့် ရေတွင်းရေကန် ချောင်းငယ်မြောင်းငယ်များမှစ၍ ရေတံခွန်များ တောင်ကျချောင်းများပါ ခန်းခြောက်ကုန်၏။ လူတို့အဖို့ သောက်စရာ သုံးစရာရေ ရှားပါးကုန်၏။ လိပ်ငါးစသော ရေသတ္တဝါအဖို့မှာလည်း မှီခိုရာရေကင်းမဲ့သဖြင့် သေကြေပျက်စီးကြရကုန်၏။ သစ်ပင်များလည်း ရေမရ၍ ညှိုးနွမ်းခြောက်သွေ့ပျက်စီးကုန်ကြ၏။ သားငှက်များသည် တံလျှပ်ကိုရေထင်၍ ရှာဖွေကြရင်း သေကြေပျက်စီးကုန်ကြ၏။ ထိုအခါက ဇမ္ဗူဒိပ်တစ်ကျွန်းလုံးရှိ သက်ရှိသတ္တဝါမှန်သရွေ့သည် ရေကိုသာ အလုအယက်ရှာနေခဲ့ကြသည်။

သတ္တဝါအားလုံး ရေကိုအလုအယက်ရှာရင်း ဒုက္ခများစွာနှင့် တွေ့ကြုံကြရသည်။ ထိုအခါက မြွေနဂါးတစ်ကောင်သည် အတောင်ခြောက်ဆယ်ခန့်နက်သောတွင်းကြီးတစ်တွင်းမှ ရေ၏အနံ့ကိုရသဖြင့် ထိုတွင်းကြီးထဲသို့ဆင်း၍ ရေကိုရှာရင်း အားအင်မပြည့်စုံသည့်အတွက် တွင်းပေါ်သို့ပြန်ရောက်အောင် မတက်နိုင်တော့ဘဲ တွင်းထဲမှာ ပင်နေခဲ့ရ၏။ ထို့အတူ ကျေးသားတစ်ကောင်နှင့် လူတစ်ယောက်သည်လည်း ထိုတွင်းထဲသို့ရေရှာရန်ဆင်းခဲ့ကြရင်း အားအင် မပြည့်စုံသည့်အတွက် တွင်းထဲမှာပင် နေကြရပြန်၏။ ထိုတွင်းကြီးထဲ၌ လူ,နဂါး,ကျေးငှက်ဟူသော သတ္တဝါသုံးဦးသည် ရေငတ်မွတ်သိပ်နေကြသောဘေးကြောင့် တစ်ဦးကိုတစ်ဦး မည်သို့မျှ အန္တရာယ်မပြုကြ၊ အတူနေခဲ့ကြလေသည်။

ထိုအချိန်တွင် ဗာရာဏသီပြည်သား ယောကျ်ားတစ်ယောက်သည်လည်း ရေရှာထွက်ရင်း ထိုတွင်းကြီးအနီးသို့ ရောက်လာခဲ့၏။ တွင်းထဲ၌ ကျရောက်နေသော သတ္တဝါသုံးဦးကို တွေ့ရသောအခါ သနားသည့်အတွက် ခြင်းတောင်ကြီးတစ်လုံးကို နွယ်ဖြင့်ချည်၍ တွင်းထဲသို့ချပေးပြီး ထိုသတ္တဝါသုံးဦးကို တွင်းအပေါ်သို့ဆွဲတင်ကာ အသက်ကိုကယ်ခဲ့၏။ ထိုလူ့၊ ငှက်၊ နဂါးသတ္တဝါသုံးဦးသည် မိမိတို့၏အသက်ကို ကယ်တင်ခဲ့သူကျေးဇူးရှင်ကို ကျေးဇူးတင်စကားပြောကြား၍ မိမိတို့နေထိုင်ရာအရပ်ဒေသအသီးသီးကို ညွှန်ပြပြီးလျှင် အကူအညီလိုအပ်ပါက မိမိတို့ထံလာခဲ့ပါဟု ဖိတ်ခေါ်ခဲ့ကြ၏။

ထိုသတ္တဝါသုံးဦးတွင် ကျေးသားသည် ဗာရာဏသီမြို့၏တောင်ဘက်တံခါးဝရှိ ပညောင်ပင်ကြီး၌နေလေသည်။ မြွေနဂါးသည်ကား ထိုပညောင်ပင်ကြီးနှင့်မနီးမဝေးရှိ ကြီးမားသောတောင်ပို့အတွင်း၌ နေထိုင်သည်။ လူပုဂ္ဂိုလ်မှာ ဗာရာဏသီမြို့တော်အတွင်း၌ နေထိုင်သူဖြစ်သည်။

တစ်နေ့သော် ထိုသတ္တဝါသုံးဦး၏အသက်ကိုကယ်ခဲ့သော ဗာရာဏသီပြည်သားသည် အကူအညီတောင်းရန် အရေးကိစ္စပေါ်လာ၍ မိမိကိုဖိတ်ခေါ်ခဲ့ကြသော သတ္တဝါသုံးဦးထံသို့ အလည်အပတ်သွား၏။ ရှေးဦးစွာ ကျေးသားထံသို့သွား၍ ကျေးသားမှာကြားသည့်အတိုင်း ပညောင်ပင်ကြီး၏အရင်း၌ရပ်လျက် 'အဆွေကျေးသား'ဟု အသံပြုလိုက်၏။ ကျေးသားသည် လျင်စွာပေါ်လာပြီး 'မိတ်ဆွေ၊ အခုမှပဲလာတော့တယ်၊ အဆွေရဲ့ကျေးဇူးကိုသတိရနေပါတယ်၊ ဒီကိုလာရတဲ့အကြောင်းကိုလဲ သိပါရစေ'ဟုပြောဆို၏။ 'အဆွေကျေးသား၊ ငါ့မှာ အသက်မွေးဖို့ခက်ခဲနေလို့ပါ၊ ငါ့ရဲ့သားမယားတွေကို ဗာရာဏသီမြို့ထဲက မိတ်ဆွေတစ်ယောက်ရဲ့အိမ်မှာထားခဲ့ပြီး သင့်ကို အားကိုးရအောင်လာခဲ့တာပါပဲ'ဟုပြောလေ၏။

ထိုအခါ ကျေးသားက 'သြော် အဆွေကျေးဇူးရှင်၊ အဆွေဟာ ငါ့ရဲ့အသက်ကို ကယ်ခဲ့တဲ့ကျေးဇူးရှင်ပဲ၊ သင့်ရဲ့အရေးကိုအလေးထားပြီး

ကူညီရမှာပေါ့၊ ဘာမျှစိတ်မပူပါနဲ့၊ ဒီမှာခဏနေခဲ့ပါ'ဟုပြောပြီး ကျေးသားသည် ကောင်းကင်သို့ပျံတက်သွားရာ ဘုရင့်ဥယျာဉ်တော်အတွင်းသို့ ရောက်သွား၏။ ဗာရာဏသီမင်းသည် မင်းဝတ်တန်ဆာကိုချွတ်၍ မင်းမှူးထမ်းတို့ကို စောင့်ရှောက်ကြည့်ရှုရန် တာဝန်ပေးထားပြီး ကြာမျိုးငါးပါးနှင့်ပြည့်စုံသော မင်္ဂလာရေကန်တော်ကြီးအတွင်းသို့ဆင်း၍ ရေချိုးနေတော်မူသည်။ ကျေးသားသည် မင်းကြီးချွတ်ထားသော ဝတ်တန်ဆာတို့မှ ပုလဲသွယ်ကိုတွေ့မြင်လျှင် မင်းမှူးထမ်းတို့မမြင်အောင် ထိုပုလဲသွယ်ကို ကိုက်ချီပြီး မိမိနေရာသို့ လျင်မြန်စွာပျံသန်းခဲ့၍ ကျေးရူးရှင်ယောကျ်ားအား 'သတိနှင့်သုံးပါ'ဟုဆိုပြီး ပေးအပ်လိုက်သည်။ ကျေးရူးရှင်ယောကျ်ားသည်လည်း ပုလဲသွယ်ကိုယူ၍ သားမယားရှိရာ မြို့တော်အတွင်းသို့ဝင်ခဲ့၏။ မြို့တွင်းသို့ရောက်သော် ထိုပုလဲသွယ်ကို စိတ်ချသောနေရာ၌ ခေတ္တသိမ်းဆည်းထားလိုသဖြင့် အသက်ကယ်ခဲ့ဖူးသော ဗာရာဏသီပြည်သားထံသို့ သွားရောက်ပြီး ခေတ္တအပ်နှံထားလေ၏။

ဗာရာဏသီမင်းသည် ရေချိုးပြီး၍ မင်္ဂလာရေကန်မှတက်လာကာ မိမိ၏အဝတ်တန်ဆာများကိုဝတ်ဆင်သောအခါ ပုလဲသွယ်ကို မတွေ့၍ မင်းမှူးထမ်းတို့ကို နေရာအနှံ့ လှည့်လည်ရှာဖွေစေ၏။ ရှာ၍မတွေ့သောအခါ ပုလဲသွယ်ရှာတွေ့သူကို ဆုကြီးလာဘ်ကြီးပေးမည်ဟု မြို့တွင်း၌ ကြေညာစေ၏။ ထိုသို့ကြေညာနေသည်ကို ပုလဲသွယ်ခေတ္တသိမ်းထားသော ဗာရာဏသီပြည်သား ကြားသိလျှင် ကျေးရူးတရားကိုမငဲ့၊ လာဘ်လာဘကို မျှော်ကိုးကာ မင်းမှူးထမ်းတို့ထံ ပုလဲသွယ်ကိုအပ်နှံလိုက်ပြီး မိမိ၏ကျေးရူးရှင်ကိုလည်း ပုလဲသူခိုးဟု သတင်းပေးလိုက်လေသည်။

ဤသို့သောဖြစ်ရပ်မျိုးကြောင့် မသူတော်နှင့်ဆက်ဆံရခြင်းသည် ဆင်းရဲ၏။ ချိုမြိန်သောပျားရည်ကိုလောင်းသော်လည်း တမာပင်သည် ချိုမလာနိုင်သကဲ့သို့၊ မသူတော်ကိုပြုသော ကျေးရူးသည်လည်း အချည်းနှီးဖြစ်သည်။ နို့ရည်တိုက်၍မွေးသော မြွေပွေးမြွေဟောက်သည် အဆိပ်ကို

သာ တိုးပွားစေသကဲ့သို့၊ သူယုတ်ကို မွေးကျွေးခြင်းသည်လည်း ယုတ်မာမှုကို သာတိုးပွားစေခဲ့၏။ မိမိမွေးသောမီးသည် မိမိကိုလောင် မြိုက်တတ်သကဲ့သို့ သူယုတ်သည်လည်း ကျေးဇူးရှင်ကို လောင်မြိုက်သည်ပင်။ ထို့ကြောင့် ပညာဖြင့် စူးစမ်းဆင်ခြင်ပြီး အဆွေခင်ပွန်းကောင်းကို ရှာရာ၏။ မိတ်ဆွေကောင်း မရှိလျှင် ချမ်းသာကို မရနိုင်ဟု ပညာရှိတို့ ဆိုခဲ့ကြ၏။

မင်းမှုထမ်းတို့လည်း ပုလဲသွယ်နှင့်တကွ ထိုယောကျ်ားကိုဖမ်းဆီးကာ မင်းထံသို့ ဝင်ကြသည်။ မင်းကြီးသည် ထိုယောကျ်ားကိုမြင်လျှင် ပြင်းစွာ အမျက်ထွက်ပြီး မြို့တောင်ဘက်တံခါးဝ၌ တံကျင်လျှို၍ သတ်စေဟု အမိန့်ချမှတ်လိုက်သည်။

မင်းချင်းတို့သည် ထိုယောကျ်ားကို ချုပ်နှောင်ခေါ်ဆောင်သွားရာ မြို့တောင်တံခါးမှအထွက် နဂါး၏နေရာ တောင်ပို့ကြီးအနီး ရောက်ရှိခဲ့လေသည်။ ထိုအခါ နဂါးထံ၌ အကူအညီရစေခြင်းငှာ ချိန်းချက်ထားသည့်အတိုင်း 'အဆွေနဂါး'ဟု အသံပြုလိုက်၏။ နဂါးသည် တောင်ပို့မှထွက်လာပြီး မိမိ၏ကျေးဇူးရှင်ယောကျ်ားကို မင်းချင်းများ ဖမ်းခေါ်သွားသည်ကိုတွေ့ရလျှင် ချက်ချင်းပင် မိမိ၏နဂါးအသွင်ကိုဖျောက်၍ လုလင်ပျိုအသွင်ကို ဖန်ဆင်းလိုက်သည်။ မင်းချင်းယောကျ်ားတို့ထံချဉ်းကပ်သွားပြီး 'မင်းချင်းတို့၊ ဤယောကျ်ားကို ချက်ချင်းမသတ်ပါနှင့်၊ ခေတ္တဆိုင်းပေးပါ'ဟုဆိုခဲ့၏။ ပြီးလျှင် တမုဟုတ်ချင်း မြွေနဂါးအသွင်ကိုပြန်ယူပြီး နန်းတွင်းသို့ဝင်ကာ မိဖုရားကြီးကို ကိုက်ခဲလိုက်လေသည်။ မိဖုရားကြီး မြွေဆိပ်တက်ကာ မျောနေစဉ်မှာ လူအသွင်ကိုယူပြန်ပြီး 'ယခု အဖမ်းခံထားရသော သူဟာ မြွေဆိပ်ကိုဖြေနိုင်ပါတယ်'ဟု မင်းချင်းတို့ကြားအောင် ပြောပြန်၏။

ထို့နောက် နဂါးသည် မိမိ၏ကျေးဇူးရှင်ထံ အလျင်အမြန်ပြန်သွားပြီး 'ကျွန်ုပ် ဒီလိုဒီလိုစီမံထားတယ်။ မိဖုရားကြီးကိုကုသဖို့ သင့်ကိုလာခေါ်ပါက ဣန္ဒြေမပျက်လိုက်သွားပါ။ ရေတစ်ခွက်တောင်းပြီး မိဖုရားကြီး

ကိုယ်ကို ဖျန်းလိုက်ပါ၊ သူ့အလိုလို အဆိပ်ပြေသွားပြီး ပကတိအတိုင်း ကောင်းသွားပါလိမ့်မယ်' စသည်ဖြင့် မှာကြားလေသည်။

ဗာရာဏသီမင်းကြီးလည်း မြွေဆိပ်တက်နေသော မိဖုရားကြီးကို ကုသရန် ဆေးဆရာအရှာခိုင်းရာ မင်းမှုထမ်းတစ်ဦးက 'ယခုအဖမ်းခံ ထားရသူသည် အဆိပ်ပြေအောင် ကုသတတ်သူတစ်ဦးဖြစ်သည်'ဟု အကြောင်းကြားသောကြောင့် ထိုယောကျ်ားကိုအခေါ်ခိုင်းလိုက်၏။ ထို ယောကျ်ားလည်း နဂါးမင်းမှာထားသည့် အတိုင်းဆောင်ရွက်ရာ မိဖုရား ကြီးမှာ အသက်ချမ်းသာရာရသွားလေသည်။ ထိုအခါ မင်းကြီးက လွန်စွာ အားရကျေနပ်သဖြင့် ထိုယောကျ်ားကိုအပြစ်မှလွတ်စေပြီး ဆုလာဘ်ကိုပေး သနားလေသည်။ ထိုယောကျ်ားသည် မိမိ၏ဖြစ်ကြောင်းကုန်စင်ကို မင်းကြီး အား ပြန်လည်ပြောပြလေတော့သည်။

'အရှင်မင်းကြီး...၊ သူတော်ကောင်းကို အဟိတ်တိရစ္ဆာန်မျှဖြစ်သည် ဟုဆိုပြီး မထေမဲ့မြင်မပြုအပ်ပါ။ ကျေးသားသည်လည်းကောင်း၊ နဂါးမင်း သည်လည်းကောင်း မိတ်ဆွေကောင်းအရာ၌ ထားထိုက်သူများဖြစ်ကြ သည်။ သို့ပါသော် အကြောင်းအကျိုးခွဲခြားသိမြင်ပြီး ကျွန်ုပ်တို့နှင့်အဆင့် အတန်းတူသော ထိုလူယောကျ်ားသည်ကား ကောက်ကျစ်ယုတ်မာ၍ မိမိ၏ ကျေးဇူးရှင်ကိုပင် ကျေးစွပ်ခဲ့လေသည်။ အချို့သောလူတို့သည် မိတ်ဆွေ မဖြစ်ထိုက်ပါ။ တိရစ္ဆာန်တို့သည်မူကား ကောက်ကျစ်မှုမရှိသည်ဖြစ်၍ မိတ်ဆွေဖြစ်ထိုက်ပါ၏။'

မင်းကြီးသည် ထိုအမျိုးသား၏စကားကိုကြားလျှင် ကြည်ညိုစိတ် ဖြစ်ပေါ်လာပြီး မင်းမှုထမ်းတို့အား 'ဒီယောကျ်ားကို အိမ်ကြီးတစ်လုံး ဆောက်၍ ပေးလိုက်ကြ၊ လက်ဆောင်ပဏ္ဏာတွေလဲထပ်ပြီး ပေးလိုက်ကြ' ဟု ဆိုလိုက်၏။ ထိုအမျိုးသားသည် မိမိ၏အိမ်ကို ကျေးသားနေသော ပဿောင်ပင်နှင့် နဂါးမင်းနေသော တောင်ပို့အကြား၌ ဆောက်လုပ်စေခဲ့၏။

ထိုအခါမှစ၍ နဂါးမင်း,ကျေးသားနှင့်ထိုအမျိုးသားတို့ မိတ်ဆွေသုံးဦးသည် ချစ်ကြည်စွာ အတူတကွသက်ဆုံးတိုင် နေထိုင်သွားခဲ့ကြ၏။

အထက်ပါ ကျေးဇူးသိတတ်သော ကျေးသားနှင့်နဂါးမင်းတို့၏ ပုံဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'စိတ်ဓာတ်ကျချင်သလောက် ကျနေပါစေ၊ ကိုယ်လက်အင်္ဂါပျက်စီးလျှင် ပျက်စီးသွားပါစေ၊ ဥစ္စာဓနနိမ့်ကျလျှင်လည်း နိမ့်ကျသွားပါစေ၊ မိတ်ဆွေကောင်းတစ်ဦးကို မိတ်ဆွေအဖြစ်မှ ယုတ်လျော့ပျက်စီးမသွားအောင် ထိန်းသိမ်းထားဖို့က အရေးကြီးသည်။ စိတ်ဓာတ်တွေတက်ကြွနေ၊ ကိုယ်လက်အင်္ဂါတွေပြည့်စုံနေ၊ ဥစ္စာဓနတွေတိုးတက်နေပြီး မိတ်ဆွေကောင်းမရှိပါမူ ကြီးပွားတိုးတက်သည်ဟု မဆိုနိုင်။ ထို့ကြောင့် သင်သူတော်ကောင်းတို့သည် မိတ်ဆွေကောင်းကို ပေါင်းဖော်ပြီး ကုသိုလ်တရားကို ပြုစုအားထုတ်ကြပါ'ဟု တိုက်တွန်းခဲ့လေသည်။



# မြင်းပျံရှင်သခင်မ

[၄။ ဗုဒ္ဓေနီဝတ္ထု]

ရှေးအခါက ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ ပါဋလိပုတ်မြို့၌ ရှစ်ဆယ့်ခုနစ်ကုဋေကြွယ်ဝသော သူဌေးကြီးတွင် ဗုဒ္ဓေနီအမည်ရှိသော သမီးကလေး တစ်ဦးရှိ၏။ ဗုဒ္ဓေနီကလေးအသက် ခုနစ်နှစ်အရွယ်သို့ ရောက်သောအခါ မိဘနှစ်ပါးစလုံးကွယ်လွန်ခဲ့ကြ၍ အမွေအနှစ် စည်းစိမ်ဥစ္စာများစွာတို့သည် တစ်ဦးတည်းသော သမီးလေးဗုဒ္ဓေနီ ရရှိခဲ့လေသည်။

ဗုဒ္ဓေနီအရွယ်ရောက်သည့်အခါ အလွန်နုးညံ့သိမ်မွေ့ပြီး ရုပ်ရည် အဆင်းလှပသောကြောင့် ချစ်ခင်မြတ်နိုးသူ၊ လက်ဆက်လိုသူ ပေါများခဲ့သည်။ ပါဋလိပုတ်မြို့ရှိ အိမ်ရှေ့မင်း၊ စစ်သူကြီး၊ သူဌေးကြီးတို့က ဗုဒ္ဓေနီနှင့် လက်ဆက်လိုပါကြောင်း လက်ဆောင်ပဏ္ဏာပို့၍ ကမ်းလှမ်းခဲ့ကြသည်။ ဗုဒ္ဓေနီသည် ရတနာသုံးပါး၌သာ စိတ်အာရုံကျက်စားမွေ့လျော်ပြီး ကာမဂုဏ်အာရုံကို စက်ဆုပ်ရွံရှာသူကလေးဖြစ်လေရာ ကမ်းလှမ်းလာသောစကား၊ ပေးပို့လာသော လက်ဆောင်ပဏ္ဏာတို့ကို လက်မခံဘဲ ပြန်လည်ပေးပို့ငြင်းပယ်ကာ အိမ်ထောင်ပြုခြင်းကို မစဉ်းစားခဲ့ပေ။

ဗုဒ္ဓေနီသည် မိမိကို မိဘတို့က စွန့်ခွာသွားကြသည့်နည်းတူ မိမိသည်လည်း တစ်နေ့တွင် မိဘတို့လျှောက်ခဲ့သော ထိုမရဏာလမ်းအတိုင်း လိုက်ရမည်သာဖြစ်သည်ဟု နှလုံးသွင်းဆင်ခြင်ခဲ့၏။ ထို့ကြောင့် မိမိ၏ ဘဝကို မည်သူတစ်ဦးတစ်ယောက်၏ခြေရင်းမှာနေ၍ အလုပ်အကျွေးမိန်းမ အဖြစ်သို့ အရောက်မခံဘဲ မြတ်စွာဘုရားသာသနာတော်၌ လှူဒါန်းချီးမြှောက်

လုပ်ကျွေးရင်း အချိန်ကုန်စေတော့မည်ဟု ဆုံးဖြတ်ခဲ့သည်။ ထိုဆုံးဖြတ်ချက်အတိုင်း ဗုဒ္ဓေနီသည် အရပ်လေးမျက်နှာမှ ကြွလာတော်မူကြသော ရဟန်းသံဃာအရှင်မြတ်များနှင့် ပုဏ္ဏားအလှူခံများကို လိုလေသေးမရှိအောင် လှူဒါန်းနေခြင်းဖြင့် မိမိ၏ဘဝကို ကုန်လွန်စေခဲ့သည်။

တစ်နေ့သ၌ ပုဗ္ဗန္တတိုင်းမှ အပရန္တတိုင်းသို့ မြင်းကုန်ကူးရန်ထွက်လာသော မြင်းကုန်သည်ကြီးတစ်ဦးသည် ပါဋလိပုတ်မြို့သို့ရောက်ရှိလာသည်။ ထိုကုန်သည်သည် ဗုဒ္ဓေနီကိုတွေ့လျှင် သမီးအရင်းနှင့်မခြား ချစ်ခင်လှသဖြင့် ဗုဒ္ဓေနီအား 'ငါ့သမီး၊ အဖေရဲ့မြင်းတွေထဲက သမီးနှစ်သက်တဲ့မြင်းတစ်ကောင်ကို ရွေးယူပါ'ဟု ရက်ရောစွာယူခွင့်ပေးခဲ့သည်။ ဗုဒ္ဓေနီသည် မြင်းအုပ်စုအတွင်း လိုက်လံကြည့်ရှုရာ သိန္ဓောမြင်းပေါက်ကလေးတစ်ကောင်ကို တွေ့သဖြင့် 'အဖေ၊ ဒီမြင်းကလေးကိုသာ ပေးပါ'ဟု တောင်းလေသည်။ မြင်းကုန်သည်ကြီးက 'သမီး၊ ဒီမြင်းဟာ သိန္ဓောမြင်းမျိုးဖြစ်တယ်။ ကောင်းကောင်းမွန်မွန်မွေးမြူပါ'ဟုမှာကြားပြီး ဗုဒ္ဓေနီ အလိုရှိသောမြင်းကိုပေးအပ်၍ ထိုမြို့မှထွက်ခွာသွားလေသည်။

ဗုဒ္ဓေနီသည် သိန္ဓောမြင်းကလေးကို သိန္ဓောဟူသောအခြေနှင့် ထိုက်တန်အောင် ကောင်းစွာပြုစုစောင့်ရှောက်ကျွေးမွေးခဲ့သည်။ မကြာမီကာလအတွင်းမှာပင် ထိုမြင်းကလေးသည် မြင်းကုန်သည်ကြီး ပြောသည့်အတိုင်းပင် သာမညမြင်းမဟုတ်ဘဲ ကောင်းကင်သို့ ပျံတက်နိုင်သော အစွမ်းသတ္တိရှိသည့် မြင်းဖြစ်မှန်း ဗုဒ္ဓေနီသိရှိခဲ့ရသည်။ ထိုအခါ ဗုဒ္ဓေနီက 'ဩ- ငါ့မှာ ကုသိုလ်ကောင်းမှုပြုဖို့ မိတ်ဆွေကောင်းတစ်ဦးရတာပဲ။ ငါသည် မြတ်စွာဘုရား မာရ်ငါးပါးကို အောင်တော်မူရာ ဘုရားအဖြစ်သို့ ရောက်တော်မူရာ ဗောဓိအောင်မြေအရပ်သို့သွားရန် အခွင့်ရလေပြီ။ ငါသည် ထိုဗောဓိအောင်မြေအရပ်သို့သွား၍ မဟာဗောဓိပင်ကို ရှိခိုးပူဇော်အံ့'ဟု ကြံစည်ပြီး ငွေပန်းခိုင်ရွှေပန်းခိုင်များကို ပြုလုပ်စီမံခဲ့လေသည်။

ငွေပန်းခိုင်ရွှေပန်းခိုင်များပြုလုပ်ပြီးသောအခါ သိန္ဓောမြင်းကိုစီးပြီး ကောင်းကင်ယံအထက်မှနေ၍ မဟာဗောဓိအောင်မြေသို့ သွားရောက်ခဲ့လေသည်။ ဗောဓိအောင်မြေသို့ရောက်သောအခါ ဆဋ္ဌာဘိညအရိယာသာဝက တို့အား 'အရှင်မြတ်တို့ဘုရား၊ဘုရားတပည့်တော်၏ ရွှေပန်းခိုင် ငွေပန်းခိုင် တို့ကို ဤမဟာဗောဓိပင်ကိုပူဇော်ရန် အလှူခံတော်မူပါ'ဟု အဓိဋ္ဌာန်ပြု၍ ဖိတ်ကြားခဲ့သည်။ သီရိလင်္ကာကျွန်း၌ သီတင်းသုံးနေတော်မူကြကုန်သော ဆဋ္ဌာဘိညအရိယာသာဝကတို့သည် ဗုဒ္ဓေနီ၏ပင့်ဖိတ်သံကို ကြားတော်မူကြ၍ ကောင်းကင်ခရီးဖြင့် ဗောဓိအောင်မြေသို့ ကြွလာတော်မူကြပြီး ဗုဒ္ဓေနီလှူဒါန်းသော ရွှေပန်းခိုင်ငွေပန်းခိုင်တို့ကို အလှူခံယူကြကာ မဟာ ဗောဓိကို ပူဇော်ကြကုန်၏။ ဤသို့ဖြင့် ဗုဒ္ဓေနီသည် သိန္ဓောမြင်းကို စီးပြီး ဗောဓိအောင်မြေသို့ မကြာမကြာသွား၍ အရိယာသာဝကအရှင်မြတ် တို့နှင့်အတူ မဟာဗောဓိပင်ကို ရွှေပန်းခိုင်ငွေပန်းခိုင်တို့ဖြင့် ပူဇော်ခဲ့ လေပြီ။

တစ်ချိန်သောအခါ ပါဋလိပုတ်မြို့အတွင်းရှိ မုဆိုးတစ်ဦးသည် ဗုဒ္ဓေနီ မြင်းပျံစီး၍ ကောင်းကင်ယံသို့ တက်သွားသည်ကိုတွေ့လေရာ ဘုရင်မင်း ထံ၌ ဗုဒ္ဓေနီ၏အကြောင်းကို သံတော်ဦးတင်လေသည်။ မင်းကြီးလည်း မုဆိုးပြောသည့်အတိုင်း အချောအလှဂုဏ်သတင်းကြီးသော ဗုဒ္ဓေနီကို မိဖုရားမြှောက်လိုသည့်ဆန္ဒဖြစ်လာကာ ဗုဒ္ဓေနီ မဟာဗောဓိပင်မှပူဇော်ပြီး အပြန်တွင် ဖမ်းဆီးခေါ်ဆောင်ခဲ့ရန် မုဆိုးကို အမိန့်ပေးလိုက်သည်။ မုဆိုးနှင့် မင်းမှုထမ်းတို့သည် ဗုဒ္ဓေနီ မဟာဗောဓိမြေမှအပြန်တွင် ဖမ်းဆီး ရန် ဗုဒ္ဓေနီလာတတ်သော ဥယျာဉ်တွင်း၌ ပုန်းခိုကာ စောင့်ဆိုင်းနေကြ သည်။

ဗုဒ္ဓေနီသည် ခါတိုင်းကဲ့သို့ပင် သိန္ဓောမြင်းကိုစီးပြီး မဟာဗောဓိ အောင်မြေသို့သွား၍ ဗောဓိပင်ကို အရိယာသာဝကအရှင်မြတ်တို့နှင့်အတူ ရွှေပန်းခိုင်ငွေပန်းခိုင်တို့ဖြင့် ပူဇော်သည်။ ဗုဒ္ဓေနီသည် ဗောဓိပင်နှင့်

အရှင်မြတ်တို့အား ပူဇော်ပြီး မိမိနေရာသို့ ပြန်ရန်ပြင်သောအခါ ဓမ္မရက္ခိတမည်သော အရှင်မြတ်က ဗုဒ္ဓေနီအား 'နှမ...၊ သင့်ကို ဖမ်းရန် လူဆိုးများစောင့်နေကြတယ်၊ အဲဒီအရပ်သို့ရောက်ရင် သတိထားပြီး ခပ်သွက်သွက်သွားပါ'ဟု မှာကြားတော်မူလေသည်။

ဗုဒ္ဓေနီသည် အရှင်မြတ် မှာကြားသတိပေးသောအရပ်သို့ ရောက်သောအခါ မုဆိုးနှင့်မင်းမှုထမ်းတို့ ဖမ်းဆီးရန်လာကြသည်ကိုတွေ့ရလေသည်။ ဗုဒ္ဓေနီသည် မြင်းကိုအလျင်အမြန်ပြေးစေရန် ဖနောင့်ဖြင့် အချက်ပေးလိုက်သည်။ မြင်းသည် ရုတ်ခြည်းအရှိန်အဟုန်မြင့်ကာ ကောင်းကင်သို့ပျံတက်ပြေးလေရာ ဗုဒ္ဓေနီသည် အထက်ကောင်းကင်သို့ မြင်းပျံတက်သော အရှိန်ကိုမထိန်းနိုင်ဘဲ မြင်းကျောပေါ်မှလိမ့်ကျခဲ့လေသည်။ ထိုအခါ ဗုဒ္ဓေနီက သိန္ဓောမြင်းကို'ချစ်သား၊ငါပြုခဲ့သောကျေးဇူးကိုပြန်တွေးလိုက်ပါ'ဟုဆိုလိုက်သည်။ မြင်းသည် ဗုဒ္ဓေနီ၏အသံကြား၍ကြည့်လိုက်လျှင် မိမိ၏သခင်မဗုဒ္ဓေနီ အောက်သို့ကျသွားသည်ကိုမြင်သဖြင့် ကောင်းကင်ထက်မှ အလျင်အမြန်ပြန်ဆင်းလာပြီး သခင်မကို မိမိ၏ကျောပေါ်၌တင်ဆောင်ကာ ကောင်းကင်ထက်သို့ပျံတက်သွား၏။

မုဆိုးနှင့်မင်းမှုထမ်းတို့သည်လည်း ဗုဒ္ဓေနီကိုလက်ရဖမ်းဆီးရန် မတတ်နိုင်သဖြင့် လက်မှိုင်ချကာပြန်သွားကြသည်။ ဤအဖြစ်အပျက်၏နောက်ပိုင်း၌ ဗုဒ္ဓေနီသည် သတိသံဝေဂကြီးစွာရပြီး မိဘတို့ထားရစ်ခဲ့သော ဥစ္စာအမွေအနှစ်ရှစ်ဆယ့်ခုနစ်ကုဋေတို့ကို မြတ်စွာဘုရား၏သာသနာတော်တည်းဟူသောမြေ၌စိုက်ပျိုး၍ အသက်ထက်ဆုံး ဥပုသ်သီလကိုဆောက်တည်နေထိုင်ခဲ့ပြီး ထိုဘဝမှစုတေလတ်သော် အိပ်သောယောက်ျားနိုးသောလားသို့ နတ်ပြည်၌ ဘွားခနဲဖြစ်ရလေသတည်း။

ဤဗုဒ္ဓေနီဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'အလွန်နုနယ်ပျိုရွယ်သော ဗုဒ္ဓေနီကဲ့သို့ မိန်းမပျိုကလေးသည်ပင် ကုသိုလ်ကောင်းမှုကိုပြု၍ နတ်ပြည်နတ်ရွာသို့ရောက်ရသေး၏။ သင်သူတော်ကောင်း

တို့သည်လည်း ကုသိုလ်ကံ၏ အကျိုးတရားကြီးမားပုံကို အလေးဂရုပြုကြပြီး ဘုရား,တရား,သံဃာ ရတနာမြတ်သုံးပါးကို မြတ်နိုးတနာရှိခြင်း၊ သီလဆောက်တည်ခြင်း၊ ဒါနစသောကောင်းမှုတို့ကို ပြုစုအားထုတ်ခြင်းတို့၌ လျစ်လျူရှုမနေစိမ့်ပေ။ လျစ်လျူရှုမနေကြဘဲ ကောင်းစွာ အားထုတ်ကြိုးပမ်းသင့်ကြပေသည်'ဟု မှာကြားခဲ့ကြပေ၏။



## နမောဗုဒ္ဓါယ–ရွတ်၍ရွှေပန်းခိုင်ရသူ

[၅။ အပဟိတုက္ကကဝတ္ထု]

ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံကြီး၌ ကဿပမြတ်စွာဘုရားရှင်သည် လောကသုံးပါး၏အကျိုးငှာ ပွင့်ထွန်းတော်မူခဲ့ပြီး လူနတ်ဗြဟ္မာသတ္တဝါတို့အား သံသရာခရီးခဲမှ ထုတ်ဆောင်ကယ်တင်ခြင်းဖြင့် ဗုဒ္ဓကိစ္စအလုံးစုံကိုပြီးဆုံးစေ၍ နေမင်းကြီးဝင်သွားသည့်အလား သေတဗျမြို့၌ ပရိနိဗ္ဗာန်ပြုတော်မူခဲ့သည်။ ထိုအခါ ဇမ္ဗူဒိပ်ကျွန်းသူကျွန်းသားတို့သည် ကဿပမြတ်စွာဘုရားရှင်၏ဓာတ်တော်တို့ကိုဌာပနာ၍ တစ်ချပ်လျှင် တစ်ကုဋေတန်သောရွှေအုတ်ကိုအပြင်က၊ တစ်ချပ်လျှင် ကုဋေဝက်တန်သောရွှေအုတ်တို့ကိုအတွင်းကထား၍စီပြီးလျှင် ဆေးဒန်းမြင်းသီလာကို သရွတ်ပြုကာ တစ်ယူဇနာမြင့်သော ရွှေစေတီတော်ကြီးတစ်ဆူတည်ထားပြီး ဓာတုပူဇော်ပွဲကြီး ကျင်းပနေကြသည်။

ထိုကဿပဘုရား၏ ဓာတုစေတီပူဇော်ပွဲကြီးကျင်းပနေစဉ် အရပ်တကာသို့လှည့်၍ အလမ္မာယ်ပြအသက်မွေးရရှာသောသူဆင်းရဲ အလမ္မာယ်ဆရာကလေးတစ်ဦးသည် ရွာငယ်ကလေးတစ်ရွာသို့ ရောက်ရှိသွားလေသည်။ ထိုရွာကလေး၌နေထိုင်ကြသော ရွာသူရွာသားများသည် ရတနာသုံးပါးကို အလွန်ကြည်ညိုသော ဗုဒ္ဓဥပါသကာများဖြစ်ကြ၏။ ထိုရွာသားဥပါသကာတို့သည် အမြဲတစေလိုပင် 'နမော ဗုဒ္ဓါယ'ဟူသော ဘုရားရှိခိုးကို ရွတ်ဆိုနေလေ့ရှိကြ၏။ မြွေအလမ္မာယ်ဆရာသည်လည်း ထိုရွာကလေးသို့ရောက်သွားသောအခါ၌ ဗုဒ္ဓဘာသာအယူကိုမယူသော မိစ္ဆာဒိဋ္ဌိတစ်ဦးပင်ဖြစ်လင့်ကစား ထိုရွာသားများ အမြဲရွတ်ဆိုနေကြသော 'နမော ဗုဒ္ဓါယ' ဘုရားရှိခိုးသံကို ကြားရဖန်များသောအခါ အပြောင်အပြက်သဘော ရယ်သလိုမောသလိုဖြင့် လိုက်၍ ရွတ်ဆိုခဲ့လေသည်။

တစ်ချိန်တွင် အလမ္မာယ်ဆရာကလေးသည် အလမ္မာယ်ပြရန် မြွေတစ်ကောင်လိုနေသဖြင့် မြွေအရှာထွက်ရင်း ကဿပမြတ်စွာဘုရား၏ ဓာတုစေတီတော်ကြီး၏အနီးသို့ ရောက်ရှိသွားလေသည်။ ထိုအချိန် နဂါးမင်းတစ်ကောင်သည် ကဿပမြတ်စွာဘုရား၏ဓာတုရွှေစေတီတော်ကြီးကို လာရောက်ရှိခိုးပူဇော်ပြီးလျှင် အနီးရှိတောင်ပို့တစ်ခုအတွင်းသို့ဝင်သွားလေသည်။ ဤသို့ တောင်ပို့အတွင်းဝင်သွားသော နဂါးမင်းကိုမြင်လိုက်ရသော အလမ္မာယ်ဆရာသည် ထိုတောင်ပို့အနီးသို့သွားပြီး နဂါးမင်းကို ဖမ်းဆီးရန်ဟု မြွေနိုင်မန္တန်ကိုစုပ်လေသည်။ အလမ္မာယ်ဆရာ၏မန္တန်စုပ်သံကို တောင်ပို့အတွင်း၌ရှိနေသော နဂါးမင်းကြားလေလျှင် ဒေါသအမျက်ချောင်းချောင်းထွက်၍ မြွေအလမ္မာယ်လူယုတ်မာကိုသတ်ရန် တောင်ပို့အတွင်းမှ ထွက်လာလေသည်။ အလမ္မာယ်ဆရာလည်း တွင်းထဲမှထွက်လာသော နဂါးမင်းကိုတွေ့မြင်သော် မဖမ်းဝံ့တော့ဘဲ ကြောက်လန့်ပြီး ခြေဦးတည့်ရာ ထွက်ပြေးလေတော့သည်။ အလမ္မာယ်ဆရာသည် ပြေးရင်းပြေးရင်း ကျောက်ဖျာတစ်ချပ်၏အစွန်းနှင့်တိုက်မိကာ ချော်လဲကျသွားသည်။ ထိုသို့ ချော်လဲကျစဉ်မှာပင် အလမ္မာယ်ဆရာသည် ရှေးအခါက ပြောင်သလိုပြက်သလို ရွတ်ဆို၍ အလေ့အကျင့်ရနေသော 'နမော ဗုဒ္ဓါယ'ဟူသော ဘုရားရှိခိုးကို နှုတ်ကယောင်၍ 'နမော ဗုဒ္ဓါယ'ဟု ရွတ်ဆိုမိလေသည်။

နဂါးမင်းသည် မြတ်စွာဘုရား၏သာသနာတော်၌ အလွန်ရိုသေသူဖြစ်၍ 'နမော ဗုဒ္ဓါယ'ဟူသော ဘုရားရှိခိုးသံကိုကြားလိုက်သည်နှင့် မိမိ၏အမျက်ဒေါသကိုရုပ်သိမ်းကာ အလမ္မာယ်ဆရာကို 'အဆွေ...၊ မကြောက်ပါနဲ့တော့၊ သင်သည် ငါ့ကို ရတနာသုံးပါးတည်းဟူသော ဂါထာကောင်း,မန္တန်ကောင်း ရတနတ္တယကျော့ကွင်းကောင်းဖြင့် တုပ်နှောင်ချည်တည်းလိုက်ပါပြီ။ ဒါကြောင့် သင့်ကို အန္တရာယ်မပြုတော့ပါ၊ ရတနာသုံးပါး၌ ကြည်ညိုသက်ဝင်နေသောသင့်အား ပူဇော်တဲ့အနေနဲ့လက်ဆောင်ပဏ္ဏာကိုပင် ငါပေးဦးမယ်'ဟူ၍ဆိုပြီး ရတနာရွှေပန်းခိုင်သုံးခိုင်ကို

အလမ္ပာယ်ဆရာအား ပေးအပ်ခဲ့လေသည်။ ပြီးနောက် နဂါးမင်းက 'မိတ်ဆွေ...၊ ဒီရွှေပန်းခိုင်သုံးခိုင်တွင် တစ်ခိုင်ကို သင့်အတွက်ကုသိုလ်မှုပြုပါ၊ တစ်ခိုင်ကို ငါ့အတွက် ကုသိုလ်မှုပြုပေးပါ၊ ကျန်တစ်ခိုင်ကို ရောင်းချပြီး သင်ရဲ့သားမယားကို ကျွေးမွေးပါ၊ ယခုအချိန်မှစပြီး ဒီမကောင်းတဲ့ အလမ္ပာယ်အလုပ်ကိုလဲ မလုပ်ပါနဲ့'ဟု မှာကြားလိုက်၏။

'ဘုရား,တရား,သံဃာ ရတနာသုံးပါးမည် သည်ကား လျင်သောအဆိပ်ပြင်းသောအဆိပ်ရှိသည့် မြွေနဂါးတို့၏ စိတ်ကိုပင် နူးညံ့သိမ်မွေ့နှစ်သက်စေခဲ့၏။

'ဗုဒ္ဓေါ...ဟူသော စကားအသံသည် လောက၌ အမြတ်ဆုံး(သေဋ္ဌ)၊ အမြင့်ဆုံး(ဥတ္တမ)ဖြစ်ပေ၏။ လောက၌ ဗုဒ္ဓေါ=ဘုရား...ဟူသော နှုတ်ထွက်သံနှင့်တူမျှသည့် နားအရသာကိုဆောင်တတ်သော စကားသံသည်မရှိ။ ထို့အတူ ဓမ္မော=တရားဟူသောအသံ၊ သံဃော=သံဃာဟူသော အသံတို့နှင့်တူသည့် နား၏အရသာကိုဆောင်တတ်သော စကားသံတို့သည်လည်း မရှိနိုင်ပါပေ။

'အကြင်သူ၏ခံတွင်း၌ လူနတ်နိဗ္ဗာန်သုံးတန်သောချမ်းသာကိုဆောင်တတ်သော ဗုဒ္ဓေါ-ဟူသော စကားသံ တည်နေပါမူ ထိုခံတွင်းသည် ခံတွင်းကောင်းမည်၏။ အကြင်သူ၏စိတ်၌ ဗုဒ္ဓေါ-ဟူသောစကားသံ ကိန်းဝပ်နေပါမူ ထိုနှလုံးသားသည် စိတ်ကောင်းနှလုံးကောင်းမည်ပေ၏။ ထို ဗုဒ္ဓ-ဟူသောစကားသည် စစ်မြေပြင်၌ ကိုယ်ကိုကာကွယ်သော ချပ်ဝတ်တန်ဆာနှင့်တူ၏။ လိုရာပေးစွမ်းနိုင်သော စိန္တာမဏိပတ္တမြားကြီးလည်းဖြစ်ပါပေ၏။ ထိုဗုဒ္ဓ-ဟူသောစကားလုံးသည်ပင် လိုရာရနိုင်သော နတ်သစ်ပင် ဖြစ်ပါ၏။

'ဗုဒ္ဓ-ဟူသောစကားသည် မွန်မြတ်လှသောကြောင့် အဆိပ်ရှိသော နဂါးမင်း၏ဘေးမှ လွတ်ကင်းကာ ရွှေပန်းခိုင်ရတနာကိုရခဲ့လေပြီ။ ဗုဒ္ဓ-ဟူသောစကားလုံး၏တန်ခိုးရှိန်စော်အာနုဘော်ကို သိမြင်နိုင်ပါ၏'။

အလမ္မာယ်ဆရာသည် နဂါးမင်းပြောသည့်အတိုင်း ကဿပမြတ်စွာဘုရားရှင်၏စေတီတော်၌ မိမိနှင့်နဂါးမင်းတို့အတွက် ရွှေပန်းခိုင်နှစ်ခိုင်တို့ဖြင့် ပူဇော်ခဲ့ပြီး နဂါးမင်းအား ကုသိုလ်အဖို့ကို အမျှပေးဝေလေသည်။ ကျန်သောရွှေပန်းတစ်ခိုင်ကို အသပြာတစ်ထောင်ဖြင့်ရောင်းချပြီး သားမယားတို့အား ကျွေးမွေးပြုစုစောင့်ရှောက်ခဲ့သည်။ ယုတ်ညံ့သောအလမ္မာယ်ဆရာအလုပ်ကိုလည်း ထိုအချိန်မှစ၍ စွန့်ပယ်လိုက်ကာ ရတနာသုံးပါး၌ ယုံကြည်သက်ဝင်ပြီး ကုသိုလ်ကောင်းမှုဆည်းပူးလျက် သေလွန်သောအခါဝယ် နတ်ပြည်၌ ဖြစ်ခဲ့လေပြီ။

ဤမြွေဆရာဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'မြတ်စွာဘုရား၏တန်ခိုးအာနုဘော်ကိုမသိပါဘဲ မြတ်စွာဘုရားအား ရှိခိုးပါ၏= နမော ဗုဒ္ဓါယဟု ရွတ်ဆိုကာမျှဖြင့် အသက်လည်းချမ်းသာရ၊ ရွှေပန်းခိုင်တည်းဟူသော ဥစ္စာလည်းရခဲ့ပါလျှင် မြတ်စွာဘုရား၏ တန်ခိုးအာနုဘော်ကိုသိကြသူအပေါင်းတို့အဖို့ အခြားသောကိစ္စတို့ကို ဖယ်ရှားပြီး 'အရဟံ သမ္မာသမ္ဗုဒ္ဓေါ'စသော ဘုရားရှင်၏ဂုဏ်တော်အပေါင်းကို ရွတ်ဆိုနေသင့်သည်မဟုတ်ပါလော'ဟု တိုက်တွန်းခဲ့ကြ၏။



# သရဏဂုံကြောင့် အသက်ဘေးမှလွတ်ခဲ့သူ

[ ဓ။ သရဏဝတ္ထုရဝတ္ထု ]

ဂေါတမမြတ်စွာဘုရားရှင်လက်ထက်တော်အခါက ဤဇမ္ဗူဒိပ်ကျွန်း သာဝတ္ထိပြည်တွင် သုမနသူဌေးနှင့် သူဌေးကတော်သုဇမ္ပတိကဟု သူဌေး မောင်နှံတို့ရှိခဲ့ကြ၏။ ထိုသူဌေးမောင်နှံ၌ သားတစ်ယောက်သမီးတစ်ယောက် ထွန်းကားခဲ့၏။ သားသမီးတို့အရွယ်ရောက်လာသောအခါ မိဘတို့က အကြီး ဖြစ်သော သားကိုခေါ်ပြီး မိမိတို့ပိုင်ဆိုင်သမျှ ပစ္စည်းဥစ္စာ ဘဏ္ဍာတို့ကို လွှဲအပ်ကာ 'သင်ချစ်သား၊ ဒီပစ္စည်းတို့ကိုယူပြီး တိုးတက်ကြီးပွားအောင် စီမံကြိုးကုတ်အားထုတ်ပါ။ သင်ရဲ့ညီမကလေးကိုလဲ ကောင်းစွာကြည့်ရှု စောင့်ရှောက်ပါလေ'ဟု အပ်နှံမှာကြားခဲ့၏။ ထိုသို့ မှာကြားပြီးနောက်တွင် သုမနသူဌေးမောင်နှံနှစ်ဦးစလုံး ကွယ်လွန်ခဲ့ကြ၏။

မိဘနှစ်ပါးလုံးကွယ်လွန်ကြသောအခါ အစ်ကိုကြီးဖြစ်သူသည် ညီမ ငယ်အား အရိပ်ပမာပြုစုစောင့်ရှောက်ခဲ့ပြီး အချိန်တန်အရွယ်ရောက်လာ သော် ညီမကို သင့်တော်သူနှင့်အိမ်ထောင်ချပေး၍ ဥစ္စာပစ္စည်းများကို လည်း ခွဲဝေပေးလိုက်၏။ မိမိလည်း အိမ်ထောင်ပြုခဲ့လေသည်။ မောင်နှမ နှစ်ဦးသည် ကိုယ်စီကိုယ်ငအိမ်ထောင်ပြုပြီး ဥစ္စာစီးပွားခွဲ၍ ကိုယ့်အိမ်ထောင် နှင့်ကိုယ် တစ်မြို့စီတစ်ရပ်စီ နေထိုင်ခဲ့ကြသည်။

ထိုသို့ မောင်နှမနှစ်ဦး တစ်မြို့စီနေထိုင်ခဲ့ကြရာမှ ညီမဖြစ်သူတွင် ပဋိသန္ဓေလွယ်မိသောအခါ မိမိအစ်ကိုကိုတွေ့လိုသဖြင့် လင်ဖြစ်သူအား လိုက်ပို့ရန်ပြောဆို၏။ လင်ဖြစ်သူကလည်း မိမိဇနီးမယားပြောသည့်အတိုင်း လက်ဆောင်ပဏ္ဏာများကိုယူဆောင်ကာ အစ်ကိုကြီးနေထိုင်ရာ မြို့ရှာသို့ ဇနီးမောင်နှံတို့ ထွက်ခွာခဲ့ကြလေသည်။

ထိုအခါ မြတ်စွာဘုရားရှင်သည် သံဃာအပေါင်းကိုခြံရံပြီး သာဝတ္ထိမြို့တွင်းသို့ ဆွမ်းခံဝင်လာတော်မူ၏။ ထိုလင်မယားနှစ်ယောက်သည် လက္ခဏာတော်ကြီးငယ်အသွယ်သွယ်ဖြင့် တင့်တယ်သပ္ပါယ်တော်မူသော မြတ်စွာဘုရားရှင်ကို ဖူးမြင်ကြရ၍ ကြည်ညိုသောစိတ်ဖြစ်ပေါ်လာကာ တည်ခြင်းငါးပါးဖြင့် ရှိခိုးလျက်နေကြ၏။ မြတ်စွာဘုရားရှင်သည် ထိုလင်မယားနှစ်ဦးတို့မဂ်ဖိုလ်၏ ဥပနိဿယနှင့်ပြည့်စုံမှုကို မြင်တော်မူ၍ သရဏဂုံသုံးပါးနှင့်တကွ ငါးပါးသောသီလတော်မြတ်ကိုတည်စေပြီးလျှင် 'သင်တို့၌ ဘေးဒုက္ခတစ်ရံတစ်ဆစ်နှင့်တွေ့ဆုံကြုံကြိုက်ခဲ့ပါမူ ငါဘုရား၏ ဂုဏ်ကို အဖန်တလဲလဲအောက်မေ့ကြကုန်လော့'ဟု ဆုံးမတော်မူခဲ့သည်။

ထိုလင်မယားနှစ်ယောက်တို့သည် မြတ်စွာဘုရားအား ရှိသေစွာရှိခိုးကြပြီး မိမိတို့၏အစ်ကိုကြီး ထံသို့ထွက်ခွာခဲ့ကြ၏။ အစ်ကိုကြီးအိမ်သို့ရောက်ကြသောအခါ မောင်နှမနှစ်ဦး ချစ်ကြည်စွာစကားပြောဆိုကြ, လက်ဆောင်ပဏ္ဏာပေးအပ်ကြပြီး နှစ်ရက်သုံးရက်ခန့်ကြာသော် ညီမငယ်၏ယောကျ်ားသည် မိမိ၏ရပ်ရွာ၌ အလုပ်ကိစ္စရှိသေးသဖြင့် ဇနီးသည်ကို အစ်ကိုကြီးထံ၌ ရက်အနည်းငယ် ထပ်၍နေပါစေဟု အပ်နှံပြီး မိမိနေရပ်သို့ ပြန်ခဲ့၏။

အစ်ကိုဖြစ်သူကလည်း ညီမငယ်မှာ ကိုယ်လေးလက်ဝန်ရှိနေသည့်အတွက် အထူးဂရုစိုက်ပြုစုယုယခဲ့သည်။ မိမိ၏ ဇနီးကိုလည်း ညီမငယ်ကို လိုလေသေးမရှိအောင် ဂရုစိုက်ဖို့ပြောဆို မှာကြားထားသည်။ အစ်ကိုကြီး၏ ဇနီးသည် ညီမဖြစ်သူကို ပြုစုလုပ်ကျွေးနေစဉ် ညီမငယ် ဝတ်ဆင်လာသော လက်ဝတ်ရတနာတို့ကိုတွေ့မြင်ရသောအခါ မရလျှင်မနေနိုင်လောက်အောင် လိုချင်တောင့်တသော လောဘတဏှာ အပြင်းအထန်ဖြစ်ပေါ်လာခဲ့၏။ ထိုမိန်းမသည် ညီမငယ်၏လက်ဝတ်ရတနာတို့ကို လိုချင်လွန်းအားကြီးသောကြောင့် မိမိကိုယ်ကိုမထိန်းသိမ်းနိုင်တော့ဘဲ လူမမာကဲ့သို့ ခုတင်ပေါ်၌ ခွေလျက်အိပ်စက်နေခဲ့သည်။ အစ်ကိုကြီးက မိမိမယား လူမမာကဲ့သို့

ခုတင်ပေါ်၌ခွေလျက်အိပ်နေသည်ကိုတွေ့မြင်ရသောအခါ 'ရှင်မ...၊ နေမကောင်းထိုင်မသာ ဘာအလိုမကျဖြစ်နေသလဲ'ဟု အကျိုး အကြောင်း မေးမြန်းလေသည်။

အစ်ကိုကြီး၏မိန်းမသည် မိမိယောကျ်ား၏အမေးကို မဖြေသေးဘဲ ဆိတ်ဆိတ်နေပြီး ဤသို့စဉ်းစား၏။ 'ငါသည် သူ့ညီမ၏ဥစ္စာရတနာကို လိုချင်ပါသည်ဟု ပြောလိုက်လျှင် သင့်မည်မဟုတ်၊ သူ့ညီမ၏အသားကို စားလိုပါသည်ဟုပြောလျှင် ညီမလည်းသေမည် သူ့ဥစ္စာရတနာကိုလည်း ရမည်'ဟု ပရိယာယ်ဆင်ကာ လင်ယောကျ်ားဖြစ်သူကို 'သင့်ညီမ၏ အသားကို စားလိုကြောင်း၊ မစားရပါက အသက်သေရပါမည့်အကြောင်း' ပြောကြားလေ၏။ လင်ဖြစ်သူသည် မိန်းမ၏စကားကိုကြားသောအခါ 'လူအသက်ကို သတ်ဖို့ဆိုသည်မှာ ဝန်လေးဖွယ်ကောင်းလေစွ၊ အထူးသဖြင့် မိမိ၏တစ်ဦးတည်းသော ဤညီမလေးကို မည်သည့်နည်းနှင့်မျှ မသတ်နိုင်ပါ'ဟု ပြင်းပြင်းထန်ထန် ခါးခါးသီးသီးငြင်းပယ်လေသည်။ သို့ပါသော် မယားဖြစ်သူက ကာမအာရုံဖြင့်လှည့်စားလိုက်သောအခါတွင် ကာမဂုဏ် ညွှန်တွင်းနစ်မွန်းသွားရှာသော အစ်ကိုကြီးသည် မယားစကားအောင်မြင် လွှမ်းမိုးပြီဖြစ်၍ 'အေး...အေး ရှင်မ၊ ကောင်းပါပြီ၊ သင်အလိုရှိတဲ့အတိုင်း ဖြစ်ရပါစေ့မယ်'ဟု ဝန်ခံစကား ပြောကြားလေတော့သည်။

ထို့နောက် အစ်ကိုဖြစ်သူက 'ညီမ၊ ငါတို့မိဘလက်ထက်ကထားတဲ့ ကြွေးများ ကျန်ရှိနေသေးတယ်။ အဲဒီကြွေးကို တို့မောင်နှမနှစ်ဦးသွားပြီး တောင်းကြရရင် ကောင်းမှာပဲ။ ညီမလေးလဲ လိုက်ခဲ့ပါ'ဟု စကားချိုချိုဖြင့် မလိုက်မနေအောင် ချော့၍ခေါ်၏။ နှမဖြစ်သူကလည်း မောင်ကြီးနှင့် အတူသွားရမည်ဆို၍ လိုက်ပါမည်ဟု ဝမ်းမြောက်ဝမ်းသာကတိပေးလေ သည်။ ထိုအခါ မောင်နှမနှစ်ယောက် လှည်းကလေးစီး၍ ကြွေးတောင်း ထွက်ခဲ့ကြသည်။ တောအုပ်ကြီးအတွင်းသို့ ရောက်သောအခါ အစ်ကိုက သူ့အကြံအတိုင်း နှမကိုသတ်ရန် ဆံပင်ကိုဆွဲ မြေမှလဲစေရာ နှမမှာ

ကြောက်လန့်တကြားဖြစ်ပြီး မိမိ၏အသက်ကို ချမ်းသာပေးပါရန် ငိုကြွေးတောင်းပန်ရှာလေသည်။ ထိုအချိန်မှာပင် နှမဌ လွယ်ထားသောပင့်သနွေသည် မွေးဖွားရန် ကမ္မဇလေတို့လှုပ်ရှားလာခဲ့၏။ နှမဖြစ်သူက 'မောင်ကြီးရယ်၊ ညီမလေးကိုသတ်ရင်သတ်ပါ၊ အခု ညီမကိုယ်ဝန်က မီးဖွားဖို့အချိန်ရောက်နေလို့မောင်ကြီးရယ်ခေတ္တရှောင်ပေးပါ၊မီးဖွားပါရစေ'တောင်းတောင်းပန်ပန်ပြောကြားသော်လည်း လောဘတဏှာမွှန်ထူနေသောမောင်ကြီးသည် နှမငယ်၏တောင်းပန်စကားကို လက်မခံဘဲ နှမကိုပင်သတ်ရန်အတင်းကြံစည်ရာ နှမဖြစ်သူမှာလည်း ရှက်ရှက်နှင့်ပင် ထိုနေရာမှာ သားယောကျ်ားလေးတစ်ဦးကို ဖွားမြင်ရရှာလေတော့သည်။

အစ်ကိုဖြစ်သူသည် နှမငယ်သားဖွားပြီးသည့်နောက် နှမငယ်၏ဆံပင်ကိုဆွဲပြီးသတ်ရန် ကြံစည်ပြန်သော် နှမငယ်က ဖွားစနီတာကလေးကိုအစ်ကိုကြီးအားပြပြီး 'မောင်ကြီးရဲ့တူကလေးမျက်နှာကို ကြည့်ပါဦး၊ ဒီတူကလေးရဲ့မျက်နှာကို ထောက်ပြီး နှမအရင်းဖြစ်တဲ့ ကျွန်မကိုမသတ်ပါနဲ့'ဟု သနားစဖွယ်တောင်းပန်ပြန်သော်လည်း မောင်ကြီးသည် နားမပါသူကဲ့သို့ မကြားယောင်ပြုနေခဲ့လေသည်။

နှမဖြစ်သူက 'ငါ အော်ဟစ်တောင်းပန် ငိုကြွေးနေတဲ့အတွက် သူစိမ်းတရံဆံတစ်ဦးဦး ဒီနေရာကိုရောက်လာရင် မောင်ကြီးကို ရန်ရှာတော့မှာပဲ၊ ကဲ...မထူးတော့ဘူး၊မောင်ကြီးသတ်လိုလျှင်လဲ သတ်ပါစေတော့'ဟု မိမိကိုသတ်ရန်ပြင်နေသည့် မောင်ကြီးအပေါ် မေတ္တာညွှတ်ပြီး ကလေးလေးကိုပွေ့ပိုက်ပြီး ထိုနေရာ၌ လဲလျောင်းအိပ်ချလိုက်သည်။ ပြီးလျှင် မိမိတို့မြို့ရွာကအထွက် မြတ်စွာဘုရားရှင်ကိုဖူးတွေ့ခဲ့ရစဉ်က မြတ်စွာဘုရားရှင်မိန့်ကြားသောစကားကို သတိရပြီး မြတ်စွာဘုရားရှင်၏ဂုဏ်တော်နှင့်သရဏဂုံတို့ကို ဆင်ခြင်အောက်မေ့ နေခဲ့လေသည်။ ထိုသို့ရတနာသုံးပါးဂုဏ်တော်တို့ကို အာရုံပြုသောအစွမ်းအာနုဘော်ကြောင့်လည်းကောင်း၊ သားကိုချစ်ခြင်းတည်းဟူသောမေတ္တာအစွမ်းအာနုဘော်ကြောင့်လည်းကောင်း

ထိုအနီး၌ရှိသော ပဒေါင်ပင်စောင့်နတ်သည် မနေနိုင်တော့ဘဲ ထိုသူငယ်မသားအမိကို ကယ်တင်စောင့်ရှောက်ရန် အကြောင်းဖန်လာသည်။

ပဒေါင်ပင်စောင့်နတ်သည် မိမိ၏အသွင်ကိုဖျောက် နှမငယ်၏ ယောကျ်ားအသွင်ကိုယူပြီး မယားကိုလာခေါ်သောယောကျ်ားဟန်ပန် လှည်းတစ်စီးဖြင့် ထိုနေရာသို့ရောက်လာ၏။ မယားကိုသတ်ရန် ပြင်နေသော အစ်ကိုကို ခြောက်လှန့်ပြီး တောအုပ်အတွင်းမှပြေးစေ၏။ ပြီးလျှင် သားအမိနှစ်ဦးကို သာဝတ္ထိမြို့သို့ လှည်းဖြင့်တင်ဆောင်ခဲ့ပြီး မြို့တွင်း ဇရပ်တစ်ခုတွင် သိပ်ထားခဲ့၏။ သာဝတ္ထိ၌နေထိုင်သော နှမငယ်၏လင် ယောကျ်ားသည်လည်း မိမိ၏ဇနီးကို သားနှင့်အတူ မြို့တွင်းဇရပ်သို့ ရောက်ရှိနေသည်ကို တွေ့ရသောအခါ အလွန်ဝမ်းမြောက်ပြီး 'မင်းတို့ကို ဘယ်သူလာပို့တာလဲ၊ မင်းတို့သားအမိ ဘယ်လိုလုပ် ဒီနေရာကို ရောက်လာသလဲ' စသည်ဖြင့် ဝမ်းပန်းတသာ မေးမြန်းလေတော့သည်။

ထိုအခါ ဇနီးဖြစ်သူက 'မောင်ကြီး ရှင်ရူးနေသလား၊ ရှင်ပဲ ကျွန်မတို့သားအမိကို ဟိုတောအုပ်ထဲကနေ လှည်းပေါ်တင်ပြီး ဒီနေရာကိုခေါ်ခဲ့တာလေ'ဟုပြောသောအခါ၊ လင်ဖြစ်သူက 'ငါ မင်းရဲ့အစ်ကိုအိမ်မှာထားခဲ့တာ ကြာလှပေါ့၊ ငါလဲ အဲဒီရွာကိုမလာရပါကလား၊ ပြောပြစမ်းပါဦး၊ မင်းတို့သားအမိ ဘယ်လိုဖြစ်လာခဲ့တာလဲ'ဟု မေးလေ၏။ ထိုအခါမှ သူငယ်မသည် မိမိအစ်ကို၏ရာဂတဏှာပူး၍ အရူးသဖွယ်ဖြစ်ပုံနှင့် မိမိတို့ သားအမိ အဖြစ်ဆိုးကြုံခဲ့ပုံတို့ကို ပြန်လည်စဉ်းစားမိကာ ချုံးပွဲချငိုကြွေးပြီး ငို၍ဝကာမှ လင်ဖြစ်သူကို 'ဒီအကြောင်းတွေ ဘယ်သူ့ကိုမှ ပြန်မပြောပါနဲ့၊ ဖြစ်ကြောင်းကုန်စင်က ဒီလိုပါ'ဟု မိမိဖြစ်ပျက်သမျှကို ပြန်လည်ပြောပြ၏။ သူငယ်မ၏ လင်ယောကျ်ားသည်လည်း အဖြစ်အပျက်အလုံးစုံကို ကြားသိရသောအခါ သံဝေဂရထိတ်လန့်တုန်လှုပ်လေသည်။ ထို့နောက် လင်မယားနှစ်ယောက် သားကလေးနှင့်အတူ အိမ်သို့ပြန်ကြပြီး၊ လေးငါးရက်ခန့် အနားယူ အပန်းဖြေခဲ့ကြ၏။

အပန်းပြေသောအခါ မြတ်စွာဘုရားရှင်အား ပင့်ဖိတ်လျှောက်ထားပြီး မိမိတို့အိမ်၌ အလှူကြီးပေးလေသည်။ သရဏဂုံသီလအာနုဘော် အစွမ်းကြောင့် မိမိတို့အသက်ဘေးမှ လွတ်မြောက်ရပုံ အကြောင်းစုံကို ဖွင့်ဟလျှောက်ထားခဲ့ကြပြီး မိမိ၏သားငယ်ကလေးကို မြတ်စွာဘုရားရှင်အားရှိခိုးစေ၍ 'သရဏ'ဟူသောအမည်ကို မှည့်ခေါ်ခဲ့ကြ၏။ မြတ်စွာဘုရားရှင်သည် ထိုမောင်နှံနှစ်ဦးနှင့်သင့်လျော်မည့်တရားကို ဟောကြားတော်မူရာ တရားတော်၏အဆုံး၌ သောတပန်ဖြစ်ကြ၏။ ထိုသရဏအမည်ရှိသော ကလေးငယ်သည်လည်း အသက်နှစ်ဆယ်ပြည့်သော် ရဟန်းပြုခဲ့ပြီး ဝိပဿနာဘာဝနာပွားများဆင်ခြင်၍ ရဟန္တာအဖြစ်သို့ရောက်တော်မူခါ သရဏမထေရ်ဟု ထင်ရှားခဲ့လေသည်။

ဤထိတ်လန့်ဖွယ်ကောင်းအောင်အဖြစ်ထူးသော သရဏမထေရ်၏ မိဘတို့အဖြစ်အပျက်ကို အကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'လူနတ်တကာတို့ထက်မြတ်သော ဘုရားရှင်ကို စိတ်ဖြင့် ခဏမျှအောက်မေ့သတိရလိုက်ရုံမျှဖြင့် ထောက်တည်ရာအားကိုးမှီခိုရာရကြသကဲ့သို့ သင် သူတော်ကောင်းတို့သည်လည်း မြတ်စွာဘုရား၏ဂုဏ်တော်ကို အခါခပ်သိမ်းဆင်ခြင်၍ သရဏဂုံသီလကို မြဲမြံအောင်ဆောက်တည်ကြပါကုန်'ဟု တိုက်တွန်းခဲ့သည်။



# မီးပုံကြီးအတွင်းသက်ဆင်းရသူ

[ ၇။ ဝေဿာမိတ္တာဝတ္ထု ]

တစ်ချိန်သောအခါက ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ ကောသမ္ဗီပြည်ကြီး၌ ကောသမ္ဗီမင်းကြီး အုပ်ချုပ်မင်းလုပ်နေခဲ့သည်။ ထိုမင်းကြီး၏ အဂ္ဂမဟေသီမိဖုရားကြီးသည်ကား ဝေဿာမိတ္တာအမည်ရှိ၏။ ထိုအခါ မြတ်စွာဘုရားရှင်သည် သံဃာတော်အပေါင်းခြံရံလျက် ကောသမ္ဗီမြို့၌ သီတင်းသုံးနေတော်မူခဲ့လေသည်။

ဝေဿာမိတ္တာမိဖုရားကြီးသည် ကောသမ္ဗီမင်းကြီးနှင့်အတူ မြတ်စွာဘုရားရှင်သီတင်းသုံးတော်မူရာ ကျောင်းတော်သို့သွားရောက်၍ မြတ်စွာဘုရားကိုဖူးမြော်၍ တရားတော်တို့ကို ရိုသေစွာနာယူခဲ့၏။ ဘုရားရှင်၏ တရားတော်ကိုနာပြီးသော် ဝေဿာမိတ္တာမိဖုရားကြီးသည် သရဏဂုံတည်ခဲ့လေသည်။ ဗုဒ္ဓမာမိကာ ဗုဒ္ဓသာမိကာဟု ဘုရားကိုမြတ်နိုးသူ တပည့်ရင်နှစ်သမီးအဖြစ်ကိုလည်း ခံယူခဲ့လေသည်။

ထိုကာလနောက်ပိုင်း၌ ကောသမ္ဗီပြည်၏အနီးဝန်းကျင်ရှိ ပစ္စန္တရစ်နိုင်ငံတစ်ခုမှ မင်းတစ်ပါးသည် ကောသမ္ဗီပြည်ကိုတိုက်ခိုက်ရန်ဟု စစ်ချီလာလေသည်။ ကောသမ္ဗီပြည်အနီးသို့ရောက်သောအခါ ကောသမ္ဗီမင်းကြီးထံသို့ 'တိုင်းပြည်ကိုအပ်မည်လော၊ စစ်ထိုးမည်လော'ဟု စိန်ခေါ်သောသတင်းစကားပို့လိုက်သည်။ ကောသမ္ဗီမင်းကြီးလည်း 'တိုင်းပြည်ကိုတော့မအပ်၊ စစ်ကိုသာအနိုင်ထိုးမည်'ဟု အကြောင်းပြန်ကြားပြီး စစ်ထိုးရန်ပြင်ဆင်သည်။ ထိုအခါ ကောသမ္ဗီမင်းကြီးသည် ဝေဿာမိတ္တာမိဖုရားကြီးကိုပါခေါ်၍ စစ်သည်ဗိုလ်ပါတို့နှင့် စစ်ထိုးရန်ထွက်တော်မူခဲ့၏။

စစ်ထိုးရန်အချိန်သို့ရောက်သော် မိမိတို့ခံတပ်အတွင်း၌ မိဖုရားကြီးကို 'မိဖုရားကြီး၊ စစ်မြေပြင်ဆိုတာ ရှုံးမယ်နိုင်မယ် ဘယ်သူမှ ကြိုပြီးမသိနိုင်ဘူး၊ အကယ်၍ ငါရှုံးနိမ့်မယ်ဆိုပါက စစ်မြေပြင်မှာရှိတဲ့ တို့ရဲ့အလံတိုင်မှာ အနီရောင်အလံကို လွှင့်ထားပါလိမ့်မယ်၊ အနီရောင်အလံကိုလွှင့်ထား တာတွေ့ပါက ငါတို့စစ်ရှုံးပြီဟုသိပြီး သင်မိဖုရားကြီး ဒီအရပ်က လွတ်ရာသို့ ပြေးပါလေ'ဟု အတွင်းစကား မှာကြားထားခဲ့လေသည်။

ဤသို့ပြောဆိုပြီး ကောသမ္ဗီမင်း စစ်မြေပြင်သို့ရောက်၍ တစ်ဖက်နှင့်တစ်ဖက် အပြင်းအထန်စစ်ထိုးကြသောအခါ ကောသမ္ဗီမင်းသည် စစ်ရှုံးဖို့ရန်အကြောင်းဖန်လာလေသည်။ ထိုအခါ မိမိ၏လက်အောက်ငယ်သား တို့ကို အမှတ်သညာပေးပြီး အလံတိုင်ထိပ်၌ အနီရောင်အလံကိုလွှင့်ထူစေသည်။ ထိုသို့အနီရောင်အလံလွှင့်သည်ကိုမြင်လျှင် ဝေဿာမိတ္တာမိဖုရားကြီးသည် မင်းကြီးစစ်ရှုံးပြီဟုသိ၍ ခံတပ်အတွင်းမှထွက်ပြေးရန် ပြင်ဆင်လေသည်။ မိဖုရားကြီးထွက်ပြေးသောအခါ တစ်ဖက်ပစ္စန္တရစ်နိုင်ငံမှ မင်းမှုထမ်းတို့က ကောသမ္ဗီမင်း၏မိဖုရားကြီးမှန်းသိသွားကြပြီး ဝေဿာမိတ္တာမိဖုရားကြီးကိုဖမ်းဆီး၍ ပစ္စန္တရစ်မင်းကြီးထံ ခေါ်ဆောင်သွားကြ၏။

ပစ္စန္တရစ်မင်းသည် ဝေဿာမိတ္တာမိဖုရားကြီးကို မြင်လျှင်မြင်ချင်း တပ်မက်သောစိတ်ဖြစ်ပေါ်လာပြီး 'ဒီမိဖုရားကို ငါသိမ်းပိုက်မယ်၊ ရေသွန်းဘိသိက် မင်္ဂလာပွဲဆင်နွှဲတော်မူမယ်၊ ငါ့အား ဘိသိက်သွန်းကြ'ဟု ဝေဿာမိတ္တာမိဖုရားကြီးကို မိဖုရားမြှောက်ပြီး ဘိသိက်ခံယူရန် အမိန့်ရှိလေသည်။ မင်းကြီးမိန့်ဆိုသည့်အတိုင်း မှူးမတ်တို့က ဘိသိက်ခံယူရန် ဝေဿာမိတ္တာမိဖုရားကြီးကို တောင်းပန်ကြသောအခါ ဝေဿာမိတ္တာမိဖုရားကြီးက 'သင်တို့သွန်းမယ့်ဘိသိက်ကို ငါမလိုချင်ဘူး'ဟုဆိုပြီး အပြင်းအထန်ငြင်းပယ်လေသည်။

ထိုအကြောင်းကို ပစ္စန္တရစ်မင်းကြီးထံ အကြောင်းကြားသောအခါ မင်းကြီးက ဝေဿာမိတ္တာမိဖုရားကြီးကို 'မိဖုရားကြီး၊ ဘာကြောင့် ဘိသိက်

အသွန်းမခံချင်ဖြစ်နေရပါသလဲ’ဟု မေးလေသည်။ ဝေဿာမိတ္တာ မိဖုရားကြီးက ‘အရှင်မင်းကြီး၊ မပြောမပြီး မတီးမမြည် အကျွန်မပြောပြမယ့်စကားကို စေ့စေ့စပ်စပ်ကောင်းစွာ နားဆင်တော်မူပါ။ အကျွန်ုပ်ရဲ့သခင်ကျေးဇူးရှင်ကောသမ္ဗီမင်းကြီးဟာ ယနေ့မှာပင် နတ်ရွာစံ ကံတော်ကုန်ခဲ့ရှာလေပြီ။ ကောသမ္ဗီမင်းကြီးနဲ့ ဘိသိက်သွန်းမင်္ဂလာပြုပြီးတဲ့ အခါမှစ၍ အကျွန်မသည် မိမိကိုယ်ကို ထိုမင်းကြီးရဲ့နှလုံးသားကဲ့သို့ စောင့်ရှောက်ခဲ့ပါတယ်။ ယခု ကောသမ္ဗီမင်းကြီးကို အောက်မေ့သတိရတဲ့အတွက် အကျွန်မရဲ့စိတ်၌သောကတည်းဟူသော မီးတို့နဲ့တောက်လောင်နေခဲ့ပါပြီ။ ထိုသောကမီး တောက်လောင်နေရသော အကျွန်မသည် သင်မင်းကြီး၏ဘိသိက်ရေစင်သွန်းဖျန်းပါသော်လည်း ထိုသောကမီးတို့ ငြိမ်းနိုင်လိမ့်မည်မဟုတ်ပါ၊ ဒါ့ကြောင့် မတ်ချွေရွှေဝန်းရေသွန်းတော်ခံ စံစားရမည့်အခွင့်အရေးကို မတောင့်တမိသည်မှာ အမှန်ဖြစ်ပါတယ်။ ဒါ့အပြင်သောကမီးဖြင့်ညီးညီးတောက်လောင်နေရသော အကျွန်ုပ်ရဲ့ဟဒယနှလုံးမှာ နောက်ထပ်သောကဖြစ်စရာ မီးစာအဖြစ် ထပ်ပြီးလဲမဖြည့်ချင်တော့ပါ။ ချစ်သူနဲ့ကွေကွင်း၍ ဆင်းရဲခြင်းများစွာ ကြုံရရှာသော အကျွန်ုပ်အား တော်ဝင်နန်းထိုက်မြတ်လေးပန်းမကိုင့်ကို မွေးချင်မွေး လှိုင်ချင်လှိုင် ကြူယူတော်မူဘယ်လိုပေးသော်လဲ မမွေးလိုမပန်လိုတော့ပါအရှင်မင်းကြီး’ဟူ၍ ပြန်လည်ဖြေကြားခဲ့၏။

ဝေဿာမိတ္တာမိဖုရားကြီး၏ အဖြေစကားတို့ကိုကြားသော ပစ္စန္တရစ်မင်းကြီးသည် အမျက်ဒေါသချောင်းချောင်းထွက်ပြီး ‘သင်မိဖုရားကြီးသည်ငါနဲ့ ဘိသိက်သွန်းမခံနိုင်ဟုငြင်းပယ်တယ်ဆိုပါက သင်သည် မီးပုံကြီးအတွင်းသို့ ဝင်ရပေလိမ့်မယ်’ဟု ခြိမ်းခြောက်လေသည်။ မိဖုရားကြီးကငြင်းပယ်မြဲငြင်းပယ်နေသည့်အတွက် မီးပုံကြီးတစ်ခုကို စီမံစေပြီး ဝေဿာမိတ္တာမိဖုရားကြီးကို ထိုမီးပုံအတွင်းသို့ဝင်စေ၏။ ဝေဿာမိတ္တာမိဖုရားကြီးက တောင်းပန်စကားဆိုသော်ငြားလည်း ပစ္စန္တရစ်မင်းကလက်မခံဘဲ

မိမိ၏အလိုသို့မလိုက်လျှင် မီးပုံအတွင်းသို့ ဝင်ရန်ကိုသာ ရာဂရမ္မက်ထန်နေသောစိတ်ဖြင့် ပြောကြားလေတော့သည်။ ပစ္စန္တရစ်မင်းသည် မင်းမှုထမ်းတို့အား ဝေဿာမိတ္တာမိဖုရားကြီးကို မီးပုံတွင်းသို့ အတင်းအဓမ္မချုပ်နှောင်၍ ထိုးသွင်းစေ၏။

ထိုအခါ ဝေဿာမိတ္တာမိဖုရားကြီးက 'ငါ့မှာ ဘုရားရှင်မှတစ်ပါး ကိုးကွယ်ရာမရှိပါတကား။ သို့ဖြစ်၍ ဘုရားရှင်၏ဂုဏ်ကို 'ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ။ ဓမ္မံ သရဏံ ဂစ္ဆာမိ။ သံဃံ သရဏံ ဂစ္ဆာမိ'ဟု အာရုံပြုအောက်မေ့ဆင်ခြင်နှလုံးသွင်းကာ မီးပုံအတွင်းသို့ဝင်ခဲ့လေသည်။ အလျှံပြောင်ပြောင်တောက်လောင်နေသော ထိုမီးပုံမီးတောက်ကြီးသည် မိဖုရားကြီး၏ ခန္ဓာကိုယ်ကိုမဆိုထားဘိ၊ မိဖုရားကြီး၏မွေးညင်းတစ်ပင်ကိုမျှ လောင်ကျွမ်းနိုင်စွမ်းမရှိခဲ့ပေ။ မိဖုရားကြီးသည် မီးပုံအတွင်းဝင်လိုက်သောအခါ ပဒုမ္မာကြာတိုက်အတွင်းသို့ ဝင်လိုက်ရသကဲ့သို့ တစ်ကိုယ်လုံးအေးမြသွားလေသည်။ ဤသို့ ဝေဿာမိတ္တာမိဖုရားကြီး မီးပုံအတွင်း၌ မီးမလောင်ဘဲ အေးအေးချမ်းချမ်းရှိနေသည်ကိုမြင်ရသောအခါ ပစ္စန္တရစ်မင်းကြီးသည် ကြောက်ရွံ့ထိတ်လန့်ပြီး မိဖုရားကြီးကို မီးပုံအတွင်းမှ အမြန်ထုတ်စေ၍ မြတ်သောနေရာ၌ထားကာ'မိဖုရားကြီး...၊ ဘာကြောင့် သင့်ရဲ့ကိုယ်ကို မီးမလောင်ကျွမ်းပါသလဲ'ဟု မေးမြန်းခဲ့လေသည်။

ဝေဿာမိတ္တာမိဖုရားကြီးက 'မင်းကြီး...၊ ဒီမြေအပြင်မှာ သေဘေးအစရှိတဲ့ ဘေးအမျိုးမျိုးတို့နဲ့ သတ္တဝါတို့ကြုံတွေ့ကြရတဲ့အခါ မိခင်,ဖခင်, ဆွေမျိုးညာတိ,အခြွေအရံ,မိတ်ဆွေ,မန္တန်ဆေးဝါး,တန်ခိုး စသောအရာများ၊ နတ်ဒေဝတာများ၊ ဒါ့အပြင် အမျိုးမျိုးသော အထင်ကြီးအားကိုးစရာတို့ ရှိကြသော်လည်း ရှိကြမှာပါ။ နို့ပေမယ့် သရဏဂုံသုံးပါးမှတစ်ပါး တခြားဘယ်အရာကမှ စောင့်ရှောက်နိုင်လိမ့်မှာမဟုတ်ပါဘူး။ မြတ်စွာဘုရားကို ဆည်းကပ်ကိုးကွယ်ပါ၏ဟုဆိုသော ဗုဒ္ဓသရဏဂုံ၏အစွမ်းကြောင့် ဤမီးလျှံမီးတောက်ဟာ ငါ့ကို မလောင်ကျွမ်းနိုင်ပါဘူး။ ဒါ့အတူ တရားတော်

ကိုဆည်းကပ်ကိုးကွယ်ပါ၏ဟုဆိုသော ဓမ္မသရဏဂုံရဲ့အစွမ်းကြောင့် ဒီညီးညီးပြောင်ပြောင်တောက်လောင်နေတဲ့ မီးလျှံမီးတောက်ဟာ ငါ့ကို မလောင်ကျွမ်းနိုင်ပါဘူး။ ဒါ့အတူ သံဃာတော်မြတ်ကို ဆည်းကပ်ကိုးကွယ်ပါ၏ဟုဆိုသော သံဃာဂုဏ်ရဲ့အစွမ်းကြောင့်လဲ ဒီမီးလျှံမီးတောက်ဟာ ငါ့အား မလောင်ကျွမ်းနိုင်ပါဘူး။။

'သရဏဂုံသုံးပါးရဲ့ အရှိန်အစော်အာနုဘော်ဟာကြီးမားပါတယ်။ လက်ငင်း အကျိုးလဲပေးတတ်ပါတယ်၊ လာပြီးရှုလှည့်၊ ယခုကြည့်လှည့်ဟု ဖိတ်ခေါ်နိုင်စွမ်းရှိပါတယ်၊ ဥပဒ်ဘေးဆိုးအမျိုးမျိုးကို ချိုးဖဲ့ဖျက်နိုင်စွမ်း ရှိပါတယ်၊ လူနတ်နိဗ္ဗာန်သုံးတန်ခေါ်ရိုး သမ္ပတ္တိအကျိုးမျိုးကိုလဲ ပေးတတ်ပါတယ်။

'အကြင်သူသည် ရတနာသုံးစုံသရဏဂုံကို မဆောက်တည်မခံယူဘဲ ဒီပစ္စုပ္ပန်သံသရာလောက၌ ချမ်းသာစီးပွားကိုကိုခံစားရလိမ့်မှာမဟုတ်ပါဘူး။ အကြင်သူသည် ရတနာသုံးစုံသရဏဂုံကို ဆောက်တည်ပြီးမှသာ ပစ္စုပ္ပန်သံသရာ နှစ်ဖြာသောလောက၏အစီးအပွားချမ်းသာကို မကွေမကွာ ရှာမှီးနိုင်ပါလိမ့်မယ်။

'သင်မင်းကြီးသည်လည်း ဒီရတနာသုံးစုံ မြတ်သရဏဂုံကို ဆောက်တည်ခံယူပါ။ အရေးကိစ္စကြုံလာပါက ဘေးဒုက္ခတွေ့ကြုံလာပါက ဒီသရဏဂုံမြတ်သုံးပါးသည်သာလျှင် သင်ရဲ့ခိုအောင်းမှီခိုရာ ကိုးကွယ်လဲလျောင်းရာဖြစ်ပါလိမ့်မယ်'ဟု ပြောကြားလေ၏။

ဝေဿာမိတ္တာမိဖုရားကြီး၏စကားကိုကြားရသောအခါ ပစ္စန္တရစ်မင်းကြီးသည် နူးညံ့ပျော့ပျောင်းသောစိတ်ဖြစ်ပေါ်လာ၍ မိဖုရားကြီးကို ရိုသေစွာရှိခိုးကန်တော့ပြီး 'ဒီနေ့မှစပြီး သင်မိဖုရားကြီးသည် ငါရဲ့မယ်တော် အရာမှာတည်ပါစေတော့'ဟု မယ်တော်အရာ၌ထားပြီး ပြုစုစောင့်ရှောက်ခဲ့၏။ ရတနာသုံးစုံ မြတ်သရဏဂုံကိုလည်း ဆောက်တည်ခဲ့လေသည်။ ထိုနေရာ၌ စုဝေးရောက်လာကြသော မင်းပရိသတ်အပေါင်းတို့သည်

ဝေဿာမိတ္တာမိဖုရားကြီး၏အံ့ဖွယ်သရဲ ထူးဆန်းသောအဖြစ်ကို တွေ့မြင်ကြရသောအခါ သရဏဂုံသုံးပါးနှင့်ငါးပါးသောသီလတော်မြတ်ကို ဆောက်တည်ကြကာ ဒါနအစရှိသော ကုသိုလ်ကောင်းမှုတို့ကို အားထုတ်ခဲ့ကြသည်။

ဤဝေဿာမိတ္တာမိဖုရားကြီး၏ဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က ‘ဝေဿာမိတ္တာမိဖုရားကြီးသည် သီလကိုမစောင့်ထိန်းဘဲ သရဏဂုံဆောက်တည်ခြင်းသက်သက်ဖြင့် ထိန်ထိန်ပြောင်ပြောင်တောက်လောက်၍နေသော မီးပုံကြီးအလယ်၌ ချမ်းမြေ့အေးမြမှုကိုရခဲ့သေး၏။ မြတ်သောသရဏဂုံကို ငါးစုံသောသီလထည့်စွက်၍ စောင့်သုံးနေကြသော သင်သူတော်ကောင်းတို့သည်မူကား စည်းစိမ်ချမ်းသာဘောဂသမ္ပတ္တိ အဖြာဖြာကို ရနိုင်ကြမည်သာမကဘဲ ဒုက္ခခပ်သိမ်း ချုပ်ငြိမ်းရာမှန် နိဗ္ဗာန်ချမ်းသာကိုမရဘဲ ဘယ်မှာ ရှိပါအံ့နည်း’ဟု စကားဆောင်သွေး ဂါထာရေးခဲ့ကြပါ၏။



# သိကြားမင်းကိုသတ်၍စည်းစိမ်လုလိုသူ

[၈။ မဟာမန္ဓာတုဝတ္ထု]

ဤဘဒ္ဒကမ္ဘာမှ ပြန်၍ရေတွက်သော် (၉၁)ကမ္ဘာထက်၌ ဝိပဿီမြတ်စွာဘုရား ပွင့်တော်မူခဲ့ပါသည်။ ထိုဝိပဿီမြတ်စွာဘုရား ပွင့်တော်မူသောအခါ ဗန္ဓုမတီမြို့၌ အပ်ချုပ်သမားတစ်ဦးရှိခဲ့၏။ ထိုအပ်ချုပ်သမားသည် ဘုရားအမှူးရှိသော ရဟန်းသံဃာတော်တို့အား ဗန္ဓုမတီမြို့သားများ အလှူကြီးပေးသည်ကို ကြည့်ရှုပြီး၊ မိမိသည်လည်း ဘုရားအမှူးရှိသောသံဃာတော်အရှင်မြတ်တို့အား တစ်စုံတစ်ခုသောဝတ္ထုပစ္စည်းကို လှူလိုသောဆန္ဒပြင်းပြနေခဲ့၏။ သို့ပါသော် ထိုအပ်ချုပ်သမားဆင်းရဲသားခမျာ မွန်မွန်မြတ်မြတ်လှူဖွယ်ရာ ကိုယ်ပိုင်ပစ္စည်းဟူ၍ ဘာမျှမရှိရှာပေ။

ထိုအပ်ချုပ်သမားဆင်းရဲသားက 'ငါ့မှာ မလှူခဲ့လို့မရှိ၊ မရှိပြန်တော့မလှူနိုင်၊ ဒီဆင်းရဲမွဲတေလှတဲ့ ဝဋ်ဒုက္ခသံသရာကြီးထဲက ဘယ်တော့မှလွတ်နိုင်ပါတော့မလဲ၊ အကယ်၍ ဒီနေ့ဒီရက်ဒီအချိန်မှာ ကုသိုလ်ဒါနမျိုးစေ့ကို မစိုက်ပျိုးခဲ့ရင် ဒီဆင်းရဲဒုက္ခက လွတ်မှာမဟုတ်တော့ပါဘူး'ဟု တွေးတောပြီး၊ လုံ့လကြီးစွာထုတ်လျက် ငွေအသပြာအနည်းငယ်ကို မရ,ရအောင်ရှာဖွေခဲ့၏။ ထိုအနည်းငယ်သော အသပြာမျှဖြင့် မွန်မွန်မြတ်မြတ် အလှူဝတ္ထုကို ဝယ်ယူလှူဒါန်းရန် မဖြစ်နိုင်သည့်အတွက် ဈေးသို့သွားပြီးလျှင် ပဲလွန်းစေ့တို့ကို ဝယ်ယူခဲ့လေ၏။ ထိုပဲလွန်းစေ့တို့ကို တောင်းတစ်လုံး၌ ထည့်၍ ဘုရားအမှူးရှိသော သံဃာတော်အပေါင်းရှိရာ ဆွမ်းစားဇရပ်သို့ သွားပြီး တစ်နေရာ၌ရပ်ကာ 'ငါသည် ဤပဲလွန်းစေ့တို့ကို လောင်းလှူရန် သင့်တော်မည်မဟုတ်၊ အကယ်၍ ဤပဲစေ့များကို ကောင်းကင်သို့မြှောက်၍

ကြဲလိုက်အံ့၊ ကောင်းကင်မှ ပြန့်ကျလာသော ထိုပဲစေ့တို့တွင် ပဲစေ့ကလေး တစ်စေ့သည် သံဃာတော်အရှင်မြတ်တစ်ပါး၏သပိတ်ထဲသို့ကျရောက်သွား ပါက ထိုတစ်စေ့မျှသော ပဲစေ့ဒါနဖြင့် ပစ္စုပ္ပန်သံသရာနှစ်ဖြာသော အကျိုး ငါ့မှာဖြစ်ပွားပေလိမ့်မည်'ဟုကြံစည်ပြီး ဘုရားအမှူးရှိသော သံဃာတော် တို့အား ကြည်ညိုသောစိတ်ဖြင့် ပဲစေ့တို့ကို အထက်သို့မြှောက်၍ ပစ်ကြဲ လိုက် လေသည်။

အပ်ချုပ်သမား ပစ်ကြဲလိုက်သော ပဲစေ့များသည် မြတ်စွာဘုရား အမှူးရှိသော သံဃာတော်တို့၏ သပိတ်အတွင်းသို့သာ ကျ၏။ ထိုသပိတ် တို့၏အပြင်၌ တစ်စေ့မျှပင် မကျခဲ့ပေ။ ထိုအခါ အပ်ချုပ်သမားသည် အံ့ဖွယ်သရဲ ထူးကဲသောဖြစ်ရပ်ကို တွေ့မြင်ရ၍ မြတ်စွာဘုရားအမှူးရှိသော သံဃာတော်တို့အား ကြည်ညိုသောစိတ်ဖြင့် လက်အုပ်ချီကာ ဤသို့ ဆုတောင်းခဲ့လေသည်။

'ငါသည် မြတ်စွာဘုရားကို ကြည်ညိုသောစိတ်ဖြင့် ပူအပ်သော ဤကောင်းမှုကြောင့် ဖြစ်တိုင်းဖြစ်တိုင်းသောဘဝတို့၌ ကာမဂုဏ်စည်းစိမ် ချမ်းသာခံစားရသောသူတို့တွင် အသာဆုံး အမြတ်ဆုံး ခံစားရသူ ဖြစ်ရပါ လို၏။ ကောင်းကင်ကိုကြည့်ပြီး လက်နှင့်ပုတ်သလိုပြုကာမျှဖြင့် ရတနာ ခုနစ်ပါးသည် မိုးကဲ့သို့ ရွာပါစေသတည်း'ဟူ၏။

ဤသို့ ဆုတောင်းပြီးနောက် အပ်ချုပ်သမားသည် ဘဝများစွာ နတ်ပြည်,လူ့ပြည်၌ကျင်လည်၍ ကြီးစွာသောနတ်စည်းစိမ်ချမ်းသာ, လူ့စည်းစိမ်ချမ်းသာကို ခံစားပြီး ဤဘဒ္ဒကမ္ဘာအစ၌ မဟာမန္ဓာတု မည်သော စကြဝတေးမင်းဖြစ်လာ၏။ ထိုမန္ဓာတုစကြာမင်းသည် လက်ဝဲ လက်ကိုခွေ၍လက်ယာလက်ဖြင့် ပုတ်ခတ်သည်ရှိသော် ကောင်းကင်မှ ရတနာမိုးရွာချလေသည်။ ထိုမန္ဓာတုစကြာမင်းသည် အနှစ်ရှစ်သောင်းလေး ထောင် မင်းသားငယ်ဘဝဖြင့် နေခဲ့၏။ အနှစ်ရှစ်သောင်းလေးထောင် အိမ်ရှေ့မင်းအဖြစ် နေခဲ့၏။ အနှစ်ရှစ်သောင်းလေးထောင် စကြဝတေး

မင်းအဖြစ်နေ၍ မင်းစည်းစိမ်ကို အမျိုးမျိုးအလှယ်လှယ် ခံစားခဲ့၏။ ထိုမန္ဓာတုစကြာမင်း၏အသက်တမ်းကား အသင်္ချေဖြစ်၏။

ထိုမန္ဓာတုစကြာမင်းသည် ကာမဂုဏ်စည်းစိမ်ချမ်းသာအမျိုးမျိုးကို ခံစားရ၍ ကြာမြင့်လာသောအခါ ငြီးငွေ့လာခဲ့လေသည်။ ထိုအခါ အမတ်တို့က 'မင်းကြီး...၊ဘာကြောင့် ငြီးငွေ့ပါသလဲ'ဟုမေးကြ၏။ မန္ဓာတုစကြာမင်းက 'ဒီလူ့စည်းစိမ်ချမ်းသာကိုခံစားရတာ ကာလကြာမြင့်လှပြီဖြစ်လို့ ငြီးငွေ့လာတယ်၊ ဒီလူ့ပြည်ထက်ပိုပြီးမွေ့လျော်ဖွယ်ကောင်းတဲ့ အရပ်ရှိပါသေးသလား'ဟုပြောလေရာ အမတ်ကြီးများက 'ဤလူ့ပြည်ထက် နတ်ပြည်နတ်ရပ်က ပို၍ပျော်မွေ့ဖွယ်ကောင်းပါသည်' လျှောက်တင်ကြကုန်၏။

ထိုအခါ မန္ဓာတုစကြာမင်းသည် စကြာရတနာကို ရေဖျန်းပြီး ပရိသတ်လေးပါးခြံရံလျက် စတုမဟာရာဇ်နတ်ပြည်သို့ ကြွသွားတော်မူ၏။ မန္ဓာတုစကြာမင်းကြီးကို စတုမဟာရာဇ်နတ်ပြည်၌ နတ်မင်းကြီးလေးယောက်တို့က နတ်ပန်းနံ့သာစွဲကိုင်ပြီး နတ်အပေါင်းခြံရံလျက် ခရီးဦးကြိုဆိုကြကုန်၏။ ပြီးလျှင် စတုမဟာရာဇ်နတ်ပြည်၌ နတ်မင်းကြီးအဖြစ်လွှဲအပ်ကြကုန်၏။ မန္ဓာတုစကြာမင်းကြီးသည် လူ၏ကိုယ်ဖြင့်ပင် စတုမဟာရာဇ်နတ်မင်းကြီးအဖြစ် နတ်စည်းစိမ်ကို ကာလရှည်ကြာစွာ အတိုင်းထက်အလွန် ခံစားစံစားနေခဲ့လေသည်။ ကာလကြာလာသောအခါ မန္ဓာတုစကြာမင်းကြီးသည် စတုမဟာရာဇ်နတ်တို့၏ ကာမဂုဏ်ချမ်းသာစည်းစိမ်ကို ငြီးငွေ့လာပြန်၏။ ထိုအခါ စတုမဟာရာဇ်နတ်ပရိသတ်တို့က 'တာဝတိံသာနတ်ပြည်သည် ဤအရပ်ထက် ကာမဂုဏ်စည်းစိမ် သာလွန်ပါကြောင်း' လျှောက်ထားကြလျှင် မန္ဓာတုစကြာမင်းကြီးသည် တာဝတိံသာနတ်ပြည်သို့ ကြွတော်မူခဲ့လေသည်။

တာဝတိံသာနတ်ပြည်သို့ရောက်သောအခါ မန္ဓာတုစကြာမင်းကို သိကြာမင်းသည် နတ်အပေါင်းခြံရံကာ ခရီးဦးကြိုဆိုပြီး တာဝတိံသာနတ်ပြည်ကိုနှစ်ခြမ်းခွဲ၍ နတ်ပြည်တစ်ခြမ်းကို မန္ဓာတုစကြာမင်းကြီးအား

လွှဲအပ်ခဲ့လေသည်။ မန္ဓာတုစကြာမင်းကြီးသည် တာဝတိံသာနတ်ပြည်တွင် သိကြားမင်းစည်းစိမ်ထက်ဝက်ကို နှစ်ပေါင်းသုံးကုဋေခြောက်သန်းကြာအောင် ခံစားနေခဲ့လေသည်။ ဤအချိန်၌ မူလသိကြားမင်းသည် စုတေခဲ့ပြီး သိကြားမင်းအသစ်တစ်ပါးပေါ်လာ၏။ ထိုသိကြားမင်းနောက်တွင် သိကြားမင်းပေါင်း(၃၆)ယောက် တာဝတိံသာနတ်ပြည်သို့ အုပ်ချုပ်ရန် ရောက်ခဲ့ကြသော်လည်း မန္ဓာတုစကြာမင်းကြီးကား နတ်စည်းချမ်းသာကို ခံစားမြဲခံစားနေဆဲဖြစ်လေသည်။ ထို(၃၆)ဦးမြောက် သိကြားမင်းလက်ထက်သို့ရောက်သောအခါ မန္ဓာတုစကြာမင်းကြီးသည် တာဝတိံသာနတ်ပြည်ကို သိကြားမင်းနှင့်ထက်ဝက်ခွဲ၍ စည်းစိမ်ခံစားနေရသည်ကို အားမရမတင်းတိမ်နိုင်ဘဲ တာဝတိံသာနတ်ပြည်တစ်ခုလုံးကို မိမိတစ်ဦးတည်း လွှမ်းမိုးအုပ်ချုပ်စည်းစိမ်ခံစားလိုသော တဏှာလောဘများဖြစ်ပေါ်လာသည်။ ထိုအခါ မန္ဓာတုစကြာမင်းသည် 'ငါသည် ဤတာဝတိံသာနတ်ပြည်ကို တစ်ပါးတည်း စည်းစိမ်ခံစားနိုင်ရန်အတွက် ယခုရှိနေသော သိကြားမင်းကို သတ်ပစ်မှသင့်မည်'ဟု မတော်သောအကြံကို ကြံစည်လေတော့သည်။ ထိုသို့ကြံစည်မိသည်နှင့်တစ်ပြိုင်နက် မန္ဓာတု စကြာမင်းသည် မိမိ၏စည်းစိမ်ချမ်းသာကို တူးဖြိုသည့်အလား ပျက်စီးဆုံးရှုံးခြင်းသို့ ရောက်ရှရာလေသည်။

အလိုရမ္မက်အားကြီးသောသူသည် သာယာငြိမ်းအေးသော ဘဝချမ်းသာကို မရနိုင်ပေ။ တဏှာကြောင့် စိုးရိမ်ခြင်းဖြစ်ရ၏၊ ဘေးဖြစ်ရ၏။ တဏှာရာဂလောဘတို့မှ လွတ်ကင်းသူသည်သာ ဘေးအပေါင်းမှလွတ်ရ၏။ စိုးရိမ်သောက ပူဆွေးမှုမှ လွတ်ရ၏၊ သို့ဖြစ်၍ တဏှာ၏ကျွေးကျွန် လောဘ၏သားကောင်အဖြစ်မှ ရုန်းထွက်ကြရန် ပညာရှိတို့က ညွှန်ပြလေ့ရှိကြပါသည်။

ထိုမန္ဓာတုစကြာမင်းသည် လွန်ကဲသောအလိုရမ္မက်ကြောင့် သက်တမ်းဆုတ်ယုတ်လာ၏။ အိုခြင်းတရားဖြစ်ပေါ်လာ၏။ ထိုအခါ လူ၏

ကိုယ်ဖြင့် နတ်ပြည်၌ပျက်စီးရန်မဟုတ်သည့်အတွက် လူ့ပြည်သို့ပြန်ဆင်းကာ ဗန္ဓုမတီပြည်၏ဥယျာဉ်အတွင်းဝင်ရောက်ပြီး နားနေခဲ့ရလေသည်။ ဥယျာဉ်စောင့်တို့က မင်းကြီးအတွက် အိပ်ရာနေရာများပြုလုပ်ပေးကြပြီး ဗန္ဓုမတီမင်းထံ အကြောင်းကြားကြ၏။ ဗန္ဓုမတီမင်းသည် ဥယျာဉ်တွင်းသို့ကြွလာပြီး မန္ဓာတုစကြာမင်းကြီးကိုကြည့်ရှုရာ မန္ဓာတုစကြာမင်းကြီးသည် ထိုအိပ်ရာညောင်စောင်းမှ ထနိုင်တော့မည်မဟုတ်ကြောင်း သိတော်မူလေသည်။

ထိုအခါ အမတ်ကြီးတို့က မန္ဓာတုစကြာမင်းကြီးကို 'အရှင်မင်းကြီး...၊ကျွန်ုပ်တို့ဟာမင်းကြီးရဲ့ရှေ့မှာဘယ်စကားကို ပြောဆိုရပါမည်နည်း' ဟု မေးလျှောက်ကြ၏။ မန္ဓာတုစကြာမင်းကြီးက 'ငါရဲ့စည်းစိမ် ချမ်းသာ' တို့ကိုပြောကြားကြလေ၊ ငါသည် တာဝတိံသာနတ်ပြည်ကို အစိုးရသည့်တိုင်အောင် ကာမတဏှာအလိုဆန္ဒမပြည့်ဝဘဲ နတ်ရွာစံခဲ့ရလေပြီစသည်ဖြင့် ပြောကြားလေသည်'ဟု မိန့်ဆိုပြီး ထိုနေရာမှာပင် စုတေခဲ့လေသည်။

ကာမဂုဏ်ချမ်းသာသည် သာယာဖွယ်မဟုတ်၊ ဆင်းရဲသက်သက်သာဖြစ်၏။ မြတ်စွာဘုရား၏တပည့်သားပညာရှိသူတို့သည် ကာမဂုဏ်ချမ်းသာ၏ဆင်းရဲကို သိကြပြီးလျှင် ကာမည့ွန်၌အနစ်မခံကြဘဲ ကာမတဏှာတို့ကုန်ရာဧကန် မြတ်နိဗ္ဗာန်၌ မွေ့လျော်ကြကုန်ရာ၏။

ဤမန္ဓာတုစကြာမင်းကြီး၏ဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'ငါတို့ထက်အလွန်တရာမွန်မြတ်သော ဘုရားလောင်းအရင့်အမာပုဂ္ဂိုလ်တို့ကိုပင် ကာမဂုဏ်သည် မြင့်ရာမှနိမ့်ရာသို့ ဆွဲ၍ချတတ်၏။ ငါတို့ကဲ့သို့ ဂတိမမြဲသောသူတို့သည်ကား အဘယ်မှာ ဆိုဖွယ်ရှိပါအံ့နည်း။ သို့ဖြစ်၍ သင်သူတော်ကောင်းတို့သည် ထိုတဏှာတည်းဟူသော လောဘကိုစွန့်ပယ်ကြကာ ဘုရား,တရား,သံဃာဟူသော ရတနာသုံးပါးကို ဆည်းကပ်ကြပါကုန်'ဟု တိုက်တွန်းခဲ့ပေသည်။



# ဖျော်ရည်တစ်ခွက်လှူရသောအကျိုး

[၉။ ဖုဒ္ဒဝမ္မဝါဏိဇဝတ္ထု]

ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ ပါဋလိပုတ်မြို့၌နေထိုင်လျက်ရှိသော ဖုဒ္ဒဝမ္မအမည်ရှိ ကုန်သည်တစ်ဦးသည် ပါဋလိပုတ်မြို့မှ အခြားမြို့ရွာများသို့ ကုန်သွယ်ခြင်းဖြင့် ချမ်းသာကြွယ်ဝခဲ့လေသည်။ ထိုစဉ်အခါ မြတ်စွာဘုရားသခင်သည် သံဃာတော်အပေါင်းကိုခြံရံပြီး ပါဋလိပုတ်မြို့ အတွင်းသို့ ဒေသစာရီကြွချီတော်မူလာသည်။ ထိုဖုဒ္ဒဝမ္မကုန်သည်သည် ပါဋလိပုတ်မြို့အတွင်းသို့ ကြွချီတော်မူလာသော မြတ်စွာဘုရားရှင်၏ အသရေတော်ကိုဖူးမြင်ရသောအခါ လွန်ကဲသောပီတိဖြစ်လျက် လက်အုပ်တချီချီဖြင့် ဘုရားမြတ်၏ခြေတော်ရင်း၌ ဝတ်ပြုနေခဲ့သည်။

ထိုဖုဒ္ဒဝမ္မကုန်သည်သည် သာသနာတော်နှင့်မနီးစပ်သူဖြစ်လေရာ ညနေချမ်းအခါမှာပင် မြတ်စွာဘုရားရှင်အား ဆွမ်းကပ်ခွင့်ပြုရန် ပင့်လျှောက်ဖိတ်ကြားခဲ့လေသည်။ ထိုအခါ မြတ်စွာဘုရားရှင်က ‘ဒါယကာ၊ ဘုရားရှင်တို့မည်သည် နေလွှဲသောအခါ၌ ညစာစားခြင်းမှ ရှောင်ကြဉ်ကြ၏’ဟု မိန့်တော်မူသောအခါ ဖုဒ္ဒဝမ္မကုန်သည်က ‘နေလွှဲသောအချိန်၌ အဘယ်ဝတ္ထုကို သုံးဆောင်ဘုဉ်းပေးတော်မူပါသနည်း’ဟု လျှောက်ထားလေ၏။ မြတ်စွာဘုရားရှင်က ‘ရဟန်းသံဃာတို့မည်သည် နေလွှဲသောအခါ၌ အဖျော်ရှစ်ပါးကို သုံးဆောင်ခြင်းငှာအပ်၏’ဟု မိန့်ကြားတော်မူ၏။ ဖုဒ္ဒဝမ္မကုန်သည်သည် မြတ်စွာဘုရားရှင်အမိန့်ရှိတော်မူသော အဖျော်ရှစ်ပါးကို မေးမြန်းစုံစမ်းပြီး အဖျော်ရှစ်ပါး၌ပါဝင်သော စပျစ်သီး(ခေါ်) မုဒရက်သီးကို တင်လဲဖြင့် ရော၍ ဖျော်ရည်ပြုလုပ်ပြီး ဘုရားအမှူးရှိသော သံဃာတော်တို့အား ကပ်လှူခဲ့လေသည်။

ထိုဗုဒ္ဓဝမ္မကုန်သည်သည် ဗုဒ္ဓမြတ်စွာကို မုဒရက်သီးဖျော်ရည်ကပ်လှူပြီးနောက် လှည်းကုန်သည်များကို ဦးစီးအမှူးပြုကာ အခြားရပ်ရွာများသို့ ကုန်သွယ်ရန်ခရီးထွက်ခဲ့ရာ မဟာဝတ္တနီယအမည်ရှိသော အလွန်ကြမ်းတမ်းသော ကန္တာရခရီးသို့ ဆိုက်ရောက်ခဲ့လေသည်။ ထိုမဟာဝတ္တနီယခရီးကြမ်းအတွင်း နေ့ရက်အတန်ကြာ ခဲခဲယဉ်းယဉ်းပင်ပင်ပန်းပန်းခရီးသွားခဲ့ကြသဖြင့် သောက်သုံးစရာရေတို့ ကုန်ခဲ့လေသည်။ ခရီးသွားကုန်သည်များနှင့် ဝန်ဆောင်နွားများသည် ရေဆာလောင်မွတ်သိပ်ကြသောကြောင့် ခရီးလမ်းကို မဆက်နိုင်ကြတော့ပေ။

ထိုအချိန်၌လှည်းတစ်စင်းပေါ်မှနေ၍ ဗုဒ္ဓဝမ္မကုန်သည်ကို 'ကုန်သည်ကြီး၊ ကျွန်တော်တို့လှည်းပေါ်က ဝါးကျည်တောက်ထဲမှာ ရေအနည်းငယ်ပါသေးတယ်၊ သောက်တော်မူပါ'ဟု ကမ်းလင့်လာ၏။ ဗုဒ္ဓဝမ္မကုန်သည်လည်း ဝမ်းသာအားရနှင့် ထိုလှည်းပေါ်မှကမ်းပေးသော ကျည်တောက်ကိုယူ၍ မော့သောက်ရာ ရေမဟုတ်ဘဲ မုဒရက်သီးဖျော်ရည်များဖြစ်နေ၏။ ဗုဒ္ဓဝမ္မကုန်သည်က 'မြတ်စွာဘုရားရှင်အမှူးရှိသော သံဃာတော်တို့အား ငါသည် မုဒရက်ဖျော်ရည်ကို လှူခဲ့ဖူး၏။ ထိုလှူခဲ့သော အကျိုးသည် ငါ့၌လက်ငင်းအကျိုးပေးလေပြီ'ဟုစဉ်းစားမိလေသည်။

ထိုခဏ ဗုဒ္ဓဝမ္မကုန်သည်သည် စဉ်းစားဉာဏ်ရှိသူပီပီ မိမိ၏လှည်းရှိရာသို့ အမြန်ပြန်သွားပြီး လှည်းပေါ်ရှိ အိုးစရည်းတို့ကိုဖွင့်ကြည့်ရာ အိုးအပြည့် မုဒရက်ဖျော်ရည်များကိုတွေ့ရသည်။ အခြားသော အိုးခွက်ကျည်တောက်တို့တွင်လည်း မုဒရက်ဖျော်ရည်များကို တွေ့ရလေသည်။ ထိုအခါ ဗုဒ္ဓဝမ္မကုန်သည်က ရေလိုက်ရှာနေသော ကုန်သည်အပေါင်းကို လှမ်း၍ 'လာကြဟေ့ လာကြ၊ နတ်တို့အဖျော်နဲ့တူတဲ့ အင်မတန်အရသာရှိတဲ့ ဒီမုဒ္ဒရက်ဖျော်ရည်ကို လာပြီးသောက်လှည့်ကြပါ'ဟု ဟစ်အော်ကာ ဖိတ်ခေါ်လိုက်၏။ ရေငတ်နေကြသောခရီးသွားကုန်သည်များလည်း ဝမ်းသာအားရ ပြေးလာကြပြီး ဗုဒ္ဓဝမ္မကုန်သည် တိုက်ကျွေးသော

အရသာထူးလှသည့် မုဒရက်ဖျော်ရည်ကို အားပါးတရ သောက်သုံး ကြ၏။ ခရီးသွားကုန်သည်များသည် ရုတ်တရက်ပေါ်လာသော ထိုမုဒရက်ဖျော်ရည် များကိုကြည့်၍ အံ့အားသင့်နေကြ၏။

ထိုအခါ ဗုဒ္ဓဝမ္မကုန်သည်က မြတ်စွာဘုရား၏တန်ခိုးအာနုဘော် ကို ထုတ်ဖော်လိုသည့်အတွက် 'အို လှည်းကုန်သည်အပေါင်းတို့၊ မြတ်စွာ ဘုရားသခင်၏ မကြံစည်အပ် အံ့ဩဖွယ်ကောင်းလှသော အစိန္တေယျ ဂုဏ်တော်၊ မျက်မှောက်၌ လက်ငင်းအကျိုးကိုပေးတတ်သော သန္ဒိဋ္ဌိက ဂုဏ်တော်နှင့် အခါမလင့်အကျိုးကိုပေးတတ်သော အကာလိကဂုဏ်တော် တန်ခိုးတော်အာနုဘော်တို့ကို ရှုကြပါလော့။ မြတ်စွာဘုရားအား ငါသည် ကြည်ညိုသော စိတ်ဖြင့် မုဒရက်အဖျော်ကို ပေးလှူအပ်ခဲ့ပါ၏။ ထိုလှူသော အကျိုးသည် ယခုအခါဖြစ်ထွန်းခဲ့လေပြီ'ဟု ဗုဒ္ဓဝမ္မကုန်သည်က ပြောကြား လေသည်။

ဗုဒ္ဓဝမ္မကုန်သည်သည် ပါဋလိပုတ်မြို့သို့ ပြန်လည်ဆိုက်ရောက် သောအခါ မြတ်စွာဘုရားရှင် သီတင်းသုံးတော်မူရာ ဝေဠုဝန်ကျောင်း တော်သို့ သွားရောက်ပြီး ရိုသေစွာရှိခိုး၍ မိမိ၏အဖြစ်အပျက်တို့ကို လျှောက် ထားခဲ့လေသည်။ ထိုပြင် မြတ်စွာဘုရားရှင်၏တန်ခိုးပြာဋိဟာတို့ကို အကျယ်အားဖြင့် ဟောတော်မူပါဟုလည်း လျှောက်ထားခဲ့၏။ မြတ်စွာ ဘုရားရှင်သည် ထိုကုန်သည်အား တန်ခိုးပြာဋိဟာအကြောင်းကို အကျယ် တဝင့်ဟောကြားတော်မူခဲ့ပါသည်။

ထိုဗုဒ္ဓဝမ္မကုန်သည်သည် မြတ်စွာဘုရားအမှူးရှိသော သံဃာတော် တို့အား မိမိအိမ်သို့ပင့်ဖိတ်ပြီး ဆွမ်းစသောပစ္စည်းလေးပါးကိုလှူဒါန်း၍ သာသနာတော်ကို ပစ္စယာနုဂ္ဂဟဖြင့် ချီးမြှောက်ကာ ဒါနမှု၌ မွေ့လျော်ပျော် ပိုက်ရင်း ဘဝတသွင်တမလွန်သို့ကူးပြောင်းသောအခါ ဆယ့်နှစ်ယူဇနာ ရှိသော ဘုံဗိမာန်ရွှေပြာသာဒ်နှင့်တကွ ဘုန်းတန်ခိုးကြီးမားရှိသော နတ်သား ဖြစ်ရလေသတည်း။ ထိုဗုဒ္ဓဝမ္မနတ်သား၏ဗိမာန်တွင် ရှေးကောင်းမှုကံ

ကြောင့် မုဒရက်သီးဖျော်ရည် အမြဲပြည့်လျှံနေ၏။ ထိုဖျော်ရည်ကို နတ်တို့ သောက်၍ ကလည်းကကြ၏၊ တီးလည်းတီးမှုတ်ကြ၏၊ ကစားမြူးတူးကြကုန်၏။

ဤဗုဒ္ဓဝမ္မကုန်သည်ဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'မြတ်စွာဘုရားရှင်၏သာသနာတော်၌ မုဒရက်သီးဖျော်ရည်ကိုလှူကာမျှနှင့် ကြီးကျယ်သောစည်းစိမ်ချမ်းသာကိုရခဲ့သေး၏။ သင်သူတော်ကောင်းတို့သည်လည်း ရတနာသုံးပါးတို့၏ ဂုဏ်ကိုသိကြပြီး သီလရှိကုန်သောသူတို့အား မြတ်သောအလှူကိုပေးလှူခြင်းဖြင့် လူနတ်နိဗ္ဗာန် သုံးတန်သောချမ်းသာရယူနိုင်ပါစေ'ဟု တိုက်တွန်းခဲ့ကြ၏။



# နတ်ထမင်းအိုးပိုင်ရှင်

[၁၀။ ရူပဒေဝီဝတ္ထု]

ဝိပဿီမြတ်စွာဘုရားရှင်လက်ထက်တော်အခါ ဗန္ဓုမတီမြို့လေးတွင် လိမ္မာယဉ်ကျေး၍ သနားကြင်နာတတ်သောအမျိုးသမီးလေးတစ်ဦး ရှိခဲ့သည်။ တစ်နေ့တွင် ထိုအမျိုးသမီးလေးသည် မြတ်စွာဘုရားရှင် စံတော်မူရာ ကျောင်းတော်သို့လှည့်လည်သွားလာရင်း သူနာရဟန်းတစ်ပါးကို ဖူးမြင်ခဲ့လေသည်။

သနားကြင်နာတတ်သော ထိုသူငယ်မသည် သူနာရဟန်းထံချဉ်းကပ်၍ရှိခိုးပြီး 'အရှင်ဘုရား၊ အရှင်ဘုရားမှာ ဘယ်လိုရောဂါမျိုးဖြစ်နေပါသလဲဘုရား'ဟု မေးလျှောက်လေသည်။ သူနာရဟန်းက 'အဆုတ်မှာဖြစ်တဲ့ ခရယုတ်မည်သောချောင်းဆိုးနာဟာ ငါ့ကိုနှိပ်စက်နေပါတယ်'ဟု မိန့်ကြားလေ၏။ သူငယ်မက 'မစိုးရိမ်ပါနဲ့အရှင်ဘုရား၊ ဒီလိုရောဂါရှိပါရင် အရှင်ဘုရားရဲ့ရောဂါပျောက်ငြိမ်းစေဖို့ တပည့်တော်ဆောင်ရွက်ပါမယ်ဘုရား'ဟုလျှောက်ထား၍ မိမိ၏အိမ်သို့ကြွတော်မူပါရန်ပင့်ဖိတ်ပြီး အိမ်သို့ပြန်ခဲ့ လေသည်။ အိမ်သို့ရောက်လျှင် မိဘတို့အား သူနာရဟန်း၏ရောဂါအကြောင်းကိုပြောပြပြီး အထူးကောင်းမြတ်သောဆေးအာဟာရကို ကျိုချက်ပြီးထားလေသည်။

နောက်တစ်နေ့ သူနာရဟန်းသည် ဆွမ်းခံလှည့်လည်ရင်း ထိုသူငယ်မအိမ်သို့ ရောက်ရှိလေရာ သူငယ်မသည် သပိတ်ကိုလှမ်း၍ယူပြီး မထေရ်ကိုဆွမ်းလုပ်ကျွေး၏။ ထိုသူငယ်မ၏သဒ္ဓါအားအစွမ်းကြောင့်

ထိုဆွမ်းကို ဘုဉ်းပေးကာမျှဖြင့်ပင် ထိုရဟန်းတော်၌ဖြစ်ပေါ်နေသော ခရယုတ်အနာသည် ကင်းငြိမ်းခဲ့ရလေသည်။ အနာရောဂါ ပျောက်ငြိမ်းသွားသောအခါ ထိုဂိလာနမထေရ်သည် သူငယ်မအိမ်သို့ မကြွဘဲ နေတော်မူခဲ့၏။

နောက်တစ်နေ့ မထေရ်မြတ်ကြွမလာလျှင် သူငယ်မသည် ကျောင်းသို့လိုက်လာပြီး အကျိုးအကြောင်းမေးမြန်းလျှောက်ထား၏။ ထိုအခါ ဂိလာနမထေရ်က မိမိ၏ရောဂါပျောက်ငြိမ်းပြီဖြစ်၍ ကြွမလာခြင်းဖြစ်ကြောင်း မိန့်ကြားလေသည်။ စိတ်ထားကောင်းမွန်သော ထိုသူငယ်မသည် မထေရ်မြတ်၏ ဝေဒနာပျောက်ကင်းကြောင်းသိရလျှင် ဝမ်းမြောက်ဝမ်းသာဖြစ်ပြီး မိမိနေအိမ်သို့ပြန်ခဲ့ကာ ထိုကောင်းမှု ကုသိုလ်ကို နှစ်သက်ဝမ်းမြောက်ပီတိဖြစ်လျက် အသက်တည်သရွေ့နေထိုင်ပြီး ကွယ်လွန်သောအခါ နတ်ပြည်၌ဖြစ်ခဲ့၏။ ဘုရားခြောက်ဆူတို့ပွင့်တော် မူပြီးသည့်ကာလတိုင်အောင် နတ်စည်းစိမ်ကိုခံစားခဲ့ပြီး ဂေါတမမြတ်စွာဘုရားလက်ထက်တော်၌ ဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ ဝေဒပုတ္တမြို့ရှိ ဉဒိစ္စပုဏ္ဏားမျိုး၏အကြီးအကဲ ပုဏ္ဏားကြီးမယား၏ဝမ်းတွင် ပဋိသန္ဓေစွဲယူခဲ့လေသည်။

ပုဏ္ဏားကြီး၏ဇနီးသည် အချိန်သင့်လျှင် သတို့သမီးငယ်တစ်ဦးကို ဖွားမြင်ခဲ့လေသည်။ ထိုသတို့သမီးငယ်သည် မွေးဖွားစဉ်ကပင် နေ့တိုင်းဆန်ရှစ်ပြည် သူ့အလိုလိုဖြစ်ပေါ်လာလေသည်။ ထိုသတို့သမီးကို ရှုချင့်စဖွယ်ရုပ်အဆင်းအင်္ဂါနှင့်ပြည့်စုံသောကြောင့် ရူပဒေဝီဟု အမည်ပေးခဲ့ကြ၏။ ရူပဒေဝီအရွယ် ရောက်သောအခါ သူငယ်တစ်ဦးနှင့် ထိမ်းမြားလက်ဆက်ပေးခဲ့ကြ၏။ ရူပဒေဝီသည် ဆန်အနည်းငယ်ကို ချက်ရုံဖြင့်ထမင်းအိုးထဲ၌ ထမင်းကိုသာမက အသားဟင်းလျာ ထောပတ်ဆီဦး၊ နို့ခမ်း၊ နို့စသော အစာအာဟာရများ၊ ငှက်ပျော ပိန္နဲစသောအသီးအနှံများပါ သူ့အလိုလိုပေါ်ထွက်လာခဲ့သည်။ ထို့ပြင် ထိုအရသာနှင့်ပြည့်စုံသော

အစားအစာတို့ကို ခူးခပ်ယူ၍စားသော်လည်း အိုးအတွင်း၌ အရာမယွင်း ပကတိပြည့်မြဲအတိုင်းသာ ရှိလေသည်။

ရူပဒေဝီသူငယ်မ အသက်အရွယ် ကြီးပြင်းလာသောအခါ ရဟန်းတော် အပါးငါးရာတို့အား ဆွမ်းပင့်ဖိတ်ကြားခဲ့လေသည်။ ထိုရဟန်းတော်ငါးရာတို့တွင် ပဋိသမ္ဘိဒါသို့ရောက်ပြီးဖြစ်သော အရှင်မဟာသံဃရက္ခိတမထေရ်လည်းပါဝင်လေရာ၊ ထိုမထေရ်မြတ်က ရူပဒေဝီ၏ထူးခြားသောအဖြစ်ကို ဒိဗ္ဗစက္ခုဖြင့်ရှုလတ်သော် ရူပဒေဝီ၏ရှေးဘဝကကောင်းမှုတို့ကို သိမြင်တော်မူခဲ့လေသည်။ ထိုသို့သိတော်မူသဖြင့် ရူပဒေဝီ၏ဆွမ်းကပ်ပွဲသို့ ကြွခဲ့ပြီး၊ ဆွမ်းအနုမောဒနာပြုသောအခါတွင် ရူပဒေဝီအား 'သင်ရဲ့ရှေးဘဝက ပြုခဲ့သောကောင်းမှုကိုသိပါသလော' ဟုမေးတော်မူ၏။ ရူပဒေဝီက 'မသိပါ ဘုရား' ဟု လျှောက်ထားလေလျှင် အရှင်မဟာသံဃရက္ခိတမထေရ်က ဝိပဿီဘုရားရှင်လက်ထက်မှစ၍ ရူပဒေဝီပြုခဲ့သောကောင်းမှုကုသိုလ်တို့ကို ရှင်းလင်းမိန့်ကြားတော်မူလေသည်။

ရူပဒေဝီ၏ရှေးဘဝအကြောင်းစုံကို မိန့်ကြားတော်မူပြီးနောက် 'သင်သည် ဝိပဿီမြတ်စွာဘုရားလက်ထက်တော်အခါက ဂိလာနရဟန်းတော်တစ်ပါးကို ဆေးအလှူလှူခဲ့သောကြောင့် ဤဘဝတိုင်အောင် ချမ်းသာအမျိုးမျိုးအကျိုးတို့ကို ခံစားရခြင်းပင်ဖြစ်သည်။ ချမ်းသာကိုအလိုရှိသော ပုဂ္ဂိုလ်တို့သည် ချမ်းသာခြင်း၏အကြောင်းဖြစ်သော ကုသိုလ်ကောင်းမှုကို ပြုအပ်ပါ၏။ ထို့ကြောင့် သင်သည် ကောင်းသောကုသိုလ်တရား၌ အားထုတ်နေပါလေ' ဟု မိန့်ဆိုတော်မူခဲ့လေသည်။

ရူပဒေဝီသည်လည်း မိမိ၏ရှေးကံကောင်းမှုကိုသိရ၍ ဝမ်းမြောက်ကြည်နူးကာ အရှင်မဟာသံဃရက္ခိတမထေရ်မြတ် မှာကြားတော်မူသည့်အတိုင်း ဒါနစသောကောင်းမှုတို့ကိုပြုစုမွေ့လျော်နေခဲ့ပြီးနောက် သောတာပန်အရိယာသာဝိကာအဖြစ်သို့ရောက်ခဲ့လေသတည်း။

ဤရူပဒေဝီဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က ‘ငယ်ရွယ်နုပျိုသောမိန်းကလေးသည်ပင် ဒါနကောင်းမှု၏အနှစ်အရသာကိုမသိဘဲ ရဟန်းတော်မြတ်အား ဆေးလှူခဲ့၍ နတ်ချမ်းသာလူချမ်းသာကိုရခဲ့လေပြီ။ သင် သူတော်ကောင်းတို့သည် ကုသိုလ်ကောင်းမှု၏အနှစ်သာရကို ကောင်းစွာ သိကြပြီးနောက် ထိုကုသိုလ်ကောင်းမှုတို့ကို ပြုလုပ်ကြလျှင် နိဗ္ဗာန်ချမ်းသာကို ရမည်မှာ အမှန်ဖြစ်ပါသတည်း’ဟု တိုက်တွန်းခဲ့ကြ၏။



# ပုဆိုးပိုင်းကလေးလှူ၍မင်းစည်းစိမ်ကိုရခဲ့သူ

[၁၁။ နန္ဒိယရာဇဝတ္ထု]

ဤဘဒ္ဒကမ္ဘာမှပြန်၍ရေတွက်သော် ကမ္ဘာတစ်သိန်းထက်ကာလ၌ ပဒုမုတ္တရမြတ်စွာဘုရား ပွင့်တော်မူခဲ့ပါသည်။ ထိုအခါက သူဌေးတစ်ဦးသည် ပဒုမုတ္တရမြတ်စွာဘုရား၏ တရားတော်ကို နာယူလိုသောစိတ်ဖြစ်ပေါ်လာကာ မိမိ၏အိမ်၌ ဘုရားရှင်နှင့်ထိုက်တန်သောနေရာကို ခင်းကျင်းပြီး ပဒုမုတ္တရမြတ်စွာဘုရားရှင် အမှူးရှိသော သံဃာတော်တို့အား ပင့်ဖိတ်ခဲ့လေသည်။

ပဒုမုတ္တရမြတ်စွာဘုရားရှင်သည် သံဃာအပေါင်းကိုခြံရံပြီး ထိုသူဌေး၏အိမ်ဂေဟာသို့ ကြွတော်မူကာ အလှူမဏ္ဍပ်အတွင်းခင်းထားအပ်သောဘုရားတို့၏နေရာ၌ သီတင်းသုံးနေတော်မူ၍ ဆွမ်းခဲဖွယ်တို့ကို ဘုဉ်းပေးသုံးဆောင်နေတော်မူ၏။ ထိုစဉ် ဓုတင်တေဒဂ်ရ အရှင်ဝသဘဘွဲ့အမည်ရှိသော မဟာသာဝကသည် သပဒါနဝတ်ဖြင့် အိမ်စဉ်မပြတ်ရပ်၍ ဆွမ်းခံကြွတော်မူခဲ့ရာ ထိုသူဌေးအိမ်အလှူမဏ္ဍပ်အတွင်းသို့ ရောက်ရှိတော်မူခဲ့သည်။ အရှင်ဝသဘကို ဖူးမြင်ရသော အိမ်စေတို့က သံဃာတစ်ပါးကြွလာပါကြောင်း သူဌေးထံ အကြောင်းကြားရာ သူဌေးက ဝသဘမထေရ်ကို မိမိ၏အလှူမဏ္ဍပ်သို့ကြွတော်မူပါရန် ပင့်ဖိတ်ပြီး အလှူမဏ္ဍပ်၌ မြတ်စွာဘုရားရှင် သီတင်းသုံးနေတော်မူသည့်အကြောင်းကိုပါ လျှောက်ထားခဲ့၏။ ဝသဘ မထေရ်သည် သူဌေး၏အိမ်တွင်းသို့မဝင်တော့ဘဲ အိမ်စဉ်လည်ဆွမ်းခံခြင်းကိုသာ ဆက်၍ပြုတော်မူခဲ့လေသည်။

သူဌေးသည် ထိုအကြောင်းကို ဘုန်းတော်ကြီးတော်မူသော မြတ်စွာဘုရားထံလျှောက်ထားပြီး 'အရှင်ဘုရား၊ ဤလောက၌ အရှင်မြတ်ဘုရားထက် ဂုဏ်တော်အားဖြင့် သာလွန်သူရှိပါသလော'ဟုမေးလျှောက်ခဲ့၏။ မြတ်စွာဘုရားရှင်က ဥပါသကာသူဌေး မေးလျှောက်ခြင်း၏အကြောင်းကို သိမြင်တော်မူလေရာ မိမိတပည့်သာဝကတို့၏ဂုဏ်ကို ထုတ်ဖော်ပြီး အရှင်ဝသဘ၏ထူးမြတ်ပုံကို ဤသို့မိန့်တော်မူခဲ့ပါသည်။

'ဘုရားသားတော်တို့သည် ပါတိမောက်စသော သံဝရသီလကို အညစ်အကြေးမတင်အောင် စောင့်ရှောက်ကြကုန်၏။ ကောင်းစွာဆောက်တည်အပ်သော ဓုတင်ကျင့်ဝတ်တို့လည်း မြဲကြ၏။ အလိုနည်းပါးသော အပ္ပိစ္ဆာဂုဏ်နှင့်လည်း ပြည့်စုံကြ၏။ ငါဘုရား၏သားတော်တို့သည် သေမင်းနှင့်စစ်ထိုးသကဲ့သို့ အနိစ္စသညာကိုလည်း အစဉ်ပွားများနေကြ၏။ လူနတ်တို့၏ကောင်းမှုစိုက်ပျိုးရာဌာနလည်း ဖြစ်ကြကုန်၏။

'ငါဘုရားရှင်သည် သိဝိတိုင်းဖြစ်သင်္ကန်းကို ဝတ်ရုံသုံးဆောင်တော်မူသော်လည်း ငါဘုရား၏ပံ့သကူဆောင်သားတော်တို့သည်ကားကုလ္လာသောဘ လိုချင်တပ်နှစ်သက်ခြင်း အညစ်အကြေးကင်းကြကုန်သည်ဖြစ်၍ ဟောင်းနွမ်းစုတ်ပြတ်ငေ မြမှုန့်အလိမ်းလိမ်းကပ်နေသော ပုဆိုးကြမ်းတို့ကို စပ်ဖာ၍ဖြစ်သောပံ့သကူသင်္ကန်းကိုသာ ဆောင်ကြကုန်၏။

'ဥပါသကာတို့ တောင်းပန်ပင့်ဖိတ်သော ဆွမ်းစသည်တို့ကို မသာယာဘဲ အိမ်စဉ်လည်၍ခံယူသောဆွမ်းကိုသာ အမွန်အမြတ်သုံးဆောင်မှီဝဲကြကုန်၏။ သံသရာဘေးကိုကြောက်၍ မြတ်သောအိပ်ရာနေရာ အမိုးရှိသောကျောင်းသခ်မ်းတို့ကိုပယ်ကာ သစ်ပင်ရင်း၌လည်းကောင်း၊ သုသာန်၌လည်းကောင်း၊ လွင်တီးခေါင်၌လည်းကောင်း၊ တောအရပ်၌လည်းကောင်းနေထိုင်ကြကုန်၏။ ထိုသို့ကျင့်သုံးဆောက်တည်ကြသော ငါဘုရား၏တပည့်သားတော်အပေါင်းတို့တွင် ဤဝသဘမထေရ်သည် အမြတ်ဆုံးဖြစ်၏။ ဤမထေရ်သည် ငါဘုရား၏သာသနာတော်၌ ဓုတင်ဆောင်

ပုဂ္ဂိုလ်တို့တွင် အမြတ်ဆုံးဖြစ်သောပုဂ္ဂိုလ်အဖြစ် သိအပ်၏’ဟူ၍ မိန့်တော်မူခဲ့ပါသည်။

မြတ်စွာဘုရားရှင်သည် လက်ကိုမြှောက်၍ လဝန်းကို ကိုင်ပြီး ပြသကဲ့သို့ ဝဿဘမထေရ်၏ဂုဏ်ကျေးဇူးကိုထုတ်ဖော်ပြီး ထင်ရှားအောင် ဟောကြားတော်မူခဲ့၏။ ဥပါသကာသူဌေးသည် အရှင်ဝဿဘမထေရ်၏ ဂုဏ်ကျေးဇူးကိုကြားရသောအခါ မိမိလည်း ထိုဓုတင်ဧတဒဂ်အရာကို ရလိုသည်ဖြစ်၍ နောင်အခါ တစ်ပါးပါးသောဘုရားရှင်၏သာသနာတော်၌ ဓုတင်ဆောင်ပုဂ္ဂိုလ်တို့တွင် အမြတ်ဆုံးပုဂ္ဂိုလ်ဖြစ်ရလျှင် ကောင်းလေစွ’ ဟု တောင့်တလျက် ပဒုမုတ္တရမြတ်စွာဘုရား၏ ခြေရင်း၌ဝတ်၍ နေ၏။ ပဒုမုတ္တရမြတ်စွာဘုရားသည် ထိုအကြောင်းကို စူးစမ်းဆင်ခြင်တော်မူပြီး ‘ဤကမ္ဘာမှအထက် ကမ္ဘာတစ်သိန်းကာလ၌ ဂေါတမမြတ်စွာဘုရား ပွင့်တော်မူလတ္တံ့၊ ထိုအခါ သင်သည် ဓုတင်ဆောင်ပုဂ္ဂိုလ်တို့တွင် အမြတ်ဆုံးဖြစ်၍ ကဿပအမည်ဖြင့် ထင်ရှားလတ္တံ့’ဟု ဗျာဒိတ်ပေးတော်မူလေသည်။

ထိုအခါမှစ၍ ဥပါသကာသူဌေးသည် နှစ်သက်ဝမ်းမြောက်လှ၍ ကုသိုလ်ကောင်းမှုတို့ကိုပြုပြီး ထိုဘဝမှစုတေသည်ရှိသော် နတ်ပြည်,လူ့ပြည်တို့၌ နတ်မင်း,လူမင်းတို့၏စည်းစိမ်ကိုခံစားပြီး ဝိပဿီမြတ်စွာဘုရားလက်ထက်တော်၌ ဧကသာဋကမည်သောပုဏ္ဏားဖြစ်၍ အလှူကြီးပေးခဲ့ဖူး၏။ ထို့နောက် ကဿပမြတ်စွာဘုရား မဟာပရိနိဗ္ဗာန်ပြုသောကာလ၌လည်း ဗာရာဏသီပြည်တွင် ဗာရာဏသီသူဌေးဖြစ်ခဲ့ပြီး ဒါနအစရှိသောကောင်းမှုကုသိုလ်တို့ကိုပြုကာ ထိုဘဝမှစုတေပြန်သော် လူတို့အသက်တစ်သောင်းတမ်းကာလ ဗာရာဏသီပြည်တွင် သူကြွယ်တစ်ဦးဖြစ်ခဲ့ပြန်၏။

တစ်နေ့သောအခါ ထိုဗာရာဏသီပြည်သား သူကြွယ်သည် တောအရပ်သို့ အညောင်းပြေလှည့်လည်သွားလာရင်း မြို့အစွန်အဖျား

ပစ္စန္တ ရစ်တောကျောင်းတစ်ကျောင်းသို့ ရောက်ရှိသွားခဲ့၏။ ထိုတော ကျောင်း၌ တစ်ပါးတည်းနေသော ပစ္စေကဗုဒ္ဓါအရှင်မြတ်သည် သင်္ကန်းချုပ် နေရာ အနားပတ်တပ်ရန် ပိတ်စမလောက်သည့်အတွက် အဝတ်စသင်္ကန်း ကို ပြန်၍ ခေါက်ကာ သိမ်းဆည်းလိုက်သည်ကို ထိုသူကြွယ်က အဝေးမှ လှမ်းပြီး မြင်တွေ့ခဲ့၏။

သူကြွယ်သည် ပစ္စေကဗုဒ္ဓါထံတော်ပါးသို့ ရှိသေစွာချဉ်းကပ်ရှိခိုး၍ 'သင်္ကန်းကို ချုပ်ရန်ပြင်ပြီးမှ အဘယ့်ကြောင့် ပြန်၍ သိမ်းဆည်းရပါသနည်း ဘုရား' ဟု မေးလျှောက်၏။ ပစ္စေကဗုဒ္ဓါအရှင်မြတ်သည် အလိုနည်းပါး သူဖြစ်၍ သင်္ကန်းပိတ်စလိုအပ်သည်ကို ထုတ်ဖော်၍ မိန့်ဆိုခြင်းမပြုဘဲ ဆိတ်ဆိတ်နေတော်မူခဲ့၏။ သူကြွယ်သည် သင်္ကန်းမလောက်ကြောင်းကို သိသည့်အတွက် မိမိအပေါ်ရုံပုဆိုးကို ပစ္စေကဗုဒ္ဓါအရှင်မြတ်၏ခြေရင်း၌ ထား၍ ထွက်သွားလေ၏။ ပစ္စေကဗုဒ္ဓါအရှင်မြတ်သည် ထိုအပေါ်ရုံ ပုဆိုး ကိုယူ၍ လိုနေသော အနားပတ်ကိုတပ်၍ သင်္ကန်းကို ဝတ်ရုံတော် မူ၏။

သူကြွယ်သည် ထိုကောင်းမှု၌ ပီတိဖြစ်လျက် အသက်ရှိသမျှကာလ ပတ်လုံး ဒါနအစရှိသော ကုသိုလ်ကောင်းမှုတို့ကိုပြုစုကာ ထိုဘဝမှ ကွယ် လွန်သည်ရှိသော် တာဝတိံသာနတ်ပြည်၌ဖြစ်လေ၏။ ထိုနတ်ပြည်၌ နတ်စည်းစိမ်ကိုခံစားပြီး စုတေပြန်သောအခါ ဗာရာဏသီပြည်နှင့် သုံးယူဇနာ ဝေးကွာသော မထင်မရှားမြို့ကလေးတစ်မြို့၌ နန္ဒိယဟူသောအမည်ဖြင့် လူ့ဘဝကိုရပြန်သည်။

ထိုနန္ဒိယသတို့သားတွင် ညီအစ်ကိုခုနစ်ယောက်ရှိ၏။ နန္ဒိယသည် အငယ် ဆုံးဖြစ်၍ နန္ဒိယ၏ညီအစ်ကိုခြောက်ဦးသည် အလုပ်အကိုင်ရှိကြပြီး မိဘတို့ကို လုပ်ကျွေးနေကြ၏။ နန္ဒိယမှာမူ မည်သည့်အလုပ်မှမရှိဘဲ အိမ်မှာနေ၍ အစ်ကိုများ၏လုပ်စာကို မှီခိုစားနေလေရာ အစ်ကိုခြောက်ယောက်က အရွယ်ရောက်ပြီဖြစ်သော်လည်း အလုပ်အကိုင်ရှာဖွေမလုပ်သည့် နန္ဒိယကို

မကျေနပ်ကြပေ။ အမိအဘတို့ကလည်း နန္ဒိကို အလုပ်လုပ်ရန် ပြောဆိုဆုံးမကြသော်လည်း နန္ဒိသည် ဘာမျှပြန်မပြောဘဲ ဆိတ်ဆိတ်နေခဲ့သည်။

တစ်ချိန်သောအခါ ထိုအရပ်၌ နက္ခတ်သဘင်မီးထွန်းပွဲကျင်းပလေသည်။ နန္ဒိက နက္ခတ်ပွဲသဘင်ဆင်နွှဲရန် ပုဆိုးတစ်ထည်ပေးပါဟု မိခင်ထံတောင်းရာ အမိဖြစ်သူက လျှော်ဖွပ်ထားသော ပုဆိုးအသစ်တစ်ထည်ကို ထုတ်ပေး၏။ နန္ဒိက ထိုပုဆိုးကိုကိုင်ကြည့်ပြီး 'အမေရဲ့ပုဆိုးက ကြမ်းလှသည်'ဟုဆိုလေ၏။ ထိုအခါ မိခင်က 'ချစ်သား၊ ငါတို့အိမ်မှာ ဒီပုဆိုးထက် နူးညံ့တဲ့ပုဆိုးမရှိဘူး'ဟုဆို၏။ နန္ဒိက'ကောင်းပါပြီ အမေ၊ ဒီပုဆိုးထက် နူးညံ့တဲ့ပုဆိုးကို ကျွန်တော်သွားပြီးရှာပါဦးမယ်'ဟုပြောသောအခါ မိခင်က'ချစ်သား၊ သွားပြီးရှာပါလေ၊ ငါကတော့ ငါ့သားကို ဒီဗာရာဏသီပြည်ရဲ့ဘုရင်ကြီးတောင်ဖြစ်စေချင်ပါတယ်'ဟု ပြောကြားလိုက်လေသည်။

နန္ဒိသည် မိခင်ကြီးကိုရှိခိုး၍ လက်ယာရစ်လှည့်အရိုအသေပြုပြီး ထွက်ခွာသွား၏။ နန္ဒိ၏မိခင်က ငါ၏သားသည် ရှေးတုန်းက အိမ်မှထွက်သွားလျှင် အချိန်တန် အိမ်သို့ပြန်လာတတ်၏။ ယခုတစ်ကြိမ်တွင်လည်း အိမ်သို့ပြန်လာလိမ့်မည်ဟု ထင်မှတ်ပြီး စောင့်မျှော်နေ၏။

နန္ဒိသည် မိမိမြို့ရွာမှထွက်ခဲ ဗာရာဏသီပြည်သို့သွား၍ စစ်သူကြီးတစ်ဦး၏အိမ်၌ ဝင်ရောက်ကာ အလုပ်တစ်ခုကိုတောင်းခံပြီး လုပ်ကိုင်နေခဲ့သည်။ တစ်နေ့တွင် နန္ဒိသည် အခြားဝန်ထမ်းများနှင့် ထိုင်၍ စကားပြောဆိုနေစဉ် ထိုင်လျက်အိပ်ပျော်သွားပြီး ဆန်းကြယ်သောအိပ်မက်တစ်ခုကို မြင်မက်လေသည်။ မြင်မက်ပုံမှာ နန္ဒိ၏ပါးစပ်တွင်းမှ အူများထွက်ပြီး ဇမ္ဗူဒိပ်ကျွန်း(အိန္ဒိယနိုင်ငံ)ကြီးကိုပတ်ခါ ထိုအူများသည် နန္ဒိ၏ဝမ်းတွင်းသို့ ပြန်ဝင်သွားသည်ဟုဖြစ်၏။ နန္ဒိသည် မိမိအိပ်မက်ကို ကြောက်လန့်ကာ အိပ်နေရင်းအသံထွက်အောင် အော်လိုက်မိ၏။ ထိုအခါ အတူနေသော အိမ်ရှင်စစ်သူကြီးက နန္ဒိကို 'ဟဲ့ ဘာဖြစ်တာတုံး'ဟု အလန့်တကြားမေးရာ နန္ဒိက မိမိ၏အိပ်မက်ကို ပြန်၍ပြောပြလေသည်။

စစ်သူကြီးသည် မိမိအိမ်သို့လာလေ့ရှိသော ပရိဗိုဇ်တစ်ဦးကို နန္ဒိ၏ အိပ်မက်အကြောင်းကိုပြောပြပြီး နိမိတ်ဖတ်ခိုင်းလေသည်။ ပရိဗိုဇ်မက ထိုအိပ်မက်မျိုးကို အမျိုးသမီးမြင်မက်ပါက ထိုအမျိုးသမီးသည် ခုနစ်ရက် အတွင်း မိဖုရားကြီးဖြစ်လိမ့်မည်။ အမျိုးသားမြင်မက်သော် ထိုအမျိုးသား သည် ခုနစ်ရက်အတွင်း မင်းဖြစ်လိမ့်မည်ဟု ဟောပြော လိုက်သည်။ စစ်သူကြီးသည် 'ပရိဗိုဇ်မဟောသည့်အတိုင်းဆိုလျှင် နန္ဒိသည် ခုနစ်ရက် အတွင်း မင်းအဖြစ်သို့ ရောက်ပေလိမ့်မည်။ ငါသည် နန္ဒိကို ဆွေမျိုးတော် ထားရလျှင် ကောင်းလိမ့်မည်'ဟု တွေးတောမိ၏။

ထို့နောက် မိမိ၏သမီးခုနစ်ဦးကိုခေါ်၍ နန္ဒိကို ယူနိုင်မည်လောဟု တစ်ဦးပြီးတစ်ဦးမေးလေသည်။ စစ်သူကြီး၏သမီး အကြီးခြောက်ယောက် တို့က 'ဤအမျိုးသားသည် ကျွန်မတို့အိမ်သို့ရောက်လာသည်မှာ မကြာ သေး၊ လူကောင်း,လူယုတ်ဟုခွဲခြားမသိနိုင်၊ သို့ဖြစ်၍ နန္ဒိကို မယူလိုပါ'ဟု ငြင်းပယ်လိုက်ကြ၏။ သမီးအငယ်ဆုံးကမူ 'မိဘတို့က ထိမ်းမြားပေးလျှင် ငြင်းပယ်စရာမရှိ၊ မိဘ၏ဆန္ဒအတိုင်းဖြစ်ပါစေမည်'ဟု ဝန်ခံကတိပေးသည့် အတွက် စစ်သူကြီးသည် မိမိ၏သမီးငယ်နှင့် နန္ဒိကို လက်ထပ်ပေးခဲ့သည်။

နန္ဒိသည် လက်ထပ်ပွဲပြီးသည့်နောက် ခုနစ်ရက်မြောက်သောနေ့တွင် မြို့အတွင်း ဟိုဟိုသည်သည်လှည့်လည်သွားရင်း ဗာရာဏသီမင်း၏ မင်္ဂလာ ဥယျာဉ်သို့ရောက်သွားပြီး 'ခရီးပန်းလှသည်၊ ဤနေရာ၌ ခေတ္တနားဦးမည်' ဟု ဥယျာဉ်တွင်းရှိ မင်္ဂလာကျောက်ဖျာပေါ်တက်၍ ဦးမြီးခြုံကာ အိပ်စက် လေသည်။ ထိုစဉ်အတွင်း ဗာရာဏသီမင်းနတ်ရွာစံလေရာ မင်း၏ ရုပ်ကလာပ်ကို သင်္ဂြိုဟ်လိုက်ကြပြီး ထိုမင်း၌ သားတော်မရှိ သမီးတော် တစ်ပါးသာ အနွယ်အဆက်ကျန်ခဲ့သည့်အတွက် မင်းမှူးမတ်ပုဏ္ဏားတို့ အချင်းချင်းတိုင်ပင်ကြ၍ 'မင်းမရှိသော တိုင်းပြည်ဟူ၍ မဖြစ်သင့်၊ မင်းလောင်းကိုရှာမှသင့်တော်မည်'ဟု သိန္ဓောမြင်းလေးကောင်က,သော ဖုဿရထားထက်၌ မင်းမြောက်တန်ဆာငါးပါးတို့ကိုတင် အစိဋ္ဌာန်ပြု

ရေဖျန်းကာ ဖုဿရထားကို လွှတ်လိုက်လေ၏။ ထိုရထား၏နောက်မှ တူရိယာတီးမှုတ်ပြီး လိုက်ပါလာကြ၏။ ထိုဖုဿရထားသည် မြို့တွင်း၌ လှည့်လည်ပြီး မြို့ပြင်သို့ အရှေ့တံခါးမှထွက်သောအခါ အချို့သော မင်းပုဏ္ဏားတို့က 'ဤသိန္ဓောမြင်းတို့သည် ဤတံခါးမှ မြို့ပြင်သို့ ထွက်လေ့ရှိသဖြင့် ထွက်ဟန်တူသည်။ ပြန်ခေါ်ပါ'ဟုဆိုကြ၏။ အချို့က 'မခေါ်ပါနှင့် သွားပါစေ'ဟုဆိုကာ ထိုရထားနောက်မှ လိုက်ပါသွားကြ၏။ ထိုရထားသည် အရှေ့တံခါးမှ မြို့ပြင်သို့ထွက်၍ မင်းဥယျာဉ်သို့ ရှေးရှု သွားလေသည်။ ဥယျာဉ်အတွင်းသို့ရောက်သော် နန္ဒိအိပ်စက်နေသော မင်္ဂလာကျောက်ဖျာကို လက်ယာရစ်လှည့်ပတ်ပြီး ရပ်တန့်လေသည်။

ပညာရှိပုရောဟိတ်ပုဏ္ဏားတို့လည်း ကျောက်ဖျာထက်၌ ပုဆိုးခြုံပြီး အိပ်စက်နေသော နန္ဒိ၏ခြေထည်ကို အသာလှစ်ဖယ်ပြီး ခြေဖဝါးပြင်ကို ကြည့်ရှုသောအခါ ဤခြေရာရှင်သည် ဇမ္ဗူဒိပ်ကျွန်းကိုသာမက ကျွန်းငယ် နှစ်ထောင်ရံလျက်ရှိသော ကျွန်းကြီးလေးကျွန်းလုံးကိုပင် အုပ်ချုပ် မင်းလုပ်နိုင်လောက်သော ဘုန်းရှင်ကံရှင်မှန်းသိကြ၏။ သို့ဖြစ်၍ တူရိယာ ငါးပါးကို တစ်ပြိုင်နက်တီးမှုတ်စေရာ နန္ဒိသည် ဦးခေါင်းခြုံထည်ကို လှစ် ဖယ်ပြီး 'သင်တို့က ဘယ်သူတွေလဲ၊ ဘာကြောင့် ငါ့အနားမှာ လာ၍ တီးမှုတ်နေကြသလဲ'ဟု မေး၏။ မှူးမတ်တို့က 'အရှင်မင်းကြီး၊ အရှင်သည် မင်းအဖြစ်သို့ရောက်ပါပြီ'ဟုဆိုကြကုန်၏။ နန္ဒိက 'သင်တို့၏ မင်းသည် အဘယ်သို့သွားသနည်း'ဟုမေးရာ 'အကျွန်ုပ်တို့၏အရှင်မင်းကြီး သည် နတ်ရွာ စံခဲ့ပါပြီ'ဟုလျှောက်ထားကြ၏။ နန္ဒိက'သင်တို့မင်းကြီး နတ်ရွာစံသည်မှာ ဘယ်လောက်ကြာခဲ့ပြီလဲ'ဟုမေးပြန်သောအခါ 'ခုနစ် ရက်ရှိပါပြီ'ဟု ဖြေကြားကြ၏။ ထိုအခါ နန္ဒိက 'သင်တို့မင်း၌ သားတော် သမီးတော်မရှိသလော'ဟုမေးပြန်ရာ 'မင်းကြီး၌ သားတော်မရှိပါ၊ သမီး တော်တစ်ပါးသာရှိပါသည်'ဟု ဖြေကြားကြလျှင်၊ နန္ဒိက 'ငါပင် မင်းအဖြစ် ကိုပြုတော့မည်'ဟုဆိုသဖြင့် နန္ဒိကို မင်းမြှောက်ကြသည်။

နန္ဒိလည်း ထိုမင်းပရိသတ်တို့ခြံရံပြီး နန်းတော်သို့ဝင်ကာ မင်းသမီးကို အဂ္ဂမဟေသီ မိဖုရားကြီးအဖြစ်ထား၍ အဘိသိက်ခံခဲ့၏။ နန္ဒိသည် မင်းဖြစ်သည့်အခါ ဝတ်ရုံရန် ဆက်သလာသော အဝတ်ပုဆိုးတို့ကို ကိုင်ကြည့်ပြီး 'ထူလဲထူ ကြမ်းလဲကြမ်းလှချည့်ရဲ့'ဟု မိန့်ဆိုလေသည်။ မှူးမတ်တို့ကို 'သင်တို့ရဲ့မင်းကြီး သည်လိုထူထူကြမ်းကြမ်း အဝတ်တွေကို ဝတ်ရုံခဲ့သလား'ဟုမေးရာ၊ မှူးမတ်တို့က 'ဒီအဝတ်ပုဆိုးများကိုသာ ဝတ်ရုံပါတယ် အရှင်မင်းကြီး'ဟုဖြေကြားကြ၏။ နန္ဒိယမင်းက'သင်တို့မင်းသည် ကုသိုလ်ကံနည်းလိုက်လေ'ဟု မိန့်ဆိုပြီးလျှင် ရွှေကရား၌ ရေထည့်ပြီး လက်ကိုဆေး နှုတ်ကိုကျင်း မြေအပြင်၌ ရေကိုဖျန်းလိုက်ရာ အဝတ်ပုဆိုး သီးထားသော ပဒေသာပင်တစ်ဆယ့်ခြောက်ပင် မြေကြီးမှခွဲ၍ ပေါ်လာ၏။ အရပ်လေးမျက်နှာအနှံ့ ရေကိုဖျန်းကြဲလိုက်လေရာ အရပ် မျက်နှာ တစ်ဖက်စီ၌ ပဒေသာပင်တစ်ဆယ့်ခြောက်ပင်စီ ပေါ်လာပြန်၏။ နန္ဒိယမင်းလည်း ထိုပဒေသာပင်တို့၌ပါလာသော အဝတ်တန်ဆာကို ဆွတ်ယူ၍ ဝတ်ဆင်ပြီး၊ ကျန်မင်းပရိသတ်တို့ကိုလည်း ဆွတ်ယူ ဝတ်ဆင်စေခဲ့၏။ ထို့ပြင် မိမိ၏ မြို့တော်၌ ထိုနေ့မှစ၍ ယက္ကန်းစသည်တို့မယက်လုပ်ကြနှင့်၊ အဝတ်အထည်တို့ကို ပဒေသာပင်မှသာဆွတ်၍ သုံးစွဲကြကုန်ဟုလည်း အမိန့်ထုတ်လေသည်။

ပစ္စေကဗုဒ္ဓါအရှင်မြတ်အား သင်္ကန်းအနားပတ်အတွက် အပေါ်ရုံပုဆိုးလှူရသော ဒါန၏အကျိုးပေးပုံသည်ကား အံ့ဩဖွယ်ကောင်းလေစွ။ မုန်ညင်းစေ့လောက်မျှရှိသော ညောင်ပိန္နဲစေ့ကလေးမှနေ၍ အရာမက အခက်အလက်တို့နှင့်ပြည့်စုံသော ပညောင်ပင်ဖြစ်ပေါ်လာသကဲ့သို့ အနည်းငယ်သော ကောင်းမှုကံမှ ကြီးကျယ်ပြန့်ပြောသောအကျိုး ဖြစ်ထွန်းလာလေ၏။ ထို့ကြောင့် ပညာရှိတို့က 'အနည်းငယ်သောကုသိုလ် ကံဟူ၍ မံထေမဲ့မြင်မပြုထိုက် အထင်မသေးထိုက်'ဟု မိန့်ဆိုခဲ့ကြ၏။

နန္ဒိယသည် ဗာရာဏသီပြည်၌ ဘုရင်ဖြစ်၍ ရက်လကြာမြင့်လာ

သောအခါ တစ်နေ့တွင် မိဖုရားကြီးက 'အရှင်မင်းကြီး၏နှောင်ရေးကို ပူပန်မိပါတယ်ဘုရား'ဟုဆိုလေသည်။ မင်းကြီးက 'မိဖုရားကြီး၊ ဘယ်လိုအကြောင်းကြောင့် ငါ့အတွက် ပူပန်ရပါသလဲ'ဟုမေးလျှင် မိဖုရားကြီးက 'အရှင်မင်းကြီးဟာ အတိတ်ကာလကပြုခဲ့တဲ့ ကောင်းမှုကုသိုလ်ကံကြောင့် ယခုဘဝ၌ ဒီလိုစည်းစိမ်ချမ်းသာကို ခံစားစံစားနေရပါတယ်။ အနာဂတ်ကာလအဖို့ ကုသိုလ်ကောင်းမှုကို ပြုတော်မူပါဦးဘုရား'ဟု သတိပေးစကားပြောကြားလေသည်။

ထိုအခါ မင်းကြီးက 'ဘယ်လိုပုဂ္ဂိုလ်ကို လှူရပါ့မလဲ၊သီလနဲ့ပြည့်စုံတဲ့ ပုဂ္ဂိုလ်ကလဲ ရှားပါဘိ'ဟု ဆိုလေရာ မိဖုရားကြီးက 'ဒီဇမ္ဗူဒိပ်ကျွန်းမှာ ရဟန္တာအရှင်မြတ်တွေ ရှိကြပါတယ်၊ လှူရပါစေ့မယ်'ဆိုပြီးလျှင်၊ မိဖုရားကြီးသည် သံဃာတော်အရှင်မြတ်တို့အား ဆွမ်းလုပ်ကျွေးရန်ပြင်ဆင်၊ ဟိမဝန္တာတည်ရှိရာအရပ်သို့ ရှေးရှုပြီး ပန်းတို့ကိုအဓိဋ္ဌာန်ပြု၍ မြှောက်ကြဲသံဃာတော်တို့အား ပင့်ဖိတ်လေသည်။ ပန်းတို့သည် ကောင်းကင်မှ ဟိမဝန္တာအရပ်သို့သွားကြပြီး ပစ္စေကဗုဒ္ဓါငါးရာတို့တွင် အကြီးဆုံးဖြစ်တော်မူသော ပဒုမဝတီ၏သားတော် မဟာပဒုမပစ္စေကဗုဒ္ဓါ၏ခြေတော်ရင်း၌ ကျလေ၏။ ကုသိုလ်ကံ၏အကျိုးပေးပုံသည် ဆန်းကြယ်လေစွ၊ စိတ်စေတနာမရှိသော ပန်းတို့သည်ပင် ကုသိုလ်ရှင်တို့၏ တမန်သဖွယ် ဆောင်ရွက်ပေးကြ၏။

မဟာပဒုမပစ္စေကဗုဒ္ဓါသည် မိမိခြေရင်း၌ကျလာသောပန်းတို့ကို ရှုကြည့်၍ အကြောင်းစုံကို သိမြင်တော်မူလျှင် မိမိ၏ညီတော် ပစ္စေကဗုဒ္ဓါတို့အား 'ငါ့ရှင်တို့၊ နန္ဒိယမင်းသည် ငါ့ရှင်တို့ကို ပင့်ဖိတ်၏'ဟု မိန့်ကြားတော်မူ၏။ ပစ္စေကဗုဒ္ဓါအရှင်မြတ်ငါးရာတို့သည် ဟိမဝန္တာမှ ကောင်းကင်ခရီးဖြင့် ကြွတော်မူခဲ့ကြပြီး နန္ဒိယမင်း၏နန်းတော် မြှောက်တံခါး၀၌ သက်ဆင်းတော်မူကြ၏။ နန္ဒိယမင်းကြီးလည်း ပစ္စေကဗုဒ္ဓါအရှင်မြတ်တို့ကို ရိုသေစွာ ဆွမ်းလုပ်ကျွေးပြီး မဟာထေရ်ကြီး၏ခြေရင်း၌ ဝပ်စင်း၍

မိဖုရားကြီးက အငယ်ဆုံးသံဃာတော်တို့၏ခြေရင်း၌ ဝပ်စင်းကာ 'အရှင်ဘုရားတို့လည်း ပစ္စည်းလေးပါးအတွက် မပင်ပန်းစေရန်၊ တပည့်တော်လည်း ကုသိုလ်ကောင်းမှုကို အစဉ်ပြုနိုင်စေရန် တပည့်တော်တို့အား သနားသဖြင့်ဤ တိုင်းပြည်၌ သီတင်းသုံးတော်မူကြပါဘုရား'ဟုဖိတ်ကြားခဲ့၏။ မိမိဉယျာဉ်တော်ကိုနေရာကျောင်းပြုလုပ်၍အရှင်မြတ်တို့အားလှူဒါန်းပြီး နန္ဒိယမင်းကြီးသည် အသက်ထက်ဆုံး ပစ္စေကဗုဒ္ဓါတို့အား ပြုစုလုပ်ကျွေးကာနေခဲ့၏။

နန္ဒိယမင်းကြီးသည် ထိုပစ္စေကဗုဒ္ဓါအရှင်မြတ်တို့ ပရိနိဗ္ဗာန်ပြုတော်မူကြသောအခါ သာဓုကီဠနသဘင်ကြီးစွာဆင်ယင်၍ ကြွင်းကျန်ရစ်သောဓာတ်တော်တို့ကို စေတီတည်ထားပြီး 'ဤသို့တန်ခိုးအာနုဘော်နှင့်ပြည့်စုံသော အရှင်မြတ် တို့သည်ပင် ပရိနိဗ္ဗာန်စံတော်မူကြရကုန်၏။ ငါတို့မှာ အဘယ်ဆိုဖွယ်ရာရှိ မည်နည်း'ဟု မရဏာနုဿတိဘာဝနာ ပွားများဆင်ခြင်မိလျက် သားတော်အကြီးကို ထီးနန်းလွှဲအပ်ခဲ့ပြီး မိဖုရားကြီးနှင့်အတူ ရသေ့ရဟန်းပြု ဉယျာဉ်တော်ကျောင်းမှာပင် သီတင်းသုံးနေခဲ့၏။ နန္ဒိယရသေ့ကြီးသည် သမာပတ်ရှစ်ပါးနှင့် အဘိညာဉ်ငါးပါးတို့ကိုရလျက် ထိုဘဝ၌စုတေမနေ သေလွန်သော် ဗြဟ္မာပြည်၌ဖြစ်ခဲ့လေ၏။ ထိုဗြဟ္မာဘုံမှ တစ်ဖန် ဂေါတမမြတ်စွာလက်ထက်တွင် ခုတင်ဆောင်ပုဂ္ဂိုလ်တို့တွင် အမြတ်ဆုံး အရှင်မဟာကဿပမထေရ်ဟု လောက၌ ထင်ရှားဖြစ်တော်မူခဲ့၍၊ မိဖုရားကြီးသည်လည်း ဘဒ္ဒကပိလာနီ ဖြစ်လေတော့သတည်း။

ဤအရှင်မဟာကဿပမထေရ်၏အလောင်း နန္ဒိယရာဇမင်း၏ဝတ္ထုကို အကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'သင်သူတော်ကောင်းတို့သည် သီလနှင့်ပြည့်စုံသော သီလဝန္တပုဂ္ဂိုလ်တို့အား အလှူကြီးပေးလှူကြကုန်လော့၊ ဒါနစသောကုသိုလ်ကောင်းမှုသည် သင်တို့အား ဘဝအဆက်ဆက်တို့၌ စိတ်အလိုရှိတိုင်းပြည့်စေသော စိန္တာမဏိပတ္တမြားကြီးသဖွယ်၊ လိုတိုင်း ဆွတ်ခူး၍ ရယူနိုင်သော ကပ္ပရုက္ခနတ်သစ်ပင် ပဒေသာကြီးသဖွယ် အားကိုးမှီခိုရာ ထောက်တည်ရာ ဖြစ်ပေလိမ့်မည်'ဟု တိုက်တွန်းခဲ့ကြ၏။



# ပုဆိုးနွမ်းလှူ၍ နတ်ပြည်ရောက်ရသူ

[၁၂။ အညတရမနုဿဝတ္ထု]

ဂေါတမမြတ်စွာဘုရားရှင် ပရိနိဗ္ဗာန်ပြုပြီးသည့်နောက် ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ ပါဋလိပုတ်ပြည်အနီး မထင်မရှားသောကျေးရွာကလေး တစ်ရွာတွင် ဆင်းရဲသားတစ်ဦးနေထိုင်ခဲ့၏။ ထိုဆင်းရဲသားသည် မိမိရွာမှ အခြားရွာသို့ အကြောင်းကိစ္စတစ်ခုဖြင့် ခရီးထွက်ခဲ့သည်။ သူ့မှာ အဝတ်အစားဆို၍ ဝတ်ဆင်ထားသောခါးဝတ်ပုဆိုးနှင့် အပေါ်ရုံပုဆိုးဟု နွမ်းယိနေသော ပုဆိုးနှစ်ထည်သာရှိလေရာ ထိုပုဆိုးနှစ်ထည်ကိုပင်ဝတ်ဆင်၍ ခရီးထွက်ခဲ့လေသည်။

လမ်းခရီးတောအုပ်ကြီးတစ်ခုသို့ရောက်သောအခါ ထိုတောအုပ်အတွင်း၌ ပုန်းအောင်းနေသောဓားပြက အဝေးမှလာနေသောဆင်းရဲသားကို မြင်လေ၏။ ဆင်းရဲသားကလည်း ထိုဓားပြကို အဝေးမှပင်လှမ်း၍မြင်လေရာ ဤသို့ကြံစည်မိလေသည်။ 'ငါသည် ထိုဓားပြကိုဆန့်ကျင်ပြီး ခုခံတိုက်ခိုက်၍ နိုင်မည်မဟုတ်၊ ငါ့မှာပစ္စည်းဥစ္စာဆို၍ ဝတ်ဆင်ထားသော ဤပုဆိုးဟောင်းလေးနှစ်ထည်သာရှိ၏။ ဤပုဆိုးကို မပေးလိုသော်လည်း မတတ်နိုင်။ ပေးရမည့်အတူတူ ကုသိုလ်လည်းရ အကျိုးလည်းဖြစ်အောင် အလှူဒါနပြုခြင်းဖြင့် ငါ့အတွက် အမြတ်အစွန်းထွက်စေမည်' ဟုဆိုပြီး အနီးရှိသစ်ပင်တစ်ပင်အောက်၌ ပုဆိုးနှစ်ထည်ကိုချွတ်ပြီး ငုတ်တုတ် ထိုင်နေလိုက်၏။ ဓားပြလည်း ပုဆိုးနှစ်ထည်ချွတ်လျက် ထိုင်နေသော ဆင်းရဲသားအနီးသို့သွားပြီး ဆင်းရဲသားချွတ်ထားသော ပုဆိုးအထည်စကို ကိုင်တွယ်ပွတ်သပ်ကြည့်လေသည်။

ထိုအခါ ဆင်းရဲသားက သူခိုးကို ကောင်းမြတ်သောစိတ်ထားဖြင့် 'ငါရဲ့ဒီပုဆိုးအလှူဟာ နောက်နောင်ဘဝတို့မှာ ဥစ္စာပစ္စည်းပေါများရန်

အထောက်အပံ့ဖြစ်ပါစေသတည်း'ဟုနှလုံးသွင်းပြီး ပေးလှူလိုက်၏။ ဆင်းရဲသားသည် ထိုသို့ပုဆိုးကလေးနှစ်ထည်ကို ဓားပြအားကြည်ဖြူစွာပေးလှူပြီးနောက် တောလမ်းခရီးအတိုင်းလာခဲ့ရာ တောလမ်းတစ်နေရာ၌ အဆိပ်ပြင်းသောမြွေကိုက်၍ သေရရှာလေသည်။

ထိုဘဝမှသေလွန်သော် ဟိမဝန္တာအရပ်တွင် ဆယ့်နှစ်ယူဇနာရှိသော ရွှေဗိမာန်၌ နတ်သမီးအပေါင်းခြံရံလျက် နတ်သားဖြစ်ခဲ့၏။ ထိုနတ်သားသည် မိမိ၏နတ်စည်းစိမ်ကိုကြည့်ပြီး ဝမ်းမြောက်နှစ်သက်သဖြင့် အောက်ပါစကားကို မြွက်ဆိုခဲ့လေသည်။

'မိမိ၏ဥစ္စာပစ္စည်း၌ တပ်မက်သောစိတ်ကို ဖြတ်တောက်ပြီး လှူဒါန်းသောသူသည် ကြီးကျယ်သောစည်းစိမ်ဥစ္စာတို့ကိုရကြ၏။ နတ်ချမ်းသာကိုလည်း ဖြစ်စေ၏။

'ငါသည် သီလကင်းမဲ့သော ထိုဓားပြအား အလွန်နုံချာ၍ အဆင်းအရောင်ကင်းမဲ့သောပုဆိုးနွမ်းလေးကိုလှူရကာမျှ ဤသို့ကောင်းမြတ်သောအကျိုးကို ခံစားရလျှင် အလွန်တရာကောင်းမြတ်၍ အဆင်အသွေးလှပတင့်တယ်သော ပုဆိုးအသစ်စက်စက်အဝတ်ကို လယ်ယာမြေကောင်းသဖွယ်ဖြစ်သော အရှင်ကောင်းတို့အား လှူရပါမူကား ရရှိမည့်အကျိုးကျေးဇူးကို အဘယ်သူသည် တိုင်းတာ၍ ရပါတော့မည်နည်း။'

ဤမထင်မရှားဆင်းရဲသားဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'ကုသိုလ်အမျိုးမျိုးကို အားထုတ်ပြုလုပ်သောကြောင့် နတ်ချမ်းသာလူချမ်းသာ၌ ဖြစ်ကြကုန်၏ဟု သိကြပြီးလျှင် သင်သူတော်ကောင်းတို့သည် သီလရှိသောပုဂ္ဂိုလ်၌ ယုံကြည်လေးမြတ်သောစိတ်ဖြင့် ပေးလှူကြပါလော့၊ ထိုသို့ပေးလှူပါက ထူးသောအကျိုးကို ခံစားကြရမည်မှာ ကေန်ဖြစ်သည်'ဟု တိုက်တွန်းထားခဲ့၏။



# သတ်၍မသေသောဝိသမလောမမင်းသား

[၁၃။ ဝိသမလောမကုမာရဝတ္ထု]

ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ၌ ကဿပမြတ်စွာဘုရားရှင်လက်ထက်တော်အခါက အမျိုးကောင်းသားတစ်ဦးသည် ကဿပမြတ်စွာဘုရား၏ တရားတော်ကို နာကြားရ၍ သာသနာတော်၌ ကြည်ညိုသဖြင့် ရဟန်းသံဃာတော်တို့ကို လှူဒါန်းခြင်း၊ ဥပုသ်သီလဆောက်တည်ခြင်း စသောကောင်းမှုကုသိုလ်ကံတို့ကို ပြုလုပ်နေထိုင်ခဲ့ပြီး ထိုဘဝမှ ကွယ်လွန်သော် နတ်ပြည်၌ ဖြစ်ခဲ့လေသည်။

တစ်ဖန် ထိုနတ်သားသည် နတ်တို့သက်တမ်းကုန်သည်အထိ နတ်စည်းစိမ်ကိုခံစားပြီး ဂေါတမမြတ်စွာဘုရား ပရိနိဗ္ဗာန်ပြုပြီးသည့်နောက်ကာလ ဤဇမ္ဗူဒိပ်ကျွန်း ပါဋလိပုတ်ပြည်၌ အာဏာစက္ကဝတ္တိဓမ္မာသောကမင်း နန်းစံနေစဉ်အခါ ထိုမင်း၏ မိဖုရားကြီးဝမ်း၌ သန္ဓေစွဲယူခဲ့လေသည်။ မွေးဖွားလာသောအခါ ဦးခေါင်း၌ ဆံပင်မွေးတို့ မညီမညာဟိုတစ်စုသည်တစ်စုဖြစ်နေသောကြောင့် ဝိသမလောမကုမာရဟု အမည်ပေးခဲ့ကြ၏။ ထိုမင်းသားသည် ငယ်စဉ်ကပင် ပညာထူးချွန်တတ်မြောက်ပြီး ခွန်အားဗလနှင့်ပြည့်စုံ၏။ ရုပ်ရည် အဆင်းအပြင်လှပ၍ မြင်သူတိုင်းကလည်းကြည်ညိုလေးစားချစ်ခင်ကြသည်။ အခြွေအရံလည်းများပေသည်။

တစ်နေ့သော် ဓမ္မာသောကမင်းကြီးသည် ရှစ်သောင်းလေးထောင်သော မင်းတို့ခြံရံလျက် ဟိမဝန္တာသို့ တောကစားထွက်တော်မူ၏။ တောကစားပြီးအပြန် စန္ဒဘာဂအမည်ရှိသော ဂင်္ဂါမြစ်သို့ရောက်ခဲ့၏။ ထိုမြစ်သည် တစ်ယူဇနာအကျယ်ရှိပြီး သုံးဂါဝုတ်နက်၏။ ထိုဂင်္ဂါမြစ်အတွင်း စီးဆင်းနေသောရေအဟုန်ကြောင့် လှိုင်းလုံးကြီးများထနေ၏။ ထိုလှိုင်းလုံးကြီးများသည် ကမ်းနှစ်ဖက်ကို ပြင်းထန်စွာ ရိုက်ခတ်နေ၏။ ထိုသို့ကြောက်

မက်ဖွယ်ကောင်းအောင် တဟီးဟီးတဟဲဟဲမြည်၍ လှိုင်းလုံးကြီးများထကာ စီးဆင်းနေသော မဟာဂင်္ဂါမြစ်ကို ရှုမြင်ရသော် ဓမ္မာသောကမင်းကြီးက 'ဤဂင်္ဂါမြစ်ကိုဖြတ်၍ တစ်ဖက်ကမ်းသို့ မည်သူကူးနိုင်မည်နည်း'ဟု ဆိုမိလေသည်။

မင်းကြီး၏စကားကိုကြားသော ဝိသမလောမကုမာရမင်းသားက 'အရှင်မင်းကြီး၊ အကျွန်ုပ်သည် ဂင်္ဂါမြစ်ကိုကူးခြင်းငှာ စွမ်းနိုင်ပါ၏'ဟု လျှောက်ထား၏။ မင်းကြီးက 'ကောင်းပြီ ချစ်သား၊ သင်စွမ်းနိုင်ကကူးလေ'ဟုမိန့်ဆိုလျှင် ဝိသမလောမကုမာရမင်းသားသည် ပုဆိုးကိုမြဲမြံစွာဝတ်၊ ဆံထုံးတို့ကို ကောင်းစွာဖွဲ့ပြီး ဂင်္ဂါမြစ်ကမ်းထိပ်၌ ရပ်နေ၏။ ထို့နောက် တစ်ဆယ့်ရှစ်တောင် အမြင့်သို့ခုန်တက်ကာ မြစ်အတွင်း တစ်ဥသဘ (အတောင်တစ်ရာ့လေးဆယ်)ကွာလှမ်းသောအရပ်သို့ ကျရောက်စေပြီးလျှင် ကြမ်းတမ်းစွာစီးဆင်းနေသော ထိုဂင်္ဂါမြစ်ရေကိုဖြတ်ကျော်၍ သည်ဘက်ကမ်းမှ ဟိုဘက်ကမ်းသို့၊ ဟိုဘက်ကမ်းမှ သည်ဘက်ကမ်းသို့ အသွားအပြန် အပြန်အလှန် ကူးခတ်ပြခဲ့လေသည်။

ထိုမြစ်အတွင်း ကြောက်မက်ဖွယ်ကောင်းသော မိကျောင်းကြီးများ ရှိလေရာ ဝိသမလောမမင်းသားသည် ထိုမိကျောင်းအကောင် တစ်ရာ့နှစ်ဆယ်တို့ကိုသတ်၍ ကမ်းပေါ်သို့တက်ခဲ့၏။ မင်းကြီးက ဝိသမလောမမင်းသား၏ အစွမ်းသတ္တိကိုမြင်လျှင်'ဤမင်းသားသည် တစ်နေ့သောအခါ၌ ငါ့ကိုသတ်ပြီး တိုင်းနိုင်ငံကိုယူရန် အစွမ်းရှိပေသည်'ဟု ကြောက်ရွံ့ထိတ်လန့်ပြီး ထိုမင်းသားကို ဖျောက်ဖျက်ရန် ကြံစည်ခဲ့လေသည်။

ဓမ္မာသောကမင်းသည် ဂင်္ဂါမြစ်အနီးမှ ပြန်လည်ထွက်ခွာလာပြီး ပါဋလိပုတ်ပြည်သို့ ဆိုက်ရောက်သောအခါ မှူးမတ်တို့ကို 'အသင်တို့၊ ဝိသမလောမမင်းသားကို ဖမ်းချုပ်ထားလိုက်ကြ'ဟုအမိန့်ပေး၏။ မှူးမတ်တို့လည်း မင်းကြီးအမိန့်ပေးသည့်အတိုင်း မင်းသားကိုဖမ်း၍ ထောင်အတွင်းအကျဉ်းချထားလိုက်၏။ မင်းသားသည် အချုပ်အနှောင်အတွင်း၌ လေးလစ်နေ

ရရှာ၏။ အင်အားလျော့နည်းစေရန် အစားအသောက်ကို အနည်းငယ်သာ ကျွေးမွေးကြ၏။ ရေကိုပင် ဝအောင်မတိုက်ကြပေ။

ဤသို့ ဝိသမလောမမင်းသားကို လေးလကျော်ကျော်ခန့်ချုပ်နှောင် ထားပြီးနောက် အားအင်ကုန်ခန်း ပင်ပန်းနွမ်းနယ်လောက်ပြီဟု ထင်ရသည့် အခါ မင်းကြီးသည် အလျားအတောင်ခြောက်ဆယ်ရှိသော ဝါးလုံးအတွင်း သံရည်ကျိုချ၍လောင်းထည့်ပြီး ထိုသံပါရှိသောဝါးချောင်းတို့ကို စည်းနှောင် ပြီးလျှင် မင်းသားကို သန်လျက်ငယ်ကလေးတစ်ချောင်းဖြင့် လက်လေးသစ်စီ ဖြတ်စေ၏။ အကယ်၍မဖြတ်နိုင်ပါမူ ဝိသမလောမမင်းသားကို သတ်ကြ ဟုလည်း အမိန့်ချမှတ်တော်မူခဲ့၏။

ထိုအခါက မင်းသားက 'ငါသည် ထောင်အတွင်း၌ လေးငါးလ အစာအာဟာရလည်း ပြည့်ပြည့်ဝဝမစားခဲ့ရ။ အစာအာဟာရကောင်း မွန်ပြည့်စုံစွာ စားရလျှင် သင်တို့ပေးသောဝါးလုံးတို့ကို လက်လေးသစ်စီညီညီ ဖြတ်နိုင်လိမ့်မည်'ဆိုလေသည်။ အမတ်တို့က 'မင်းသား၊ သင့်ကို အစာ အာဟာရဝလင်အောင်ကျွေးဖို့ ကျွန်ုပ်မှာအမိန့်မရှိ'ဟုဆိုကြ၏။ မင်းသားက 'အစာမကျွေးနိုင်လျှင် ထားတော့၊ ရေကိုမူ သောက်ခွင့်ပြုပါ'ဟုဆိုပြီး အနီးရှိရေကန်သို့ ရေဆင်းသောက်လေသည်။ ရွှံ့ညွန်ကို အားပါးတရ စားလေသည်။

ဝိသမလောမမင်းသားသည် အပန်းပြေ၍ အားအင်ပြည့်ဖြိုးလာသော အခါ အထက်သို့ ရှစ်ဆယ့်ရှစ်တောင်ခုန်တက်ပြီး သန်လျက်ငယ်ကလေး ဖြင့် သံထည့်ထားသောထိုဝါးစည်းတို့ကို လက်လေးသစ်အကွာ အပိုင်းပိုင်း ဖြတ်လေ၏။ ထိုသို့ဖြတ်နေစဉ် 'တိန်'ဟူသောအသံကို ကြားရလျှင် ဝါးလုံးအတွင်း၌ သံထည့်သွင်းထားမှန်း သိလေသည်။ ထိုအခါ မင်းသား သည် သန်လျက်ငယ်ကို လွှတ်ချပြီး ငိုကြွေးတော့၏။ ပြီးလျှင် 'ငါ့ကို ချစ်သော မင်းမှူးမတ်စသည်တို့ မရှိပါတကား'ဟုဆို၏။ ထိုစကားကို မှူးမတ်တို့ ကြားလျှင် မင်းသားကို 'အဘယ့်ကြောင့် ဤစကားကို

ဆိုသနည်း’ဟု မေးကြ၏။ မင်းသားက‘ငါ့ကိုချစ်သောသူ မရှိပါတကား၊ ဤဝါးအတွင်း သံများထည့်ထားကြောင်း ပြောပြဖို့သင့်၏။ အကယ်၍ ဤဝါးစည်းအတွင်း သံထည့်ထားပါမူ ငါသည် လက်လေးသစ်အကွာ ထား၍ ဖြတ်မည်မဟုတ်၊လက်တစ်သစ်စီသာ ဖြတ်ပေမည်’ဟုဆိုလေသည်။

မင်းကြီးနှင့်တကွ ပရိသတ်အပေါင်းသည် မင်းသား၏အဖြေကို သဘောကျနှစ်သက်ကြပြီး မင်းသားငယ်ကို နှောင်အိမ်မှထုတ်ကာ အိမ်ရှေ့မင်းစည်းစိမ်အရာကို ပေးလေသည်။ ဝိသမလောမမင်းသား၏ ဤသို့ခွန်အားဗလနှင့်ပြည့်စုံရခြင်းသည် ဇာတိမျိုးနွယ်ကြောင့်လည်း မဟုတ်၊ သူ့အသက်ကိုသတ်ခြင်းစသည့် ဒုစရိုက်မှုတို့၏အားလည်းမဟုတ်၊ ကဿပမြတ်စွာဘုရားလက်ထက်က သာသနာတော်အား လှူဒါန်းထောက်ပံ့ သော ဒါနသုစရိုက်ကံ၏အကျိုးသာလျှင် ဖြစ်လေသည်။

ထို့ကြောင့် ဘဝဋ္ဌပြည့်စုံခြင်းကိုအလိုရှိသော သူတို့သည် ကုသိုလ်ကိုပြုသင့်၏။ သီလကိုစောင့်ရှောက်သင့်၏။ ဘာဝနာကိုလည်း ပွားများသင့်၏။ ထိုသို့ သုစရိုက်အမှုကိုနှစ်သက်၍ ပြုကျင့်သောကြောင့် ဘဝကြီးငယ်တို့၌ စည်းစိမ်နှင့်ပြည့်စုံရလေသည်။ ဝိသမလောမမင်းသားသည် အိမ်ရှေ့မင်း ဥာနန္တရစည်းစိမ်ချမ်းသာကိုခံစားလျက် ရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်အမှူးပြုသော ရဟန်းတော်မြတ်တို့အား ပစ္စည်းလေးပါးဖြင့် ပူဇော်သက္ကာရပြုကာ အသက်ထက်ဆုံးနေထိုင်သွားခဲ့လေသည်။

ဤဝိသမလောမမင်းသား၏ဝတ္ထုကို အကြောင်းပြု၍ ရှေးဆရာမြတ်တို့က ‘ကောင်းမှုကိုပြုသောကြောင့် ဘဝကြီးငယ်တို့၌ စည်းစိမ်ချမ်းသာများစွာ ဖြစ်ကြရ၏။ သင်သူတော်ကောင်းတို့သည်လည်း ကောင်းမှုကိုပြုကြပြီး နိဗ္ဗာန်ကို လက်ဝယ်ပိုင်ပိုင် ဆုပ်ကိုင်နိုင်ကြပါစေသတည်း’ဟု တိုက်တွန်းစကား ဆိုထားခဲ့ကြသည်။



# တရားနာ၍နဂါးလက်မှလွတ်သူ

[၁၄။ ကဥ္စနဒေဝိဝတ္ထု]

ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ ဒေဝပုတ္တမြို့ကလေးသည် သာယာ၍ ရှုချင့်ဖွယ်ရှိသော မြို့တစ်မြို့ဖြစ်သည်။ ထိုမြို့၌ကျင်းပသော သပိတ်ပူဇော်ပွဲသည် အလွန်စည်ကားသိုက်မြိုက်၍ ထင်ရှားကျော်ကြားလှသည်။

သပိတ်ပူဇော်ပွဲဆိုသည်မှာ မြတ်စွာဘုရားသုံးဆောင်တော်မူသော သပိတ်တော်ကို ပွဲလမ်းသဘင်ခင်းကျင်းပြီး ပူဇော်သောပွဲကို ဆိုလိုသည်။ သပိတ်ပူဇော်ပွဲကျင်းပပုံမှာ ရတနာမျိုးစုံတန်ဆာဆင်ထားသောရထားပေါ်၌ ရတနာခုနစ်ပါးဖြင့် ခြယ်လှယ်ထားသည့် အလျားအတောင်ရှစ်ဆယ်ရှည်သောဝါးလုံးကြီးကို စိုက်ထူထား၏။ ထိုဝါးလုံး၏အထက်ဖျား၌ မြတ်စွာဘုရားရှင်၏ကျောက်သပိတ်ကို ပုလဲကွန်ယက်အစရှိသည်တို့ တန်ဆာဆင်ပြီး ချိတ်ဆွဲထားရှိ၏။ ပြီးလျှင် ထိုရတနာရထားကို ကုမုဒြာကြာဖြူအဆင်းရှိသော သိန္ဓောမြင်းလေးကောင်ဆွဲပြီး မြို့လုံးအနှံ့လှည့်လည်ကာ သပိတ်တော်ကို အပူဇော်ခံကြ၏။ မြို့တွင်းလမ်းတစ်လျှောက် တံခွန်ကုက္ကားအလံစသည် ပြင်ဆင်ထွန်းညှိ ပန်းပေါက်ပေါက်တို့ကြဲဖြန့်၍၊ ရေပြည့်အိုး,ဆီမီးစသည်တည်ထား၍ ပူဇော်ကြကုန်၏။ ထိုရတနာမျိုးစုံ ခြယ်လှယ်ထားသောရထားသည် မြို့ကိုလက်ယာရစ်လှည့်၍ မြို့အလယ်သို့ ရောက်သော် ရတနာမဏ္ဍပ်၌ သပိတ်တော်ကိုတည်ထားပြီး ခုနစ်ရက်ပတ်လုံး သပိတ်တော်ပူဇော်ပွဲကြီး ကျင်းပပြုလုပ်ကြ၏။ တရားပွဲကြီးများ ကျင်းပကာ နာယူကြ၏။ ထိုသပိတ်ပူဇော်ပွဲသို့ အမြို့မြို့ အရွာရွာမှ လူများသာမက နတ်,ဘီလူးများ၊နဂါး,ဂဠုန်အစရှိသူတို့သည်လည်း လူအသွင်ဖြင့် လာရောက် ပူဇော်ကြ၏။

ဤသို့ ဒေဝပုတ္တမြို့၌ သပိတ်ပူဇော်ပွဲ ကျင်းပနေစဉ်အခါ ဝေဒ

ပုတ္တမြို့သူ အပျိုစင်အမျိုးသမီးကလေးတစ်ဦးသည် တရားမဏ္ဍပ်၏ အစွန်မှနေ၍ တရားနာယူနေခဲ့၏။ ထိုအမျိုးသမီးကလေး၏ရုပ်အဆင်း ရူပကာသည် အလွန်ရှုချင့်ဖွယ်ရှိ၍ တရားပွဲသို့ လူအသွင်ဆောင်၍ ရောက်လာသော နဂါးမင်းတစ်ဦးသည် ထိုအပျိုစင်အမျိုးသမီးကလေးကို မြင်လိုက်လျှင် ဣန္ဒြေမဆည်နိုင်လောက်အောင် စွဲလမ်းတပ်မက်ခဲ့လေသည်။ နောက်တစ်နေ့တွင် လူအသွင်ဆောင်ထားသောနဂါးမင်းသည် အပျိုစင်အမျိုးသမီးကလေး၏မိဘတို့ထံ သွားရောက်တောင်းရမ်းရာ မိန်းကလေး၏ မိဘတို့က ငြင်းပယ်လိုက်ကြ၏။ ထိုအခါ နဂါးမင်းသည် မိမိ၏အလို မပြည့်သည့်အတွက် ဒေါသူပုန်ဟုန်းဟုန်းထပြီး မိန်းကလေးကို သတ်မည်ဟု နှာခေါင်းမှအဆိပ်ငွေ့တို့ကို မှုတ်လွှတ်လေ၏။ ထိုအမျိုးသမီးလေး၏ တရားတော်၌ ယုံကြည်သောသဒ္ဓါတရားစွမ်းအားကြောင့် နဂါးမင်းမှုတ်ထုတ်လိုက်သော အဆိပ်ငွေ့လေတို့သည် အမျိုးသမီးကလေးကို ဘေးဖြစ်အောင် မတတ်နိုင်ခဲ့ပေ။

နဂါးမင်းသည် နဂါးအသွင်ကိုယူ၍ ထိုအမျိုးသမီးကို ဖမ်းဆီးပြီးလျှင် တစ်ကိုယ်လုံးကို အခွေတို့ဖြင့် ရစ်ပတ်၍ ဦးခေါင်းကိုပါးပျဉ်းမိုးလျက် ခြောက်လှန့်ခဲ့၏။ အမျိုးသမီးကလေးသည် တရားတော်၌သာ စိတ်၌တည်ထားပြီး နှလုံးသွင်းနေသည့်အတွက် ကြောက်ရွံ့တုန်လှုပ်သောစိတ်တစ်ဆံချွေးမျှ မဖြစ်ပေါ်ခဲ့ပေ။ နဂါးမင်းလည်း အမျိုးသမီးငယ်ကို တုန်လှုပ်ချောက်ချားအောင်မတတ်နိုင်ဘဲ ရှိနေခဲ့၏။ ပတ်ဝန်းကျင်၌ ကြည့်ရှုနေကြသူများကလည်း မည်သို့ဖြစ်လေမည်နည်းဟု ပြောဆိုနေကြသောအသံကိုကြားလျှင် အမျိုးသမီးကလေးက ဤသို့သစ္စာစကားဆို၍ အဓိဋ္ဌာန်ပြုလေသည်။

'ငါသည် လူသားစင်စစ်လည်းဖြစ်၍ မြတ်သောဗြဟ္မစာရီအကျင့်ကို ကျင့်ခဲ့ပြီ။ ဤသို့မှန်ကန်သော သစ္စာစကားကြောင့် ငါ့ကို နဂါးမင်းသည် လျင်မြန်စွာသာလျှင် လွှတ်ပါစေသတည်း။

'ငါသည် **ကာမရာဂနှိပ်စက်နေသော** နဂါး၏အလိုကို ဘယ်သို့သော နည်းနှင့်မှ **လိုက်လျောနိုင်မည်** မဟုတ်ပါ။ ဤသို့မှန်ကန်သော သစ္စာစကားကြောင့် ငါ့ကို **နဂါးမင်းသည်** လျင်မြန်စွာလျှင် လွှတ်ပါစေသတည်း။

'ငါသည် ငါ့ကို အဆိပ်ခိုးတို့ဖြင့် မှုတ်လွှတ်နေသော နဂါးမင်းကို အမျက်မထွက်ပါ။ ဤသို့မှန်ကန်သော သစ္စာစကားကြောင့် ငါ့ကို နဂါးမင်းသည် လျင်မြန်စွာလျှင် လွှတ်ပါစေသတည်း။

'ငါသည် မြတ်စွာဘုရားဟောကြားတော်မူအပ်သော သူတော်ကောင်းတရားကို ရိုသေစွာနာခဲ့လေပြီ။ ဤမှန်ကန်သော သစ္စာစကားကြောင့် ငါ့ကို နဂါးမင်းသည် လျင်မြန်စွာလျှင် လွှတ်ပါစေသတည်း။

'ငါသည် မြတ်စွာဘုရားဟောကြားအပ်သော တရားတော်တို့ကို မလေးမစားကျော်လွှားခြင်းမပြုဘဲ အစမှအဆုံးတိုင် ရိုသေစွာနာယူခဲ့ပါပြီ။ ဤသို့မှန်ကန်သော သစ္စာကြောင့် ငါ့ကို နဂါးမင်းသည် လျင်မြန်စွာလျှင် လွှတ်ပါစေသတည်း'။

ဤသို့သစ္စာပြုပြီးသည့်အဆုံး၌ နဂါးမင်းသည် ထိုအပျိုစင် မိန်းကလေးကို ကြည်ညိုလှသောကြောင့် ရစ်ပတ်ထားသောအခွေကိုဖြေ၍ ပါးပျဉ်းပေါင်းတစ်ရာဖန်ဆင်း၍ ထိုပါးပျဉ်းတို့အလယ်တွင် တိုက်ခန်းသဖွယ်နေရာ၌ မိန်းကလေးကိုနေစေပြီး နဂါးလုလင်များက ရေသွန်းလောင်းကြသည်။ မြို့သူမြို့သားများက ဤအထူးအဆန်းဖြစ်ရပ်ကို ကြည့်ရှုကြပြီး အပျိုစင်မိန်းကလေး၏သီလနှင့်သဒ္ဓါတရားကို နှစ်သက်ကြည်ညိုကြ၍ တစ်ဆယ့်ရှစ်ကုဋေသော ဥစ္စာပစ္စည်းတို့ဖြင့် ပူဇော်ကြသည်။ သဒ္ဓါတရားနှင့်ပြည့်စုံသောသူသည် အလိုဆန္ဒရှိသည့်အတိုင်း ပြည့်စုံကြရ၏။ လူနှင့်နဂါးစသည်တို့၏ ပူဇော်မှုကိုလည်း ခံယူရ၏။

ထိုအပျိုစင်မိန်းကလေးသည် မြို့သူမြို့သားများပူဇော်သော စည်းစိမ်ဥစ္စာဖြင့် အသက်ထက်ဆုံး ကောမာရိယဗြဟ္မစရိယ အကျင့်ကိုကျင့်၍ ထိုဘဝမှ အသက်ဆုံးသည်ရှိသော် ဒေဝပုတ္တမြို့မင်းကြီး၏မိဖုရားကြီးဝမ်း၌

ပဋိသန္ဓေတည်နေခဲ့၏။ ဆယ်လလွန်၍ ဖွားသည့်အခါ ဒေဝပုတ္တမြို့၌ ရတနာမိုးရွာသောကြောင့် ထိုမွေးဖွားစသတို့သမီးကို ကဥ္စနဒေဝီဟု အမည်ပေးခဲ့ကြ၏။

ထိုကဥ္စနဒေဝီမင်းသမီးငယ်လေးသည် နတ်ကဲ့သို့အဆင်းလှပ၏။ ကိုယ်မှစန္ဒကူးနံ့လှိုင်၏။ ခံတွင်းမှကြာပန်းရနံ့လှိုင်၏။ ကိုယ်မှတက်သစ်စနေ၏အရောင်ကဲ့သို့ တောက်ပနေ၏။ လေးတောင်မျှရှိသောတိုက်ခန်းသည် ကိုယ်ရောင်ဖြင့်လင်းနေ၏။ ထိုကဥ္စနဒေဝီ၏အဆင်းလှပမှုဂုဏ်သတင်းသည် ဇမ္ဗူဒိပ်ကျွန်း၌ ကျော်ကြားလှသောကြောင့် မင်းအပေါင်းတို့က လက်ဆောင်ပဏ္ဏာပို့၍ ခမည်းတော်မင်းကြီးထံ ကဥ္စနဒေဝီကို တောင်းခံခဲ့ကြ၏။ သို့ပါသော် ကဥ္စနဒေဝီမင်းသမီးသည် ကာမဂုဏ်ငါးပါးကို စက်ဆုပ်သည်ဖြစ်၍ ခမည်းတော်ထံခွင့်ပန်ပြီး ဘိက္ခုနီမကျောင်းသို့သွား၍ ရဟန်းပြုခဲ့၏။ ထိုနောက်၌ ကဥ္စနထေရီသည် ဝိပဿနာဘာဝနာကိုပွားများ၍ ပဋိသမ္ဘိဒါမဂ်နှင့်တကွ ရဟန္တာအဖြစ်သို့ ရောက်ရှိခဲ့လေသည်။

ဤ ကဥ္စနဒေဝီ၏ဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'ဤသို့အသက်အရွယ်နုနယ်ပျိုမျစ်သော အမျိုးသမီးလေးသော်မှ တရားတော်ကို ရိုသေစွာနာကြား၍ သီလစင်ကြယ်အောင် စောင့်ရှောက်သဖြင့် များစွာသော ဘဝချမ်းသာအမျိုးမျိုးနှင့် နိဗ္ဗာန်ချမ်းသာကို ရခဲ့သေး၏။ သင်သူတော်ကောင်းတို့သည်လည်း အခါခပ်သိမ်း ကုသိုလ်တရားကို အားထုတ်ရန် မမေ့လျော့သင့်ပေ'ဟု တိုက်တွန်းထားပေ၏။



# ကျေးဇူးမသိသူကိုကယ်မိသောကျားငယ်

[၁၅။ ဇုဏ္ဍဝတ္ထု]

ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ စူဠရဋ္ဌခေါ် တိုင်းငယ်တစ်ခု၏အနီးရှိ ဗာရာဏသီမြို့၌ ဥမင်လိုဏ်ပါရှိသော တောင်ကြီးတစ်တောင်ရှိခဲ့သည်။ ထိုဥမင်ကြီးအတွင်း၌ ကျားငယ်လေးတစ်ကောင်သည် မျက်မမြင်အဘကျား အိုကြီးကို ပြုစုလုပ်ကျွေးနေခဲ့၏။ ထိုဥမင်၏အဝ၌ သစ်ပင်ကြီးတစ်ပင် တည်ရှိပြီး တုဏ္ဍိလအမည်ရှိသော ကျေးသားလေးတစ်ကောင်နေထိုင် လျက်ရှိသည်။ ထိုကျေးသားနှင့် မျက်မမြင်အဘကျားကိုလုပ်ကျွေးနေသော ကျားငယ်တို့သည် မိတ်ဆွေများဖြစ်ကြသည်။

ထိုအချိန် ပစ္စန္တရစ်အရပ်၌နေသော လူတစ်ယောက်သည် မိမိ၏ မိန်းမနှင့်စကားများပြီး အိမ်မှ ဗာရာဏသီပြည်သို့ထွက်လာခဲ့ရာ တုဏ္ဍိလ ကျေးသားနေသော သစ်ပင်အောက်သို့ ရောက်ရှိခဲ့လေသည်။ ကျေးသား သည် ခရီးပန်းလာသော ထိုလူကိုမြင်လျှင် သနားသောစိတ်နှလုံးရှိသူပီပီ ထိုခရီးသွားအား 'အဆွေ၊ ဘယ်အရပ်ကိုသွားမလို့ပါလဲ'ဟုမေး၏။ ထိုလူက 'အခြားအရပ်ကို သွားမလို့ပါ'ဟုဖြေသည်ရှိသော် တုဏ္ဍိလကျေးသားက 'အဆွေသွားမယ့် အရပ်ဟာ ဘယ်ဒေသမှာရှိပါသလဲ'ဟုမေးပြီး 'အဆွေ ဒီအနားက ဥမင်အတွင်းမှာ ကျားတစ်ကောင်ရှိပါတယ်၊ အဲဒီကျားဟာ အလွန်ကြမ်းတမ်းပြီး ဒီအရပ်ကိုရောက်လာတဲ့ လူတွေကို သတ်စားလေ့ရှိပါ တယ်၊ သတိပြုနေပါ'ဟုသတိပေးလေ၏။ ထိုသူက 'သင်၏ကျားလောက်ကို ငါ ဂရုမစိုက်ပါ၊ ငါ့ခရီးကိုတော့ ငါကသွားရမှာပဲ'ဟုပြောသောအခါ ကျေး သားငယ်က 'တကယ်လို့ သင့်မှာကိစ္စအထူးရှိပြီး မသွားရင် မဖြစ်သွားရလို့

အဲဒီကျားနဲ့တွေ့ရင်လဲ သင်ဟာငါ့ရဲ့မိတ်ဆွေဖြစ်ကြောင်း အဲဒီကျားကို ပြောပြလိုက်ပါ၊ သင့်ရဲ့အသက်ကို ချမ်းသာပေးပါလိမ့်မယ်’ဟု မှာကြား လိုက်၏။

ဤသို့ တုဏ္ဍိလကျေးသားစကားဆုံးလျှင် ထိုယောကျ်ားသည် တုဏ္ဍိလကျေးသားကို ဆောက်ပုတ်ဖြင့်ရိုက်သတ်ပြီး အမွေးကိုနုတ် အသား ကို မီးဖုတ်၍စားလိုက်လေသည်။ သူတော်မဟုတ်သူယုတ်တို့နှင့် ပေါင်းဖော် ရခြင်းသည် ပစ္စုပ္ပန်သံသရာ၌ ဆင်းရဲနှင့်တွေ့ကြုံရတတ်လေ၏။ မီးကို ကျေးဇူးပြုသည်ဟု မီးနှင့်ပေါင်းဖက်ရာ မီးစွဲ၍ အပူလောင်ခံရသကဲ့သို့၊ မြွေကိုချစ်၍ ပျားနို့စသည်တိုက်ရာက မြွေကိုက်၍ အဆိပ်တက်ရသကဲ့သို့၊ ယုတ်မာသောသူကို ပေါင်းဖော်သောအခါ တခဏမျှပေါင်းဖက်ရုံ မျှဖြင့် မိမိ၏အကျိုးကို အသက်ဆုံးသည့်တိုင် ဖျက်ဆီးတတ်သောကြောင့် ထိုကျေးဇူးမသိတတ်သော သူယုတ်မာတို့ကို မပေါင်းဖက်ရန် ပညာရှိတို့ ဆိုဆုံးမခဲ့ကြသည်။

ထိုကျေးဇူးမသိတတ်သော လူယုတ်မာသည် တုဏ္ဍိလကျေးသား၏ အသားကို စားသောက်ပြီး ဥမင်ရှိရာတောင်အနီးကို ချဉ်းကပ်သွား၏။ ဥမင်အတွင်းရှိ ကျားလေးသည် ထိုလူယုတ်မာကိုမြင်လျှင် ဟိန်းသံပြု၍ ဖမ်းယူရန် ထလာလေ၏။ လူယုတ်မာသည် ကျားကိုမြင်၍ သေရမည်ကို ကြောက် လန့်ရကား တုဏ္ဍိလကျေးသားပြောခဲ့သောစကားကို သတိရပြီး ‘အို အဆွေကျား၊ ငါသည် သင့်ရဲ့မိတ်ဆွေ တုဏ္ဍိလကျေးသား စေလွှတ် လိုက်လို့ လာခြင်းဖြစ်ပါတယ်’ဟုဆိုပြီး မိတ်ဆက်စကားပြောကြားလိုက် ၏။ ထိုစကားကို ကျားငယ်ကြားလျှင် ငါ့မိတ်ဆွေစေလွှတ်သူဟူ၍ နှစ်သက်ဝမ်းမြောက်သွားပြီး ‘လူသား လာလော့’ဟု မိမိနေရာ ဥမင် အတွင်းသို့ ခေါ်ဆောင် သွားသည်။

ကျားငယ်သည် မိမိနေရာဥမင်အတွင်းသို့ ရောက်သောအခါ လူယုတ် မာကို အစားအစာများ ကျွေးမွေးပြီး၊ မိမိ၏အဘ မျက်မမြင်ကျားအိုကြီးနှင့်

အတူထားခဲ့၍ အစာရှာဖွေရန် တောထဲသို့ ထွက်သွားလေသည်။ ကျားငယ်၏ ဖခင်မျက်မမြင်ကျားအိုကြီးသည် လူယုတ်နှင့်အတူနေထိုင်ပြီး စကားပြောသောအခါ ထိုလူယုတ်မာသည် တုဏ္ဍိလကျေးသားကို သတ်ခဲ့ကြောင်း ကျားအိုကြီးသိရှိလေသည်။ ကျားအိုကြီးသည် ကျားငယ်ပြန်လာ၍ ထိုအကြောင်းကိုပြောပြလျှင် ကျားငယ်သည် နှလုံးမသာမယာဖြစ်ပြီး ကျေးသားငယ်နေရာသစ်ပင်ဆီသို့ လျင်မြန်စွာသွားကာ 'အဆွေတော် ကျေးသား'ဟု အသံပြုလေသည်။ အနီးဝန်းကျင်၌ လိုက်၍ကြည့်သော် ကျေးသား၏အမွေးအတောင်များကို တွေ့ရသောအခါ ငါ့မိတ်ဆွေသေပြီဟု အလွန်ပူဆွေးပြီး ငိုကြွေးရှာသည်။ ပြီးလျှင် မိမိနေရာဥမင်အတွင်းသို့ ပြန်လာခဲ့သည်။

ထိုသို့ ကျားငယ်သည် ကျေးသားနေရာသို့သွားနေစဉ် လူယုတ်မာသည် ကျားငယ်၏ဖခင် မျက်မမြင်ကျားအိုကြီးကို ကျောက်တုံးဖြင့်ထုပြီး အသေသတ်ထားသည်။ ကျားငယ်ကိုလည်းသတ်အံ့ဟု ကျားငယ်လာရာလမ်းကို စောင့်မျှော်နေသည်။ ကျားငယ်ပြန်ရောက်လာသောအခါ လူယုတ်မာသည် ကျားငယ်၏အရှိန်အစော်ကို ကြောက်လန့်သလိုဖြစ်ပြီး ကျားငယ်အား 'ကျွန်ုပ်၏အသက်ကိုချမ်းသာပေးပါ'ဟု ကျားငယ်၏ခြေရင်း၌ ဝပ်စင်းပြီး တောင်းပန်လေသည်။ ကျားငယ်သည် ထိုသူယုတ်မာကိုကြည့်ပြီး ဤသူသည် ငါ့မိတ်ဆွေကျေးသားက စေလိုက်သောသူဖြစ်ပေသည်ဟု သတိရပြီး 'သင်ချမ်းသာရာ သွားပါလေ'ဟု လူယုတ်မာ၏အသက်ကို ချမ်းသာပေးလိုက်၏။

သူတော်ကောင်းနှင့်ပေါင်းဖော်ရခြင်းသည် ပစ္စုပ္ပန်တမလွန်လောက၌ ချမ်းသာကိုဆောင်တတ်သည်မှာ အမှန်ဖြစ်လေည်။ လူယုတ်မာကိုရှောင်၍ သူတော်ကောင်းနှင့်သာ ပေါင်းသင်းထိုက်လေသည်။ ကျားငယ်သည် ထိုဘဝမှသေလွန်သောအခါ နတ်ပြည်၌ဖြစ်လေသည်။

ဤကျားငယ်ဝတ္ထုကို အကြောင်းပြု၍ ရှေးဆရာမြတ်တို့က ‘ကြမ်းတမ်းခက်ထန်သော လူသားစားကျားပင်ဖြစ်လင့်ကစား သနားခြင်းကရုဏာကြောင့် သုဂတိဘဝသို့ ရောက်ရသေး၏။ သင်သူတော်ကောင်းတို့သည်လည်း သတ္တဝါတို့အား သနားကရုဏာထားကြပါ။ ထိုသနားခြင်းကရုဏာသည် သင်သူတော်ကောင်းတို့အား ဘဝကင်းရာ နိဗ္ဗာန်ကိုလည်းကောင်း၊ ဘဝစည်းစိမ်ချမ်းသာကိုလည်းကောင်း ပေးတတ်သည်’ ဟူ၍ မိန့်ဆိုကြသည်။



# သူတော်ကောင်းကိုကယ်မ,လို

[၁၆။ ဖလကခဏ္ဍာဒိန္နဝတ္ထု]

ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ သာဝတ္ထိပြည်၌နေထိုင်သော အမျိုးသားတစ်ဦးသည် ဥတ္တရာပထတိုင်းသို့ခရီးထွက်ခဲ့သည်။ နွေရာသီကာလအတွင်းဖြစ်၍ မွန်းတည့်နေသည် လွန်လွန်မင်းမင်းပူပြင်းလေရာ ခရီးသွားပုဂ္ဂိုလ် သည် သစ်ပင်ရိပ်တစ်ခု၌ ခေတ္တအပန်းဖြေ နားနေရင်းပါလာသော ကွမ်းထုပ်ကိုဖြေ၍ စားနေလေသည်။

ထိုစဉ် ဥတ္တရာပထတိုင်းမှလာသော ခရီးသွားအမျိုးသားတစ်ဦးသည်လည်း ထိုသာဝတ္ထိပြည်သား ကွမ်းစား၍နားနေသောသစ်ပင်အနီးသို့ရောက်ရှိလာသည်။ ဥတ္တရာပထတိုင်းမှလာသောယောကျ်ားသည် ထိုသစ်ပင်ရင်းမှာပင် ဝင်၍ထိုင်လိုက်ပြီး ရေငတ်လှသဖြင့် လက်ဦးရောက်ရှိနေသော သာဝတ္ထိပြည်သားကို 'ရေရှိပါသလား'ဟုမေး၏။ 'မရှိ'ဟုဖြေလျှင် ဆာလည်းဆာလောင်လှ၍ 'ကွမ်းအနည်းငယ် ရောင်းပါ'ဟုဆိုပြီး လေးအသပြာဖိုးကွမ်းကိုဝယ်ယူကာ စားလေသည်။ ပြီးလျှင် ဥတ္တရာပထတိုင်းသားက ကွမ်းရွက်လေးအသပြာဖိုး ခွဲဝေ၍ရောင်းသော သာဝတ္ထိမြို့သားကို ကျေးဇူးတင်စကား အထပ်ထပ်ပြောကြားပြီး မိမိသွားလိုရာ သာဝတ္ထိအရပ်သို့ထွက်ခွာသွားလေသည်။

ထိုဥတ္တရာပထတိုင်းသားသည် မိမိသွားလိုရာ အရပ်သို့ရောက်ပြီးနောက် ပတ္တနတိုင်းသို့ လှေဖြင့် ကုန်သွယ်ရန် ထွက်ခဲ့ပြန်ရာ သမုဒ္ဒရာအလယ်သို့ အရောက်တွင် လှေပျက်သဖြင့် ပျဉ်ပြားပိုင်းကလေးတစ်ချပ်ကိုရင်ဘောင်အောက်၌ ဖက်တွယ်ထားပြီးသမုဒ္ဒရာအတွင်း ကူးခတ်နေရရှာ

လေသည်။ ထိုစဉ်မှာပင် အလွန်တိုက်ဆိုင်သောဖြစ်ရပ်တစ်ခု ဖြစ်ပေါ်လာခဲ့သည်။ ဥတ္တရာပထတိုင်းသားကို ကွမ်းရွက်လေးအသပြာဖိုးရောင်းဖူးသော သာဝတ္ထိပြည်သားသည်လည်း လှေသင်္ဘောဖြင့် ခရီးထွက်လာရာ လှေသင်္ဘောပျက်၍ သမုဒ္ဒရာအလယ်၌ အသက်ကိုလု၍ ကူးခတ်လာသည်ကို တွေ့ရသောကြောင့်ဖြစ်သည်။ ဥတ္တရာပထတိုင်းသားသည် ကွမ်းရွက် လေးအသပြာဖိုးရောင်းခဲ့သောကျေးဇူးကို အောက်မေ့ပြီး သာဝတ္ထိပြည်သားအား မိမိဖက်တွယ်ထားသော ပျဉ်ပြားပိုင်းကလေးသို့ လာရောက်ဖက်တွယ်ရန် ဖိတ်ခေါ်လိုက်၏။

သာဝတ္ထိပြည်သားသည် ပျဉ်ပြားပိုင်းကိုတွယ်ရုံမျှမက ထိုပျဉ်ပြားပိုင်းပေါ်သို့ တစ်ကိုယ်လုံးမှောက်၍အိပ်ချလိုက်ရာ မူလပျဉ်ပြားပိုင်ရှင် ဥတ္တရာပထတိုင်းသားသည် ရေထဲသို့ကျသွားရှာလေသည်။ ထိုအဖြစ်အပျက်ကို သမုဒ္ဒရာကိုစိုးမိုးနေသော မဏိမေခလာနတ်သမီးမြင်လျှင် ရေထဲသို့ကျသွားသော ဥတ္တရာပထတိုင်းသားသည် သူ့ကျေးဇူးကိုသိ၍ သူတော်ကောင်းစိတ်ရှိသူဖြစ်သည်ဟူ၍ မိမိ၏တန်ခိုးဖြင့် သမုဒ္ဒရာကမ်းအစပ်သို့ ရောက်ရှိသွားအောင် ပို့ဆောင်ပေးခဲ့၏။ ထို့ပြင် သူတစ်ပါးကျေးဇူးကို မသိတတ်သော သာဝတ္ထိပြည်သားကိုလည်း သူတွယ်ဖက်ထားသော ပျဉ်ချပ်ပိုင်းဖြင့်ပင် သမုဒ္ဒရာကမ်းစပ်သို့ တရွေ့ရွေ့မျောပါသွားပြီး ရောက်စေပြန်၏။ ထိုအခါ ပျဉ်ချပ်ကိုတွယ်၍ ကမ်းစပ်ကိုကူးလာသော သာဝတ္ထိပြည်သားသည် မိမိထက်ဦးစွာ ကမ်းစပ်သို့ရောက်နေသော ဥတ္တရာပထတိုင်းသားကို မြင်လျှင် အလွန်အံ့အားသင့်ပြီး 'အဆွေ၊ ဘယ်လိုလုပ်ပြီး ကမ်းစပ်သို့ ရောက်နေပါသလဲ'ဟုမေး၏။ ဥတ္တရာပထတိုင်းသားက 'အဆွေ၊ ငါဘာမျှမသိပါ၊ ငါသိတဲ့အချိန်မှာ ငါဟာ ဒီကမ်းစပ်ကိုရောက်နေပါပြီ'ဟု ဆိုလေသည်။

မဏိမေခလာနတ်သမီးသည် မိမိ၏ကိုယ်ကို ထင်ရှားစွာပြလျက် ထိုသူနှစ်ယောက်တို့ကို 'ဤလောက၌ အကြင်သူသည် အမိအဖတို့ကို

တရားသဖြင့် လုပ်ကျွေး၏။ ထိုသူကို နတ်ဒေဝါတို့သည် ရေမှာဖြစ်စေ ကုန်းမှာဖြစ်စေ စောင့်ရှောက်ကြကုန်၏။

'အကြင်သူသည် ဘုရား, တရား, သံဃာ, ရတနာသုံးပါးတို့ကို ကိုးကွယ်ဆည်းကပ်ပါမူ ထိုသူကိုလည်း နတ်ဒေဝါတို့သည် ရေမှာဖြစ်စေ, ကုန်းမှာဖြစ်စေ စောင့်ရှောက်ကြကုန်၏။

'အကြင်သူသည် ငါးပါးသီလ,ရှစ်ပါးသီလ,ပါတိမောက္ခသံဝရသီလ စသည်တို့စောင့်ရှောက်ပါမူ ထိုသူကိုလည်း နတ်ဒေဝါတို့သည် ရေမှာဖြစ်စေ, ကုန်းမှာဖြစ်စေ စောင့်ရှောက်ကြကုန်၏။

'ဤလောက၌ အကြင်သူသည် ကိုယ်ဖြင့် နှုတ်ဖြင့် စိတ်ဖြင့် သုစရိုက် ကောင်းမှုကို ပြုကျင့်အားထုတ်ပါမူကား ထိုသူကိုလည်း နတ်ဒေဝါတို့သည် ရေမှာဖြစ်စေ, ကုန်းမှာဖြစ်စေ စောင့်ရှောက်ကြကုန်၏။

'ဤလောက၌ အကြင်သူသည် သူတော်ကောင်းတရား၌တည်၍ သူတစ်ပါးတို့ ပြုဖူးသောကျေးဇူးကိုသိ၏။ သူ့ကျေးဇူးကို ပြန်၍ဆပ်တတ်၏။ ထိုသူ့ကျေးဇူးကိုသိသော ပြန်၍ဆပ်တတ်သောသူတို့ကိုလည်း နတ်ဒေဝါတို့သည်ရေမှာဖြစ်စေ,ကုန်းမှာဖြစ်စေ စောင့်ရှောက်ကြကုန်၏'ဟု နတ်သမီးက ပြောလေသည်။

ထိုအခါ သူတော်ကောင်းစိတ်ရှိသော ဥတ္တရာပထတိုင်းသားက နတ်သမီးကို 'ငါသည် အလှူကိုလည်း မလှူဖူး၊ သီလကိုလည်းမစောင့်ခဲ့ဖူး၊ အဘယ်ကောင်းမှုဖြင့် ငါ့ကို နတ်တို့စောင့်ရှောက်ခဲ့ပါသနည်း။ ငါ့ကို ရှင်းလင်းပြပါ'ဟု မေးလေသည်။

မဏိမေခလာနတ်သမီးက 'ကမ်းမမြင်လမ်းမမြင် အလွန်ကြောက် ဖွယ်ကောင်းပြီး ဘေးရန်များလှသော ဤမဟာသမုဒ္ဒရာအတွင်း၌ သင်သည် ပျဉ်ချပ်ကလေးကိုရင်၌ကပ်၍ ကူးနေစဉ်မှာပင် သူတော်ကောင်းစိတ်ဖြင့် မိမိအသက်ကိုမငဲ့ဘဲ ခေတ္တမျှတွေ့ဆုံ၍ မိတ်ဆွေဖြစ်ခဲ့ရပြီး ကွမ်းရွက် ကလေးရောင်းလိုက်သောကျေးဇူးကို ထောက်ထားကာ မိမိမှီတွယ်ထား

သော ပျဉ်ချပ်ကလေးကိုပေးခဲ့၏။ ထိုပျဉ်ချပ်ပေးလိုက်ခြင်းသည် အလှူဒါန တစ်ခုပင်ဖြစ်၏'ဟု ဖြေကြားလေသည်။

နတ်သမီးသည် မိမိ၏တန်ခိုးဖြင့် ထိုသူနှစ်ယောက်ကို နတ်ဝတ်တန်ဆာဆင်ယင် နတ်အာဟာရဘောဇဉ်ကိုကျွေးမွေးပြီး သာဝတ္ထိပြည်သို့ ပို့ဆောင်ပေးခဲ့သည်။ ထိုလူနှစ်ယောက်သည်လည်း ထိုအခါမှစ၍ ဒါနမှု သီလမှုကိုပြု၍ အသက်ထက်ဆုံး သူတော်ကောင်းတရားကို ကျင့်သုံးနေကြရာ သေလွန်သောအခါ နတ်ပြည်၌ ဖြစ်ကြရလေသည်။

ဤပျဉ်ချပ်ပိုင်းကလေးလှူသူ၏ဝတ္ထုကိုအကြောင်းပြု၍ ရှေးပညာရှိတို့က 'ဤသို့ မပြောပလောက်သော ကုသိုလ်ကြောင့် မဟာသမုဒ္ဒရာကြီး၏အလယ်မှာ နတ်တို့၏အစောင့်အရှောက်ကို ခံရသေး၏။ သင်သူတော်ကောင်းတို့သည်လည်း မိမိတို့၏သူတော်ကောင်းဟူသောအဖြစ်ကို မပျက်စီးစေဘဲ အစဉ်အမြဲကုသိုလ်ကောင်းမှုကို မမေ့မလျော့ အားထုတ်သင့်ကြပေသည်'ဟု တိုက်တွန်းခဲ့၏။



# အကူအညီများ၍ဒုက္ခရောက်ခဲ့သူ

[၁၇။ တေရသဟာယဝတ္ထု]

ဂေါတမမြတ်စွာဘုရားသခင် ပရိနိဗ္ဗာန်ပြုပြီးနောက် ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ ဒေဝဒဟမြို့၌ နေထိုင်သော ဆင်းရဲသားတစ်ယောက်သည် အမြို့မြို့အရွာရွာ လှည့်လည်သွားလာရင်း မြို့စွန်ရွာဖျားပစ္စန္တရစ်ရွာလေး တစ်ရွာသို့ ရောက်ရှိသွားပြီး အမျိုးနီးစပ်တော်သူတစ်ဦး၏အိမ်၌ ကပ်ရပ်ကာ နေထိုင်ခဲ့လေသည်။ ထိုဆင်းရဲသားညှော်သည်ယောက်ျားကို ရွာခံပုဂ္ဂိုလ် တို့က သနားကြသဖြင့် စားစရာထမင်းမုန့်စသည် ကျွေးမွေးပေးကမ်း စောင့်ရှောက်ထားခဲ့ကြ၏။

ထိုဆင်းရဲသားသည် ရွာသားများစောင့်ရှောက်ထားသော်လည်း ကောင်းစွာမနေဘဲ ရွာတွင်းရှိမသမာသူအချို့နှင့်ပူးပေါင်းကာ အခြားရွာသို့ သွားပြီး ခိုးဝှက်လုယက်ခဲ့လေသည်။ တစ်နေ့သောအခါ ထိုသူဆင်းရဲသည် အခြားတစ်ရွာ၌ လုယက်ခိုးဝှက်နေစဉ် မင်းမှုထမ်းများက ဖမ်းဆီးမိကြ ပြီး ချုပ်နှောင်ကာ ဒေဝဒဟမင်းကြီးထံသို့ ပို့ဆောင်လိုက်ကြသည်။ မင်းကြီးက'သူခိုးများကို ထောင်တွင်းသွင်း၍ ချုပ်နှောင်ထားလိုက်' ဟု အမိန့်ပေးသည့်အတွက် ထိုသူခိုးသည် သံခြေချင်းစွဲလျက် ဒေဝဒဟမြို့ ထောင်အတွင်း၌ ဆယ့်နှစ်နှစ်ကာလကြာမြင့်အောင်နေခဲ့ရသည်။

ထိုဆင်းရဲသားသူခိုးနှင့် လွန်ခဲ့သောနှစ်များစွာက မိတ်ဆွေဖြစ်ခဲ့ ဖူးသူ ပစ္စန္တရစ်ရွာသားတစ်ဦးသည် မိမိကိစ္စဖြင့် လှည့်လည်သွားလာရင်း ဒေဝဒဟမြို့ထောင်၏အနီးသို့ ရောက်ရှိသွားလေသည်။ ထောင်အတွင်း၌ မိမိနှင့်မိတ်ဆွေဖြစ်ဖူးသော ဆင်းရဲသားသူခိုးကို သံခြေချင်းစွဲလျက် တွေ့

မြင်ရသော် သူတော်ကောင်းစိတ်နှလုံးရှိသူပီပီ နှလုံးမသာမယာဖြစ်ကာ 'မိတ်ဆွေ၊ ငါဘာအကူအညီပေးရမလဲ'ဟု ယုယကြင်နာစွာ မေးလေသည်။ ဆင်းရဲသားသူခိုးက ငိုကြွေးမြည်တမ်းပြီး 'မိတ်ဆွေ၊ ငါဒီမှာ အဖမ်းခံခဲ့ရတာ ဆယ့်နှစ်နှစ်ရှိပါပြီ၊ အဲဒီဆယ့်နှစ်နှစ်ကာလအတွင်း ဆင်းရဲဒုက္ခကြီးစွာရောက်ခဲ့ရပါတယ်၊ အစာအာဟာရလဲ ပြည့်ပြည့်စုံစုံမစားရပါ၊ ဒါ့ကြောင့် အစားအစာပြည့်ပြည့်ဝဝစားရအောင် ဒီထောင်အတွင်းမှ ခဏလောက် ထွက်ခွင့်ရရင် ကောင်းပါလိမ့်မယ်'ဟု ပြောလေသည်။

ထိုအခါ သူတော်ကောင်းစိတ်နှလုံးရှိသော ပစ္စန္တရစ်ရှာသားက 'မပူပါနဲ့မိတ်ဆွေ၊ သင်ဆန္ဒရှိတဲ့အတိုင်း ဖြစ်ရပါစေ့မယ်'ဟု နှစ်သိမ့်စကားပြောဆိုပြီး ထောင်စောင့်များထံသွား၍ 'အရှင်တို့၊ ဒီထောင်ကျနေသူကို အစားရေစာ ဝလင်စွာစားသောက်ဖို့ ဒီအချုပ်မှ ခေတ္တထွက်ခွင့်ပြုနိုင်မလား' ဟု မေးမြန်းစုံစမ်းရာ 'သင့်ရဲ့မိတ်ဆွေကို လွတ်လွတ်ကျွတ်ကျွတ်လွတ်ဖို့တော့ ငါတို့မတတ်နိုင်ပါ၊ တကယ်လို့ သူ့ကိုယ်စား သင်က အာမခံအနေနဲ့ အဖမ်းခံထားမယ်ဆိုရင်တော့ သူ့ကိုခေတ္တလွှတ်ပေးနိုင်ပါတယ်'ဟု ပြောကြ၏။

ထိုအခါ စိတ်နှလုံးကောင်းရှိသူပစ္စန္တရစ်ရှာသားက 'ကောင်းပါပြီ၊ သင်တို့ဆိုတဲ့အတိုင်း ကျွန်ုပ်ကို အာမခံအနေနဲ့ချုပ်ထားပါ၊ ကျွန်ုပ်ရဲ့မိတ်ဆွေကိုတော့ အစာရေစာဝလင်အောင်စားသောက်ဖို့ ဒီအချုပ်အတွင်းက ခေတ္တလွှတ်ပေးလိုက်ပါ'ဟုဆိုကာ ဆင်းရဲသားသူခိုး၌ ဖွဲ့ထားသော ခြေချင်းခြေထိပ်များကိုဖြုတ်စေပြီး မိမိ၏ခြေမှာချုပ်နှောင်စေခဲ့၏။ ပြီးလျှင် ထောင်အတွင်းဝင်၍ ဆင်းရဲသားသူခိုးအစား အချုပ်ခံခဲ့သည်။ ဆင်းရဲသားသူခိုးသည် အစာရေစာစားသောက်ရန် ဤထောင်အတွင်းမှ ခေတ္တထွက်ပါရစေဟု ကတိစကားပြောခဲ့သော်လည်း ထောင်မှလွတ်လိုက်သောနေ့မှစ၍ ထွက်သွားလိုက်သည်မှာ တစ်ဆယ့်နှစ်နှစ်ကြာမြင့်သည့်တိုင်အောင် ပြန်၍မလာတော့ပေ။

သို့ပါ၍ ရေးပညာရှိသူမြတ်တို့က ရေပြည့်နေသောထုံးအိုင်၏ အောက်ခြေ၌ တည်ရှိနေသောမြေအပြင်ကို မသိမမြင်နိုင်သကဲ့သို့ သူယုတ်မာ၏စိတ်၌ဖြစ်သော ကောက်ကျစ်သောသဘောကို မှန်းဆ၍ သိမြင်နိုင်မည်မဟုတ်ဟုလည်းကောင်း၊ သူယုတ်မာတို့သည် နှုတ်ကပြောတော့တစ်မျိုး စိတ်ကကြံတော့တစ်ဖုံ လုပ်နေသည်ကားတစ်ထွေ ဤကား မသူတော်သူယုတ်တို့၏ ကျင့်ကြံအားထုတ်ပုံဖြစ်ပေသတည်းဟုလည်းကောင်း မှာကြားခဲ့ခြင်းဖြစ်လေသည်။

ပစ္စန္တရစ်ရွာသား သူတော်ကောင်းအမျိုးသားသည် ကတိမတည်သော ဆင်းရဲသားသူခိုးကို ကူညီမိသည့်အတွက် ထောင်အတွင်းမှာ အစားဆင်းရဲအနေဆင်းရဲဖြင့် တစ်ဆယ့်နှစ်နှစ်နေခဲ့ရ၏။ တစ်နေ့သောအခါ ဒေဝဒဟမင်း၌ သားတော်တစ်ပါးဖွားမြင်လေရာ မင်းကြီးသည် မိမိ၏ သားတော်ဖွားမြင်သည့် မင်္ဂလာအထိမ်းအမှတ်အဖြစ် တိုင်းနိုင်ငံအတွင်းရှိ ထောင်သားအားလုံးကို လွတ်ငြိမ်းချမ်းသာခွင့်ပေးကာ ထောင်အတွင်းမှ လွှတ်စေ၏။ ထောင်သားအားလုံး ဝမ်းမြောက်ဝမ်းသာ လှောင်အိမ်မှလွတ်သောငှက်များပမာ မိမိတို့သွားလိုရာကို အလျင်အမြန်ထွက်ခွာသွားကြသော်လည်း ပစ္စန္တရစ်ရွာသား သူတော်ကောင်းအမျိုးသားမှာမူ ထောင်အပြင်သို့ မထွက်ဘဲ ထောင်အတွင်းမှာပင် နေထိုင်လျက်ရှိသည်ကို အစောင့်များက တွေ့မြင်ကြသောအခါ 'ဟေ့လူ၊ ထောင်ထဲဘာလုပ်နေတာလဲ၊ သွားလိုရာသွားတော့လေ'ဟုပြောပြီး မောင်းထုတ်ကြသည်။ ထိုအခါ 'အရှင်တို့၊ ဒီလိုနေ့အခါကြီး လူမြင်သူမြင်အချိန်မှာ ဆင်းရဲနွမ်းပါးသောအမူအရာအဝတ်အစားနဲ့ မြို့တွင်းရွာတွင်းကို ကျွန်တော်မျိုးမသွားပါရစေနဲ့၊ ညဘက်မှောင်ခါမှ လူသူလေးပါးမမြင်အောင် ထွက်သွားပါရစေ'ဟု အသနားခံစကားပြောဆိုပြီး ထောင်အတွင်း၌ နေမြဲနေခဲ့လေသည်။

ထိုသူတော်ကောင်းအမျိုးသားသည် ညအမှောင်ကြီးစိုး၍ လူသူမမြင်နိုင်သောအချိန်သို့ရောက်လျှင် ထောင်မှထွက်ခဲ့၏။ ဒေဝဒဟမြို့တွင်း၌

အသိမိတ်ဆွေမရှိသည့်အတွက် အစာအာဟာရတောင်းခံစားသောက်ဖို့ အခက်တွေ့ရှာလေသည်။ သို့ဖြစ်၍ သုသာန်ရှိရာသို့သွားပြီးရှာဖွေရလျှင် အစားအစာအနည်းငယ် ရနိုင်လိမ့်မည်ဟု ကြံစည်မိပြီး မြို့ပြင်သုသာန်သို့ ရှေးရှုထွက်ခဲ့၏။ သုသာန်သို့ရောက်သော် စားစရာရှာမရ၍ လတ်တလော ချဆောင်ထားသောလူသေအလောင်းတစ်လောင်းကိုမြင်လျှင် ဖြစ်ချင်ရာ ဖြစ်စေတော့ ဤလူသေ၏အသားကိုပင် စားတော့မည်ဟု ကြံစည်ပြီး လူရိုးဖြင့် အသားကိုဖြတ်၊ ဦးခေါင်းခွံအလွတ်တစ်လုံးကိုရှာပြီး အသားကိုထည့်၊ အရိုးခေါင်းသုံးခုကို ဖိုခုံလောက်ပြုပြီး မီးမွှေး ရေထည့်စွက်ကာ လူသား ကို ချက်လေသည်။ ကျက်လောက်သောအခါ လူရိုးယောက်မဖြင့် မွှေလေ သည်။

ထိုသို့ လူသားချက်နေစဉ် မိမိဝတ်ရုံထားသောဖာထေးရာပြည့် အဝတ်ကိုချွတ်၍ လေလုံအောင်အကာအရံပြုပြီး မိမိ၏အရှက်အကြောက် ကိုမူ သစ်ရွက်ကြီးငယ်ကို ချုးဆွတ်ပြီး ကာကွယ်ထားလေသည်။ ထိုသူ၏အပြုအမူများကို အနီးရှိညောင်ကြတ်ပင်စောင့်နတ် မြင်ရလျှင် ထူးဆန်းလှသည်ဖြစ်၍ သိလိုစိတ်ပြင်းပြလာရကား ထိုယောက်ျားရှေ့၌ ကိုယ်ထင်ပြပြီး 'အမောင်၊ သင်သည် မြေခွေး၊ ဘီလူး၊ ရက္ခိုသ်တို့နေရာ ဤသုသာန်အတွင်း မကြောက်မရွံ့တစ်ဦးတည်း မီးပုံကလေး တစ်ပုံနှင့် ဘာတွေချက်ပြုတ်နေပါသလဲ'ဟုမေးလေသည်။ ထိုအခါ သူတော်ကောင်း အမျိုးသားက 'ညောင်ကြတ်ပင်စောင့်နတ်၊ ကြောက်မက်ဖွယ်ကောင်းသော ဤသုသာန်အလယ်၌ လူသားကိုယဇ်ပူဇော်ရန် ချက်ပြုတ်နေခြင်းမဟုတ် ပါ။ ဆာလောင်ခြင်းဆင်းရဲနှင့်တူသော ဆင်းရဲခြင်းမည်သည်မရှိနိုင်ပါ။ ယခု ထိုဆာလောင်ခြင်းဆင်းရဲမှ လွတ်ငြိမ်းချမ်းသာစေရန် တစ်နည်း အကျွန်ုပ်ဆာလောင်လွန်း၍ စားစရာရှာမရသောကြောင့် ဤလူသားဟင်း ကိုပင် စားဖွယ်အဖြစ်ချက်နေရပါသည်'ဟုဖြေဆိုလေသည်။

ညောင်ကြတ်ပင်စောင့်နတ်က ထပ်၍ 'အဘယ်ကြောင့် အဝတ်

နံငယ်တို့ကို ချွတ်၍ ကာရံထားပါသလဲ'ဟုမေးပြန်ရာ သူတော်ကောင်း အမျိုးသားက 'ညောင်ကြွတ်ပင်စောင့်နတ်မင်း၊ လေတို့မည်သည် အသိစိတ်မရှိပါ၊ လူကောင်း၏ကိုယ်ကိုလည်း ဖြတ်၍ တိုက်ချင်တိုက်ခတ်ပါလိမ့်မည်၊ ကျေးဇူးတရားမသိတတ်သောလူယုတ်မာ၏ ကိုယ်ကိုလည်း ဖြတ်၍ တိုက်ခိုက်ချင်တိုက်ခတ်လာပါလိမ့်မည်၊ အကယ်၍ ကျေးဇူးတရားမသိတတ်သော လူယုတ်မာ၏ကိုယ်ကိုဖြတ်၍တိုက်လာသော ထိုလေသည် ငါ၏ကိုယ်နှင့်ထိတွေ့ပါမူ ငါ့ကိုယ်ကိုစူးဝင်ပြီး ဆင်းရဲဒုက္ခကို ပေးကြပါလိမ့်မည်၊ သို့ပါ၍ ကျေးဇူးတရားမသိတတ်သော လူယုတ်မာတို့၏ ကိုယ်ကိုဖြတ်ပြီး တိုက်ခတ်လာမည့်လေကို လတ်လတ်လောလောသေစေတတ်သော အဆိပ်ငွေ့ကဲ့သို့ ကြောက်လန့်မိပါသဖြင့် ယခုလိုရှိသမျှအဝတ်ကလေးများဖြင့် ကာရံထားခြင်းဖြစ်ပါသည်'ဟု ပြန်ပြောလေသည်။

ညောင်ကြွတ်ပင်စောင့်နတ်က ထူးခြားသောအဖြေကိုကြားရလျှင် 'ယောကျ်ားမြတ်၊ ကျေးဇူးကိုမသိသူ လူယုတ်မာသည် သင့်အား ဘယ်သို့ပြုခဲ့ပါသလဲ။ သင်၏ဥစ္စာစီးပွားတို့ကို ဖျက်ဆီးခဲ့ပါသလား၊ သင်၏မိဘဆွေမျိုး လယ်ယာချောင်းမြောင်းကို ဖျက်ဆီးခဲ့ပါသလား၊ ငါ့ကိုပြောပြပါ'ဟု မေးမြန်းလေသည်။ ထိုအခါ သူတော်ကောင်းအမျိုးသားက အောက်ပါအတိုင်းပြောလေသည်။

'ညောင်ကြွတ်ပင်စောင့်နတ်၊ သူ့ပစ္စည်းခိုးခြင်းကြောင့် သူ့အသက်ကိုသတ်ခြင်းကြောင့် မင်းဘေးမင်းဒဏ်များ သင့်တတ်ပါသည်။ ထိုသို့သောဘေးမျိုးသည် သူ့ကျေးဇူးကိုမသိသူ၊ သူတော်မဟုတ် သူယုတ်မာတို့ကြောင့်သာလျှင် ဖြစ်ပေါ်တတ်ပါသည်။ သို့ပါ၍ ထိုသူယုတ်မာတို့နှင့်ဝေးသောအရပ်မှာ နေသင့်ပါသည်။

'ညောင်ကြွတ်ပင်စောင့်နတ်၊ လောကမှာ သူခိုးဘေး,ရေဘေး,မီးဘေး, ခိုက်ရန်ငြင်းခုံဖြစ်ပွားမှုဘေးဟူ၍ရှိကြပါ၏။ ထိုဘေးတို့သည်လည်း သူ့ကျေးဇူးကိုမသိတတ်သော လူယုတ်မာတို့ကြောင့်သာလျှင်

ဖြစ်ပေါ်လာပါ၏။ သို့ပါ၍ ထိုသူယုတ်မာတို့နှင့် ဝေးသောအရပ်မှာ နေသင့်ပါသည်။

'ညောင်ကြတ်ပင်စောင့်နတ်၊ သူ့အသက်သတ်ခြင်း၊ သူ့ဥစ္စာခိုးယူခြင်း၊ သူတစ်ပါးသားမယားကိုပြစ်မှားခြင်း၊ မုသားစကားပြောဆိုခြင်း၊ သေရည်သောက်စားခြင်း၊ ခိုက်ရန်ငြင်းခုံခြင်း၊ ကုန်းချောစကားပြောဆိုခြင်း၊ အကျိုးမရှိသော စကားများပြောဆိုခြင်းတို့သည်လည်း လူမိုက်တို့နှင့် ပေါင်းဖော်ခြင်းကြောင့် ဖြစ်ပေါ်လာရသော ဒုစရိုက်မှုများပင်ဖြစ်သည်။ သို့ပါ၍ ဤလောက၌ အလိုမရှိအပ်သော အပါယ်ဆင်းရဲဘေးနှင့် အဆုံးအပိုင်းအခြားမရှိသော ဆင်းရဲဒုက္ခဘေးအမျိုးမျိုးတို့သည်လည်း ထိုကျေးဇူးတရားကို မသိတတ်သော သူတော်မဟုတ် သူယုတ်မာတို့ကြောင့်သာ ဖြစ်ရလေရာ ထိုသူယုတ်မာတို့နှင့် ဝေးသောအရပ်မှာ နေသင့်ပါသည်'။

ဤသို့ သူတော်မဟုတ် သူယုတ်တို့ကြောင့် ဘေးဒုက္ခတွေ့ပုံကို နိဒါန်းချီပြီး ကျေးဇူးမသိသော သူလူယုတ်မာတစ်ဦးကြောင့် မိမိဒုက္ခရောက်ရပုံ အကြောင်းစုံကို ဖွင့်ဟပြောဆိုလေသည်။

ထိုအခါ ညောင်ကြတ်ပင်စောင့်နတ်က 'အသင်လူသား၊ ငါသည် မြတ်စွာဘုရားရှင် မင်္ဂလသုတ်တော်ဟောတော်မူသည့်နေ့က ဤညောင်ကြတ်ပင်မှနေ၍ 'အသေဝနာစ ဗာလာနံ၊ ပဏ္ဍိတာနဉ္စ သေဝနာ– လူမိုက်ကိုရှောင်၊ ပညာရှိကိုပေါင်း'ဟူသော စကားကို ကြားနာဖူးပါပြီ' ဟုဆိုကာ ထိုသူတော်ကောင်း ပစ္စန္တရစ်ရှာသားကို နတ်တို့တန်ခိုးဖြင့် စင်ကြယ်သန့်ရှင်းစေပြီး နတ်၌ဖြစ်သော အဝတ်တန်ဆာကို ဝတ်ဆင်ပေးကာ ပူဇော်သမှုပြုလေသည်။ ပြီးလျှင် မိမိ၏တန်ခိုးအာနုဘော်ဖြင့်ပင် ဒေဝဒဟမြို့၏ မင်းအဖြစ်ကိုလည်း ရစေခဲ့၏။ ထိုသူတော်ကောင်းသည် ဒါနအစရှိသော ကောင်းမှုကံကိုပြုလျက် ဒေဝဒဟမင်းအဖြစ် သက်ဆုံးတိုင် နေထိုင်သွားလေတော့သည်။

ဤသူခိုးနှင့်မိတ်ဆွေဖြစ်ရ၍ ဒုက္ခရောက်ရပုံဝတ္ထုကို အကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'သူတော်မဟုတ် သူယုတ်မာကို ရှောင်ခွာ၍ ကောင်းမြတ်သော သူတော်ကောင်းတို့နှင့် ပေါင်းဖော်ပြီး ဒါနအစရှိသော ကုသိုလ်ကောင်းမှုတို့ကို ပြုလျက် လူနတ်ချမ်းသာ စည်းစိမ်အမျိုးမျိုးနှင့် နိဗ္ဗာန်ချမ်းသာကို ရယူနိုင်ကြပါစေ'ဟု တိုက်တွန်းခဲ့ကြ၏။



# ကျေးဇူးသိတတ်သောခွေးငယ်

[၁၈။ မရုတ္တပြောဟ္မဏဝတ္ထု]

ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ စန္ဒဘာဂါမြစ်ကမ်းတစ်နေရာ၌ ဟောမဂါမမည်သော ရွာကလေးတစ်ရွာ တည်ရှိသည်။ ထိုရွာ၌ မရုတ္တအမည်ရှိသော ပုဏ္ဏားကြီးတစ်ဦး နေထိုင်လျက်ရှိလေသည်။

တစ်နေ့သော် ထိုမရုတ္တပုဏ္ဏားကြီးသည် တက္ကသိုလ်ပြည်သို့ ကုန်ရောင်းကုန်ဝယ်ပြုလုပ်ရန် ခရီးထွက်ခဲ့ပြီး မိမိနေရပ်သို့အပြန် လမ်းခရီးအကြား ဇရပ်တစ်ခု၌ ဝဲနာကိုက်သဖြင့် အော်မြည်နေရှာသောခွေးကလေးတစ်ကောင်ကို တွေ့မြင်ခဲ့လေသည်။ မရုတ္တပုဏ္ဏားကြီးသည် သနားကြင်နာသော စိတ်ရှိသူဖြစ်၍ ဆင်သမန္တယ်ကို ရက်တက်ချဉ်ဖြင့်စိမ်၍ ထိုဝေဒနာသည်ခွေကလေးကို တိုက်ကျွေးသည်။ ပုဏ္ဏား၏ပြုစုတိုက်ကျွေးမှုကြောင့် ခွေးကလေးသည် ထိုရောဂါဝေဒနာမှပျောက်ကင်းသက်သာကာပကတိအကောင်းအတိုင်းဖြစ်သွားလေ၏။ မရုတ္တပုဏ္ဏားကြီးသည် ရွာသို့ပြန်သောအခါ ထိုခွေးကလေးသည်လည်း မိမိ၏ကျေးဇူးရှင်ပုဏ္ဏားကြီး၏နောက်မှ တကောက်ကောက်လိုက်ပါခဲ့ပြီး ပုဏ္ဏားကြီးနှင့်အတူ ဟောမဂါမရွာမှာပင် နေထိုင်ခဲ့လေသည်။

မရုတ္တပုဏ္ဏားကြီး ရွာသို့ပြန်ရောက်ပြီး မကြာမြင့်မီမှာပင် သူ၏ပုဏ္ဏေးမ၌ပဋိသန္ဓေတည်လေ၏။ ကိုယ်ဝန်ရင့်မာလာ၍ သားဖွားသောအခါကလေးငယ်သည် မိခင်၏ဝမ်းတွင်း၌ ကန့်လန့်ခံနေ၍ ဖွားမြင်ရန် အခက်အခဲများစွာနှင့်တွေ့ရပြီး ထိုကလေးငယ်သည် မိခင်၏ဝမ်းတွင်းမှာပင်အသက်သေဆုံးခဲ့ရရှာလေသည်။ မိခင်၏ဝမ်းတွင်းမှ အသက်ကင်းမဲ့စွာ

ထွက်လာသော ထိုကလေးအလောင်းကိုမြင်လျှင် မရုတ္တပုဏ္ဏားကြီးသည် သတိသံဝေဂပြင်းစွာ ရလေသည်။ ပြီးလျှင် အိမ်ရာတည်ထောင် လူ့ဘောင်ကို ငြီးငွေ့၍ ရသေ့ရဟန်းပြု တောရဆောက်တည် နေထိုင်ခဲ့လေသည်။ ပုဏ္ဏေးမသည် လင်ယောကျ်ားပုဏ္ဏားကြီး ရသေ့ရဟန်းဝတ်၍ တောထွက်သွားသောအခါ နောက်ပုဏ္ဏားတစ်ဦးနှင့် လက်ဆက်ပြီး အိမ်ထောင်သစ် ထူထောင်ပြန်သည်။

တစ်နေ့သော် ပုဏ္ဏေးမသည် 'ငါ၏ပထမယောကျ်ားပုဏ္ဏားကြီးသည် ငါ့ကို သားသေကလေးမွေးသူဟု အပြစ်ဖွဲ့ပြီး ငါ့ကိုပစ်ခဲ့ခြင်း ဖြစ်သည်။ ယခု ငါ့ကိုပစ်ခဲ့သော ထိုပုဏ္ဏားကြီးကို လက်စားချေအံ့'ဟူ၍ နောက်လင်ပုဏ္ဏားငယ်အား 'ငါ့ကိုစော်ကားသော ထိုပုဏ္ဏားကြီးကို သတ်ပေးပါ'ဟုပြောဆိုလေသည်။ ထိုသို့ ပုဏ္ဏေးမနှင့်လင်ဖြစ်သူ ပုဏ္ဏားလေးတို့တိုင်ပင် ပြောဆိုကြသောစကားတို့ကို မရုတ္တပုဏ္ဏားကြီး အသက်ကယ်လာသော ခွေးကလေးက ကြားသိလေ၏။ ခွေးကလေးသည် ထိုနေ့မှစ၍ မိမိ၏ကျေးဇူးရှင်ပုဏ္ဏားကြီးအသက်ကို ရန်ရှာမည့်ပုဏ္ဏားငယ်ကို မျက်ခြည်ပြတ်မခံတော့ဘဲ သူ၏နောက်မှ တကောက်ကောက်လိုက်၍ နေခဲ့၏။ တစ်နေ့သော် ပုဏ္ဏားငယ်သည် ပုဏ္ဏေးမဆိုသည့်အတိုင်း မရုတ္တပုဏ္ဏားကြီးကိုသတ်အံ့ဟု တောရကျောင်းသခ်မ်းသို့ လက်နက်တို့ကိုယူ၍ သွားလေရာ ခွေးကလေးသည်လည်း ထိုပုဏ္ဏားငယ်၏နောက်မှ ထက်ကြပ်မကွာ လိုက်ပါသွားလေသည်။

ထိုအချိန်၌ ရသေ့ပုဏ္ဏားကြီးသည် တောသို့ဝင် သစ်သီးရှာနေစဉ်ဖြစ်၏။ ပုဏ္ဏားငယ်သည် ကျောင်းသခ်မ်းတွင် ရသေ့ကြီးမရှိသည်ကို သိလေရာ ရသေ့ကြီးပြန်လာမည့်လမ်းမှကြို၍ ပုန်းခိုစောင့်ဆိုင်းနေခဲ့၏။ ထိုစဉ်အတွင်း ခွေးငယ်သည် ထိုပုဏ္ဏားငယ်ကိုင်လာသောလေးမှ ညှို့ကြိုးတို့ကို မသိမသာ ကိုက်ဖြတ်လိုက်၏။ ပုဏ္ဏားငယ်သည် မိမိ၏လေး၌ ညှို့ပြတ်နေမှန်းသိသော် အသစ်ပြုပြင်ထားလိုက်၏။ နောက်တစ်ကြိမ်

ခွေးငယ်က ကိုက်ဖြတ်ပြန်၏။ ထိုအချိန်၌ ယုတ်မာသော ပုဏ္ဏားငယ်သည် ရသေ့ကြီး တောမှပြန်လာသည်ကိုမြင်လျှင် သတ်အံ့ဟု လေးနှင့်ချိန်ရွယ်ရာ ခွေးငယ်သည် ပုဏ္ဏားငယ်၏ခြေကိုကိုက်ခဲ၏။ ပေါင်ကိုလက်ကို ခုန်၍ခုန်၍ ကိုက်တော့သည်။ပုဏ္ဏားငယ်မြေသို့လဲကျလျှင် ပုဏ္ဏား ငယ်၏ကိုယ်ပေါ်သို့ တက်၍ မျက်နှာကိုအုပ်မိုးပြီး မာန်ဖီကာ ကိုက်ခဲရန် ဟန်ပြင်လေသည်။ ဤသို့ဖြင့် ခွေးငယ်သည် မိမိ၏ကျေးဇူးရှင် မရတ္တပုဏ္ဏားကြီး၏အသက် ကို ကယ်တင်ခဲ့လေသည်။

ရသေ့ကြီးသည် ခွေးဟောင်သံကိုကြား၍ လာကြည့်ရာ မိမိ မွေးမြူစောင့်ရှောက်ထားသောခွေးငယ်နှင့် ဒဏ်ရာကြောင့်လဲနေသော ပုဏ္ဏားငယ်ကိုတွေ့ရ၏။ ပုဏ္ဏားငယ်၏ဒဏ်ရာတို့ကို ဆေးထည့်ကုသ ပေးပြီး ပြုစုစောင့်ရှောက်ခဲ့၏။ ပုဏ္ဏားငယ်က ငါသည် သူတော်ကောင်းကို ပြစ်မှားမိပြီဟု သတိသံဝေဂရကာ ထိုတောကျောင်းမှာပင် ရသေ့ကြီးနှင့် အတူ ရသေ့ပြုလုပ်နေထိုင်၍ တရားအားထုတ်ရာ ဈာန်အဘိညာဉ်ကိုရ၍ သေလွန်သော် ဗြဟ္မာ့ပြည်၌ ဖြစ်လေသည်။

ဤမရတ္တပုဏ္ဏားဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'ခွေးသည် မိမိကိုပြုခဲ့သောကျေးဇူးကိုသိ၏။ ပုဏ္ဏားကြီးသည်လည်း ရန်သူ ကိုပင် မေတ္တာတရားကရုဏာတရား မွေးမြူနိုင်၏။ သူတော်ကောင်း ဖြစ်သော သင်တို့သည်လည်း သနားခြင်းကရုဏာကိုလည်းကောင်း၊ သူ့ ကျေးဇူးသိတတ်မှုကိုလည်းကောင်း ရှိကြရာ၏။ ထိုသို့သနားကရုဏာ ရှိခြင်း၊ မေတ္တာစိတ်ဖြစ်ခြင်း၊ သူ့ကျေးဇူးကို သိတတ်ခြင်းတို့ကြောင့် ဘဝသံသရာအဆက်ဆက်တို့၌ လူနတ်ချမ်းသာ ဘဝစည်းစိမ်တို့ဖြစ်ကြ ရာ၏'ဟု တိုက်တွန်းခဲ့၏။



## ရေတစ်ပေါက်ကျေးဇူးကိုကျွန်ခံပြီးဆပ်သူ

[၁၉။ ပါနီယဒိန္နဝတ္ထု]

ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံအတွင်း၌ အမည်မသိတော့ပြီဖြစ်သော ရွာတစ်ရွာတွင်နေသောကုန်သည်လူရွယ်တစ်ဦးသည် တစ်မြို့တစ်ရွာမှ တစ်မြို့တစ်ရွာသို့ ကုန်ကူးသန်းရောင်းဝယ်သွားလာခြင်းဖြင့် အသက်မွေးပြီး နေထိုင်ခဲ့၏။ ထိုကုန်သည်လူရွယ်သည် တစ်နေ့သော် စန္ဒဘာဂမြစ်ဆိပ်သို့ ရောက်ရှိခဲ့ပြီး၊ စန္ဒဘာဂမြစ်ဆိပ်မှ ကမ်းတစ်ဖက်သို့ကူးရန် ထွက်ခွာတော့မည့်ဆဲဆဲ လှေတစ်စင်းပေါ်သို့ တက်လိုက်ရာ လှေပေါ်၌ လူများစွာ ရောက်ရှိနေသည်ကို တွေ့ရ၏။

ထိုလူစုထဲတွင် ပဋိသန္ဓေအရင့်အမာနှင့် အမျိုးသမီးတစ်ဦးလည်း ပါဝင်နေသည်။ လှေသည် ကမ်းမှခွာခဲ့၍ မြစ်အလယ်သို့အရောက်တွင် ထိုကိုယ်ဝန်ဆောင်မိန်းမ၏ကမ္မဇလေလှုပ်ကာ မွေးဖွားတော့မည့် လက္ခဏာ အရိပ်အယောင် ဖြစ်ပေါ်လာသည်။ ထိုမိန်းမသည် လှေပေါ်တွင် ပါလာကြသောခရီးသယ်များကို 'ရေကလေး တစ်ပေါက်လောက် ပေးကြပါ'ဟု သနားစဖွယ်တောင်းခံနေလေ၏။ ခရီးသည် များလည်း ထိုကိုယ်ဝန်ဆောင် မိန်းမ ရေတောင်းသည်ကို မကြားဟန်ပြုကာ ဥပေက္ခာရှု၍ ရေမပေးဘဲ နေခဲ့ကြသည်။

ထိုအခါ လှေပေါ်၌ပါလာသော ကုန်သည်လူရွယ်သည် ကိုယ်ဝန် ဆောင်မိန်းမ၏ဒုက္ခကို မကြည့်ရက်နိုင် သနားလှသည့်အတွက် ရေကိုရှာပြီး မိန်းမ၏ခံတွင်းထဲသို့ လောင်းထည့်ပေးလိုက်သည်။ ထိုမိန်းမသည်

ရေသောက်ပြီးနောက် လန်းဆန်းအားအင်ပြည့်ဖြိုးလာ၍ ထိုလှေပေါ်မှာပင် ကလေးငယ်တစ်ဦးကို ဖွားမြင်နိုင်ခဲ့လေသည်။ ကုန်သည်လူရွယ်လည်း တစ်ဖက်ဆိပ်ကမ်းသို့ လှေဆိုက်ကပ်လျှင် မိမိသွားလိုရာအရပ်သို့ ထွက်ခွာသွားလေတော့သည်။

ထိုအဖြစ်အပျက်ဖြစ်ပြီးနောက် ကာလအတန်ကြာသော် ထိုကုန်သည်လူရွယ်သည် စန္ဒဘာဂါမြစ်ကိုဖြတ်ကျော်ပြီး ကိုယ်ဝန်ဆောင်မိန်းမနေသောရွာသို့ အလုပ်ကိစ္စဖြင့်ရောက်ရှိလာခဲ့သည်။ ထိုကုန်သည်လူရွယ်သည် အချိန်လွန်မှ အလုပ်ကိစ္စက ပြီးစီးသည့်အတွက် ထိုရွာမှာပင် အိပ်ဖို့ အကြောင်းဖြစ်လာ၏။ တစ်ညတာအိပ်ရန် တည်းခိုစရာနေရာကိုရှာသော်လည်း မရသည့်အဆုံး ရွာဝင်တံခါးဝဇရပ်ပေါ်တွင် တစ်ညတာအိပ်စက်ရရှာလေသည်။ ထိုညမှာပင် နန်းတွင်းသို့ သူခိုးတစ်ဦးဖောက်ထွင်းဝင်ရောက်၍ မင်း၏ဥစ္စာကို ခိုးယူထွက်ပြေးသွားခဲ့သည်။ မင်းမှုထမ်းတို့လည်း သူခိုးနောက်သို့လိုက်ကြရာ ထိုရွာတံခါးဝ ဇရပ်အနီးမှာပင် သူခိုး၏ခြေရာ ပျောက်သွားခဲ့သည်။ ထိုအခါ ဇရပ်ပေါ်၌ အဖော်မပါ တစ်ကိုယ်တည်း အိပ်စက်နေသော ကုန်သည်လူရွယ်ကို ဤသူပင် သူခိုးဖြစ်လိမ့်မည်ဟု ဖမ်းဆီး၍ မြို့တွင်းသို့ ချုပ်နှောင်ခေါ်ဆောင်သွားကြ၏။

နံနက်လင်းသောအခါ မင်းမှုထမ်းတို့က မိမိတို့ဖမ်းလာသော ကုန်သည်လူရွယ်ကို သူခိုးဟုသမုတ်ကြပြီး မင်းကြီးထံသို့ အခစားဝင်ကြသည်။ မင်းကြီးက လူရွယ်ကို'ဘာကြောင့် ဒီအပြစ်ကို ကျူးလွန်ရသလဲ'ဟုမေးသောအခါ ကုန်သည်လူရွယ်က 'အရှင်မင်းကြီး၊ အကျွန်ုပ်သည် သူခိုးမဟုတ်ပါ၊ ခရီးသွားကုန်သည်တစ်ဦးသာ ဖြစ်ပါသည်'ဟု ဖြေရှင်းပြသော်လည်း မင်းကြီးက လက်မခံဘဲ 'သတ်စေ'ဟု အမိန့်ပေးလိုက်လေသည်။ မင်းမှုထမ်းတို့လည်း မင်းကြီး၏အမိန့်အတိုင်း ထိုကုန်သည်လူရွယ်ကိုသတ်ရန် ချုပ်နှောင်ပြီး သုသာန်သို့ ခေါ်ဆောင်လာကြသည်။

ထိုသို့ ကုန်သည်လူရွယ်ကို မင်းမှုထမ်းများက တုပ်နှောင်ပြီး သတ်ရန် ခေါ်ဆောင်လာသည်ကို မြစ်အလယ် လှေပေါ်၌ သားဖွားခဲ့သောမိန်းမ တွေ့မြင်သောအခါ ထိုသူသည် ငါ့ကို လှေထက်၌ မွေးဖွားအုံဆဲဆဲအခါမှာ ရေတိုက်၍ ကူညီစောင့်ရှောက်ခဲ့သော ကျေးဇူးရှင်လူရွယ်ဖြစ်သည်။ ထို ကျေးဇူးရှင်လူရွယ် ဒုက္ခရောက်နေသောအခါတွင် ကူညီမှသင့်မည်ဟူ၍ မင်းကြီးထံဝင်ပြီး ထိုကုန်သည်လူရွယ်သည် သူခိုးမဟုတ်ကြောင်း ရှင်းလင်း ပြောဆိုသည်။ မင်းကြီးက ထိုမိန်းမပြောကြားသောစကားကို ယုံလှသည် မဟုတ်၍ ‘ဤသူသည် သူခိုးဟုတ်,မဟုတ် ငါမသိ၊သူ့ကိုလွှတ်စေလိုလျှင် ပျောက်ဆုံးခဲ့သော ပစ္စည်း၏တန်ဖိုးကို အလျော်ပေးပါက ထိုသူကို လွှတ်ပေးလိုက်မည်’ဟုပြောဆိုလေသည်။ ထိုမိန်းမက‘အရှင်မင်းကြီး၊ ကျွန်ုပ်တွင် လျော် စရာ ဥစ္စာပစ္စည်းမရှိပါ။ သို့ပါသော် ကျွန်ုပ်နှင့်ကျွန်ုပ်၏ သားသမီးခုနစ်ယောက်တို့သည် အရှင်မင်းကြီးထံ ကျွန်ခံပြီး ပျောက် သော ထိုဥစ္စာတန်ဖိုးနှင့်ညီအောင် ပြန်၍ ဆပ်ကြပါမည်။ ထိုလူရွယ်ကို အပြစ်မရှိသည့်အတွက် လွှတ်ပေးပါ’ဟု တောင်းပန်စကား ပြောလေ သည်။

မင်းကြီးက ထိုမိန်းမကိုကြည့်ပြီး ‘ထိုလူရွယ်ဟာ ဒီရပ်ရွာကို အခုမှ ရောက်လာတဲ့ဧည့်သည်လို့ သင်ဆိုခဲ့တယ်၊ ဒါဆို ဒီလူရွယ်က သင်နဲ့ ဘယ်လို တော်စပ်နေပါသလဲ။ သင်ရဲ့အစ်ကိုလော၊ အဖေလော၊ လင်လော၊ လင်ရဲ့အစ်ကိုလော၊ လင်ရဲ့အမျိုးလော၊ သို့မဟုတ် သင့်အား ဥစ္စာပေးထား သောကျေးဇူးရှင်လော၊ သို့မဟုတ် တစ်စုံတစ်ခုသော ကျေးဇူးရှိခဲ့ဖူးသည့် ကျေးဇူးရှင်လော။ ဘာကြောင့် ထိုသူ့အတွက် သင်က ကျွန်ခံမည်ဟု ဆိုရပါ သလဲ’ စသည်ဖြင့် မေးမြန်းစုံစမ်းတော့သည်။

ထိုအခါ ရွာသူမိန်းမက ‘အရှင်မင်းကြီး၊ ဒီယောကျ်ားဟာ ကျွန် တော်မကို တစ်ကြိမ်တစ်ခါက စောင့်ရှောက်ခဲ့ဖူးသော ကျေးဇူးရှင် ဖြစ်ပါတယ်။ ကျွန်တော်မဟာ မြစ်ရဲ့အလယ် လှေပေါ်မှာ ကိုးကွယ်ရာမရှိ

ဆင်းရဲပင်ပန်းစွာ သားဖွားမည့်အချိန်တွင် ရေတစ်ပေါက်ကိုရှာဖွေ၍ တိုက်ခဲ့သဖြင့် အသက်ဘေးမှ ချမ်းသာရာရခဲ့ပါသည်။

'အရှင်မင်းကြီး၊ ရေသောက်လိုသောအခါ ရေပြည့်နေသော မဟာသမုဒ္ဒရာမှဖယ်ပြီး ရေတွင်းသို့သွားရသကဲ့သို့၊ လူများစွာရှိသည် မှန်သော်လည်း ကျေးဇူးကိုသိသောဂုဏ်သည် ထိုလူရွယ်၌သာ တည်နေသည်ပါသည်။

'အရှင်မင်းကြီး၊ လူတို့သည် စားသောက်ရန် အသားလိုသည့်အခါ သေနေသောဆင်ကြီး၏အနီးမှခွာပြီး ကဆုန်ချပြေးနေသောယုန်နောက်သို့ လိုက်သကဲ့သို့ လူတို့တွင်လည်း သူ့ကျေးဇူးကိုသိတတ်သော သူတော်ကောင်း၏နောက်သို့သာ လိုက်ပါကြမြဲ ဖြစ်ပါသည်။

'အရှင်မင်းကြီး၊ ထိုလူရွယ်၏ ရှေးကပြုဖူးသောကျေးဇူးကို ဤအခါ၌ ကျွန်ုပ်အောက်မေ့သတိရပါပြီ။ ထိုလူရွယ်သည် ကျွန်ုပ်နှင့်ကျွန်ုပ်သားကို ချမ်းသာခြင်းသို့ ရောက်စေသောကြောင့် ထိုလူရွယ်အတွက် ကျွန်ုပ်၏အသက်ကိုစွန့်ခြင်းငှာ ထိုက်လှပါသည်'။

ဤစကားကိုကြားသော် မင်းကြီးသည် မြို့အဝင်တံခါးမှူးကိုခေါ်၍ ထိုသူခိုးပြေးသောညက အကြောင်းကို စစ်မေးလေသည်။ တံခါးမှူးကလည်း ထိုလူရွယ်သည် ညဥ့်နက်မှ မြို့တံခါးဝသို့ရောက်လာပြီး ဇရပ်ပေါ်၌အိပ်သည်မှာ မှန်ကန်ကြောင်း ထွက်ဆိုလေ၏။ ထိုအခါ မင်းကြီးသည် သနားကြင်နာတတ်သော ကုန်သည်လူရွယ်နှင့် အမျိုးသမီး၏ ကျေးဇူးတရားကိုသိတတ်သော သူတော်ကောင်းဂုဏ်ရည်ကို နှစ်သက်မြတ်နိုးသောကြောင့် ကြီးစွာသောစည်းစိမ်ကိုပေးအပ်တော်မူသည်။ ထိုသူတော်ကောင်းနှစ်ဦးသည် ဆုလာဘ်အဖြစ်ရရှိသော စည်းစိမ်တို့ကို ခံစား၍ သူတော်ကောင်းတရား လက်ကိုင်ထားကြကာ အသက်ထက်ဆုံးနေထိုင်သွားကြသည်။ သေလွန်သောအခါ နတ်ပြည်၌ ဖြစ်ကြရလေသည်။

ဤရေတစ်ပေါက်အလှူဝတ္ထုကို အကြောင်းပြုပြီး ရှေးဆရာမြတ်တို့က 'တရားဓမ္မ၌ မွေ့လျော်၍ သူတော်ကောင်းစိတ်ထားရှိသူ အမျိုးသမီးသည်ပင် စည်းစိမ်ချမ်းသာနှင့်ပြည့်စုံခဲ့ရ၏။ သင်သူတော်ကောင်းတို့သည်လည်း သူ့ကျေးဇူးကို သိတတ်ခြင်းဟူသော သူတော်ကောင်းကျင့်ဝတ်တရားတို့နှင့်လျော်ညီစွာ နေထိုင်ကျင့်ကြံအားထုတ်၍ ဒါနသီလတို့၌ စုဆောင်းကြပါလော့'ဟု တိုက်တွန်းခဲ့ကြ၏။



## လူ့အဖြစ်နှင့်နတ်စည်းစိမ်ကိုခံစားရသူ

[၂၀။ သဟာယပရိစ္စတ္တဇိဝိတဝတ္ထု]

ဂေါတမမြတ်စွာဘုရားရှင် ပရိနိဗ္ဗာန်ပြုပြီးနောက် သာဝတ္ထိပြည်၌ သောမပုဏ္ဏားနှင့် သောမဒတ္တပုဏ္ဏားဟု ပုဏ္ဏားမိတ်ဆွေနှစ်ဦးရှိခဲ့သည်။ ထိုပုဏ္ဏားနှစ်ဦးသည် အလွန်ခင်မင်အကျွမ်းဝင်သူဖြစ်ကြပြီး ကြွေအံကစား ဖော်ကစားဖက်များလည်းဖြစ်သည်။

တစ်နေ့သောအခါ ထိုပုဏ္ဏားနှစ်ဦးသည် ကြွေအံကစားကြရာ သောမပုဏ္ဏားက ရှုံးလေသည်။ သောမပုဏ္ဏား၏အပေါ်ရုံကိုယ်ဝတ်နှင့် ရွှေလက်စွပ်ကို လောင်းကြေးအဖြစ် သောမဒတ္တပုဏ္ဏားက သိမ်းယူခဲ့သည်။ အိမ်သို့ ပြန်ကြရန် အချိန်တန်သောအခါ ကြွေရှုံးသူသောမပုဏ္ဏားသည် အိမ်မပြန် ဘဲနေသည်ကို သောမဒတ္တပုဏ္ဏားကမြင်သော် 'မိတ်ဆွေသောမ၊ အိမ်သို့ ပြန်ကြပါစို့'ဟုခေါ်လေသည်။ သောမပုဏ္ဏားက 'အဆွေ၊ ငါ့မှာအပေါ်ရုံ ကိုယ်ဝတ်မပါ ဗလာကိုယ်ထီး လူကြားထဲ မသွားဝံ့ပါ၊ ဒီမှာပဲ နေရစ်ပါ မယ်'ဟု ပြောသောအခါ ကြွေနိုင်သူသောမဒတ္တက 'ဒီလိုဆိုလဲ သင့်ရဲ့ ကိုယ်ရုံအဝတ်ကို ပြန်ပေးပါ့မယ်'ဟုဆိုပြီး သောမပုဏ္ဏားအား ကိုယ်ရုံ အဝတ်ကို ပြန်၍ပေးလိုက်သည်။ ကိုယ်ရုံရပြီးပြန်သော်လည်း ရွှေလက် စွပ်ကျန်သေးသည့်အတွက် သောမပုဏ္ဏားက'အဆွေ လက်စွပ်မပါလျှင် ငါ့ကို ပုဏ္ဏေးမ နှင့်သားသမီးတွေက ရန်ထောင်လိမ့်မယ်'ဟုပြောပြန်ရာ၊ သောမဒတ္တပုဏ္ဏားက 'ကဲ ကဲ စိတ်မပူပါနဲ့၊ နောင်ဥစ္စာပစ္စည်းလွယ်တဲ့အခါ ကြွေးပြန်ဆပ်ပါ၊ လက်စွပ်ကိုလည်း ပြန်ပြီးပေးလိုက်ပါ့မယ်'ဟုဆိုကာ

လက်စွပ်ကိုလည်း ပြန်၍ပေးလိုက်လေသည်။ ထိုအခါမှ ပုဏ္ဏားနှစ်ဦးတို့သည် လည်ပင်းဖက်ကာ အိမ်ပြန်ခဲ့ကြသည်။

ထိုမိတ်ဆွေပုဏ္ဏားနှစ်ဦးသည် မိတ်ဆွေအဖြစ် အချိန်ကြာမြင့်စွာ နေထိုင်ခဲ့ကြပြီး တစ်နေ့သော် သောမဒတ္တပုဏ္ဏားကို သူတစ်ပါးသားမယားအပေါ် ဖျက်ဆီးသူဟုဆိုပြီး လူတို့က ချုပ်နှောင်ကာ မင်းကြီးထံ ပို့ဆောင်ကြ၏။ မင်းကြီးလည်း သောမဒတ္တပုဏ္ဏား၏ရုပ်အဆင်းလက္ခဏာကို ကြည့်၍ 'သင် နောက်ကို ဒီလိုအပြစ်မျိုး မကျူးလွန်နှင့်'ဟု ဆုံးမပြီး ပြန်လွှတ်လိုက်၏။ သောမဒတ္တပုဏ္ဏားကို နောက်တစ်ကြိမ် သူတစ်ပါးသားမယားကို ဖျက်ဆီးသူဟုဆိုပြီး ဖမ်းဆီးကာ မင်းထံသို့ ပို့ကြပြန်၏။ မင်းလည်း ဆုံးမ၍သာ ပြန်လွှတ်လိုက်၏။ ဤသို့ဖြင့် လေးကြိမ်တိုင်အောင် မင်းထံသို့ သောမဒတ္တကိုဖမ်း၍ ပို့ကြသည်ရှိသော် မင်းကြီးက ဤပုဏ္ဏားသည် ဆိုဆုံးမရခက်လှသည်၊ ဆုံးမ၍ရတော့မည်မဟုတ်၊ သို့ဖြစ်၍ 'သတ်စေ'ဟူသော အမိန့်ကိုထုတ်ပြန်လိုက်လေသည်။ မင်းမှုထမ်းတို့လည်း သောမဒတ္တပုဏ္ဏားကိုသတ်ရန် ချုပ်နှောင်ပြီး လူသတ်ကုန်းသို့ ခေါ်ဆောင်ခဲ့ကြသည်။

သောမဒတ္တပုဏ္ဏားကို ချုပ်နှောင်ပြီး လူသတ်ကုန်းသို့ ခေါ်ဆောင်လာသည်ကို သောမပုဏ္ဏားမြင်လျှင် စိတ်မကောင်းဖြစ်ကာ မင်းမှုထမ်းတို့ထံ 'အမောင်တို့၊ ဒီပုဏ္ဏားကိုမသတ်ပါနှင့်၊ ခေတ္တဆိုင်းပါ၊ မင်းကြီးထံသွား၍ လျှောက်တင်စရာရှိတာကို လျှောက်တင်ပါရစေ'ဟု တောင်းပန်စကားပြောကြားပြီးလျှင် မင်းကြီးထံ လျင်စွာသွား၍ 'အရှင်မင်းကြီး၊ သောမဒတ္တပုဏ္ဏားကို လွှတ်ပေးပါ၊ သူ့အစား အကျွန်ုပ်အသတ် ခံပါရစေ' ဟု တောင်းဆိုခဲ့၏။ ထိုအခါ မင်းကြီးကလည်း အသက်အစားပေးသည်ကို လက်ခံပြီး သောမပုဏ္ဏားကိုသတ်စေဟု အမိန့်ပြင်ဆင်ပေးလိုက်၏။ ကြွေးရှုံး၍တင်သောအကြွေးကို အသက်ပေး၍ဆပ်သော သောမပုဏ္ဏားကဲ့သို့ ကျေးဇူးသိတတ်သူကား ရှားဘိ၏။ အံ့ဩဖွယ်ရှိပေစွ။

သောမပုဏ္ဏားသည် မိတ်ဆွေ၏ကိုယ်စား မိမိအသက်ကိုပေးလှူသော ဇီဝိတဒါနကုသိုလ်အစွမ်းကြောင့် ထိုဘဝမှသေလွန်သောအခါ နတ်ပြည်၌ဖြစ်၍ နတ်သမီးတစ်ထောင်ခြံရံလျက် ရွှေဗိမာန်ကြီးတွင် စံစားနေရလေသည်။ လူ့ပြည်၌ ကျန်ရစ်သော သောမဒတ္တပုဏ္ဏားကလည်း ငါ့မိတ်ဆွေသောမသည် ငါ့အတွက် အသက်ကိုစွန့်ခဲ့၏။ ထိုသောမပုဏ္ဏား ဘဝတသွန် တမလွန်၌ အကျိုးရပါစေဟုရည်သန်ပြီး ကုသိုလ်ကောင်းမှုများ ပြုကာ အမျှပေးဝေခဲ့လေသည်။ ထိုကုသိုလ်၏အစွမ်းကြောင့် သောမနတ်သား၌ နတ်စည်းစိမ်ချမ်းသာ ပိုမိုတိုးတက် ပြည့်စုံခြင်း ဖြစ်ခဲ့ပြန်လေသည်။

တစ်နေ့သော် သောမနတ်သားသည် လူအသွင်ကိုယူပြီး လူ့ပြည်၌ ကျန်ရစ်ခဲ့သော မိတ်ဆွေသောမဒတ္တပုဏ္ဏားထံသို့ သွားရောက်၏။ သောမဒတ္တထံသို့ရောက်မှ မိမိ၏နတ်အသွင်ကိုပြပြီးလျှင် သောမဒတ္တပုဏ္ဏားကို နတ်ပြည်သို့ခေါ်ဆောင်သွား၍ နတ်စည်းစိမ်ကို ခုနစ်ရက်ခံစားစေသည်။ ခုနစ်ရက်စေ့သော် သောမဒတ္တပုဏ္ဏားကို လူ့ပြည်သို့ ပြန်၍ပို့ဆောင်ခဲ့လေသည်။ သောမဒတ္တပုဏ္ဏားသည် နတ်စည်းစိမ်ကိုသတိရပြီး လူ့ပြည်သို့ ပြန်ရောက်သောအခါ မအိပ်နိုင်မစားနိုင် တမှိုင်မှိုင်တတွေတွေနှင့် ခန္ဓာကိုယ် ပိန်ခြုံးကာ ဖြစ်နေရှာလေသည်။

ဤသို့လျှင် သောမဒတ္တပုဏ္ဏား နတ်စည်းစိမ်ကိုတွယ်တာပြီး ကိုယ်စိတ်ဆင်းရဲနေသည်ကို သောမနတ်သားသိသောအခါ လူ၏ကိုယ်ဖြင့် နတ်စည်းစိမ်ကို ခံစားဖို့ရာမှာမဖြစ်နိုင်၊ သို့ပါသော် အလိုရှိတိုင်းသော စည်းစိမ်တို့ကိုဖြစ်စေနိုင်သော စိန္တာမဏိပတ္တမြားကို သောမဒတ္တပုဏ္ဏားအား ပေးအပ်ခဲ့၏။ သောမဒတ္တပုဏ္ဏားသည် ထိုစိန္တာမဏိပတ္တမြား၏အစွမ်းဖြင့် မိမိ၏မယားကို လူမကနတ်တမျှလှပနုနယ်စေပြီး မိမိတို့ဇနီးမောင်နှံသည် ဤလူ့ပြည်မှာပင် စိန္တာမဏိ ပတ္တမြားတန်ခိုးဖြင့် နတ်စည်းစိမ်ချမ်းသာနှင့် မခြားသော စည်းစိမ်ကိုလည်းခံစား၊ ဒါနသီလစသော သူတော်ကောင်း

တရားကိုပွားများကြပြီး ထိုဘဝမှသေလွန်လျှင် မိမိ၏မိတ်ဆွေ သောမဒတ္တ နတ်သားရှိရာ နတ်ပြည်၌ ဖြစ်ခဲ့လေသည်။

ဤသို့ မိမိ၏အသက်ကို မိတ်ဆွေအတွက်ပေးအပ်ခဲ့သူ သောမ ပုဏ္ဏား၏ဝတ္ထုကိုအကြောင်းပြု၍ ရေးသူမြတ်တို့က 'ထက်မြက်သော သူတော်ကောင်းသည် အနည်းငယ်မျှသောကျေးဇူးကိုပင် အသက်ပေး၍ ပြန်လည်ဆပ်တတ်၏။ သင်သူတော်ကောင်းတို့သည်လည်း ကျေးဇူးရှိသူကို မိတ်ပျက်အောင်မပြုကြဘဲ ကျေးဇူးရှင်ကို အစဉ်အမြဲမှန်းတင်လျက် ကျေးဇူး တုံ့ဆပ်နိုင်ကြပါစေ'ဟု တိုက်တွန်းမိန့်ဆိုခဲ့၏။



## ဘီလူးကိုလှည့်စားပြီးသရဏဂုံဆောက်တည်သူ

[၂၁။ ယက္ခဝဉ္စိတဝတ္ထု]

ဂေါတမမြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူပြီးသည့်နောက် ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ ကောသလတိုင်းအတွင်း၌ တုဏ္ဍာအမည်ရှိသော ရွာကလေးတစ်ရွာကလေး၌ သရဏဂုံစွဲမြဲသော ဗုဒ္ဓဒါသအမည်ရှိ ဥပါသကာတစ်ဦးနေထိုင်လေသည်။ ဗုဒ္ဓဒါသဥပါသကာသည် အသက်ထက်ဆုံး မြတ်စွာဘုရားရှင်ကို ကိုးကွယ်ရာဟု ဆည်းကပ်၏။ ဘုရားရှင်သည်သာလျှင် ကိုးကွယ်ရာ–စောင့်ရှောက်ရာ–ပုန်းအောင်းရာ–လှဲလျောင်းရာ'ဟု ဆောက်တည်ပြီးနေခဲ့သူ ဖြစ်လေသည်။

ထိုစဉ်အခါ အခြားသောရွာတစ်ရွာမှ လူတစ်ဦးသည် ဗုဒ္ဓဒါသဥပါသကာနေထိုင်ရာ တုဏ္ဍာရွာသို့ရောက်ရှိလာပြီး ဗုဒ္ဓဒါသဥပါသကာ၏ အိမ်မှာပင် တည်းခိုနေထိုင်ခဲ့လေသည်။ ထိုဧည့်သည်ယောကျ်ား တုဏ္ဍာရွာသို့ လာစဉ်အခါ လမ်းခရီး၌ ဘီလူးတစ်ကောင်သည် သူ၏ ခန္ဓာကိုယ်တွင်းသို့ ဝင်ရောက် ပူးကပ်နေခဲ့၏။ ထိုဘီလူးသည် ထိုခရီးသွားယောကျ်ားကို တစ်လမ်းလုံးနှိပ်စက်ပြီး လိုက်ပါခဲ့သည်။ တုဏ္ဍာရွာ အဝသို့ ရောက်သောအခါမှ ထိုသူ၏ကိုယ်၌ပူးဝင်နေသောဘီလူးသည် ဗုဒ္ဓဒါသဥပါသကာ၏ သီလတန်ခိုးရှိန်စော်ကြောင့် ရွာအတွင်းသို့ မဝင်ဝံ့ဘဲ ရွာအပြင်တစ်နေရာ၌ နေရစ်ခဲ့ရသည်။ ထိုဘီလူးသည် ရွာအပြင်မှနေပြီး မိမိပူးဝင်ခဲ့သူကို ချောင်းမြောင်းကြည့်ရှုနေခဲ့သည်။

ထိုတစ်ရွာသားညှော်သည်သည် ဗုဒ္ဓဒါသဥပါသကာ၏အိမ်၌ ခုနစ်ရက်ကြာနေထိုင်ခဲ့ပြီး အလုပ်ကိစ္စပြီးစီးသဖြင့် မိမိရပ်ရွာသို့ပြန်ခဲ့သည်။ တုလ္လာရွာ၏အပြင်သို့ရောက်လျှင် ရွာတံခါးဝ၌စောင့်နေသော ဘီလူးက ထိုလူ၏ကိုယ်၌ ပူးကပ်ဝင်ရောက်ပြန်လေသည်။ ထိုအခါ ထိုလူက 'သင်ဘီလူးကို ငါမမြင်သည်မှာ ခုနစ်ရက်ရှိလေပြီ၊ သင်ဘယ်ကိုသွားနေသလဲ' ဟုမေးသည်။ ဘီလူးက 'ငါ ဘယ်ကိုမှ မသွား၊ သင့်ကို ဒီနေရာရွာတံခါးဝကပင် စောင့်နေသည်မှာ ခုနစ်ရက်ရှိခဲ့လေပြီ' ဟုဖြေကြား၏။

ထိုလူက 'သင် ဘာအလိုရှိသလဲပြော' ဟုဆိုသောအခါ ဘီလူးက 'ငါ အစာမစားရသည်မှာ ခုနစ်ရက်ရှိခဲ့ပြီ၊ အခုအလွန်ဆာလောင်နေသည်။ ထမင်းစားစရာတစ်ခုခုကို အလိုရှိသည်' ဟု ပြောလေသည်။ ထိုလူက 'သည်လောက်ဆာနေလျှင် ယခင်ရက်များက ငါတည်းခိုနေသည့် အိမ်အတွင်းသို့ ဝင်ခဲ့ပါလား၊ စားစရာတစ်စုံ တစ်ခုရမည် မဟုတ်ပါလား' ဟုပြောသော်၊ ဘီလူးက 'အမောင်၊ သင်တည်းခိုနေသော အိမ်သည် ဘုရားကို ကိုးကွယ်ဆည်းကပ်သော ဥပါသကာ၏အိမ်ဖြစ်သည်။ ထိုဥပါသကာဆောက်တည်ထားသော သရဏဂုံသီလတန်ခိုးကြောင့် အိမ်တွင်းသို့ မဝင်ဝံ့ပါ၊ အိမ်တွင်းကိုမဆိုထားနှင့် ရွာ၏အတွင်းကိုပင် မဝင်ဝံ့ပါ' ဟုပြန်လည်ပြောကြားလေသည်။

ထိုအခါ ညှော်သည့်ယောကျ်ားက အကြံရလာပြီး 'အသင်ဘီလူး၊ တုလ္လာရွာရှိဗုဒ္ဓဒါသဥပါသကာဆောက်တည်သော သရဏဂုံကို သင် သိပါသလော' ဟုမေးလျှင် ဘီလူးက 'ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ' ဟု ဖြေလေ၏။ ညှော်သည် ယောကျ်ားသည် ဘီလူးကြောက်သောသရဏဂုံကို ဆောက်တည်အံ့ဟူ၍ 'ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ'–ဟုဆိုကာ သရဏဂုံကို ဆောက်တည်လိုက်လေသည်။ ထိုသို့သရဏဂုံဆောက်တည်သံကို ကြားလိုက်သည်နှင့် ဘီလူးကြီးသည် ကြောက်မက်ဖွယ်အသံကြီးပြုပြီးလျှင် ထိုညှော်သည်ယောကျ်ားအနီးမှ ထွက်ပြေးသွားလေတော့သည်။

ထိုညေ့်သည်ယောကျ်ားသည်လည်း သရဏဂုံ၏လက်ငင်းအကျိုးကို သိလေရာ ရတနာသုံးပါး၌ ရှိသေစွာဆည်းကပ်ပြီး တစ်သက်တာပတ်လုံး သရဏဂုံကို ဆောက်တည်နေခဲ့၏။ ထိုဘဝမှစုတေသောအခါ၌ နတ်ပြည်သို့ လားရလေသတည်း။

'ဗုဒ္ဓ–ဟူသောစကားသည် ဘီလူးတို့ကို ကြီးစွာသောဘေးကို သင့်ရောက်စေတတ်၏။ ဘုရားကို ဆည်းကပ်သောသူတို့အား အခါခပ်သိမ်း နှစ်သက်ဝမ်းမြောက်ခြင်းကို ဖြစ်စေတတ်၏။

'ထိုသရဏဂုံသုံးပါးသည် မျက်မှောက်ကာလမှာပင် အလုံးစုံသော ဘေးဥပဒ်တို့ကို ဖျက်ဆီးစေတတ်သော နတ်ဆေးနတ်မန္တန်နှင့်လည်း တူ၏။ တန်ခိုးလည်း အလွန်ကြီးမားပေ၏။ ကြီးကျယ်သောယန္တရားကြီးနှင့်လည်း တူ၏။ များစွာအံ့သြဖွယ်လည်း ရှိပေ၏။

'ထို့ကြောင့် ရက်စက်ကြမ်းကြုတ်သော ဘီလူးတို့သည်ပင်လျှင် သရဏဂုံတည်သောယောကျ်ားကို မြင်သောအခါ၌ ထိတ်လန့်ကြောက်ရွံ့ခြင်း ကြက်သီးမွေးညင်းထခြင်း ဖြစ်လေသည်။

'ထို့ပြင် နေထွက်လာလျှင် အမိုက်မှောင်သည် ပျောက်ကွယ်ရသကဲ့သို့၊ လေပွေကြမ်း လေဆင်နှာမောင်းတိုးသောအခါ လက်ပံပင် လက်ပံတောတို့ ပြတ်ထွက်ကုန်သကဲ့သို့ ထိုသရဏဂုံဆောက်တည်သော ယောကျ်ားကိုမြင်လျှင် ဘီလူးတို့သည် ကွယ်ပျောက်ကြရ၏။ ဆောက်တည်ရာမရ ပြိုလဲကျကုန်၏။

'ရာဇ,စောရာ,ယက္ခ,ပေတ(ပြိတ္တာ) အစရှိသည်တို့ကြောင့်ဖြစ်သော အကြင် ဆင်းရဲသည်ရှိ၏။ ထိုဆင်းရဲကို အလိုမရှိကုန်သောလူတို့သည် သရဏဂုံသုံးပါးကို ဆည်းကပ်ပါကြကုန်လော့။

ဤသို့လျှင် ဘီလူးကို လှည့်စား၍ သရဏဂုံဆောက်တည်သော ယောကျ်ား၏ဝတ္ထုကို အကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'သရဏဂုံ

ကို ဆောက်တည်လိုက်သော ထိုတောရွာသားကို ဖမ်းစားထားသည့် ဘီလူးသည်ပင် ကြောက်လန့်ပြီး ထွက်ပြေးသွားရသဖြင့် သင်သူတော်ကောင်းတို့သည်လည်း သရဏဂုံ သီလတို့ကို စောင့်ရှောက်ကြရာ၏။ မကောင်းသော ဒုစရိုက်ကိုရှောင်ရှား၍ ကုသိုလ်ကောင်းမှုကိုသာ ပြုလုပ်ကြပါကုန်လော့’ဟူ၍ တိုက်တွန်းခဲ့လေသည်။



# နမောဗုဒ္ဓါယတန်ခိုး

[၂၂။ မိစ္ဆာဒိဋ္ဌိက ဝတ္ထု]

ဂေါတမမြတ်စွာဘုရားရှင် သက်တော်ထင်ရှားရှိတော်မူစဉ်အခါ ဤဇမ္ဗူဒိပ်ကျွန်းရှိ ရာဇဂြိုဟ်မြို့တွင် ဗြဟ္မဘတ္တိကအမည်ရှိသော မိစ္ဆာဒိဋ္ဌိတစ်ဦး နေထိုင်ခဲ့လေသည်။ ထိုမိစ္ဆာဒိဋ္ဌိ၏ အိမ်အနီး၌ သမ္မာဒိဋ္ဌိ(ဗုဒ္ဓဘာသာဝင်) တစ်ဦးလည်း နေထိုင်လျက်ရှိသည်။

ထိုလူနှစ်ယောက်၌ သားသမီးများရှိကြပြီး ထိုကလေးငယ်တို့သည်လည်း အိမ်နီးပါးချင်းဖြစ်သည့်အလျောက် ငယ်စဉ်မှစ၍ အတူတကွ ကစားကြရင်း ကြီးပြင်းလာကြသည်။ တစ်ချိန်သောအခါ ထိုကလေးငယ်တို့သည် ဂုံညှင်းထိုးတမ်းကစားကြရာ သမ္မာဒိဋ္ဌိ၏သားက 'နမောဗုဒ္ဓါယ' (မြတ်စွာဘုရားအား ရှိခိုးပါ၏)ဟုဆိုပြီး ဂုံညှင်းပစ်၏။ ပစ်တိုင်းလည်း နိုင်၏။ မိစ္ဆာဒိဋ္ဌိ၏သားကလည်း 'နမော ဗြဟ္မုနော' (ဗြဟ္မာကြီးအား ရှိခိုးပါ၏)ဟု ဆိုပြီး ဂုံညှင်းပစ်၏။ ပစ်တိုင်းရှုံး၏။ ထိုအခါ မိစ္ဆာဒိဋ္ဌိ၏သားက သမ္မာဒိဋ္ဌိ၏သားကို 'သူငယ်ချင်း မင်းဟာ ဂုံညှင်းပစ်တိုင်း နိုင်နေတယ်၊ မင်းဂုံညှင်းပစ်ရင် ရွတ်ဆိုသောဂါထာကို ငါ့ကိုလဲ သင်ပေးပါ'ဟုပြော၏။ သမ္မာဒိဋ္ဌိ၏ သားက 'ငါရွတ်တာ တခြားမဟုတ်ပါ၊ နမော ဗုဒ္ဓါယလို့ ရွတ်ဆိုပြီး ပစ်တာပါပဲ'ဟုပြောပြ၍ သင်ကြားပေးလေသည်။ မိစ္ဆာဒိဋ္ဌိ၏သားလည်း ထိုအခါမှစ၍ 'နမော ဗုဒ္ဓါယ'ဟုဆို၍ ဂုံညှင်းပစ်သည့်အတွက် အရှုံးမရှိတော့ပေ။ ထိုသို့ဖြင့် သူငယ်ချင်းနှစ်ဦးသား အရှုံးအနိုင်မျှကာ သရေကျလေ၏။

တစ်နေ့သောအခါ မိစ္ဆာဒိဋ္ဌိ၏သားသည် မိမိဖခင်နှင့်အတူ သစ်ခုတ်

ရန် နွားလှည်းဖြင့် တောသို့လိုက်ပါသွားခဲ့သည်။ တော၌ သစ်ခုတ်ပြီးအပြန် မြို့ဝင်တံခါးဝသို့ အရောက်တွင် နွားများပင်ပန်းလှသည် ခေတ္တနားမည်ဟု နွားတို့ကို အနီးအပါးတွင် မြက်စားရန်လွှတ်ထားခဲ့သည်။ နွားများသည် မြက်စားရင်း အခြားနွားများနှင့်ရော၍ မြို့အတွင်းသို့ဝင်လိုက်သွားကြသည်။ လှည်းပြင်ရန် အချိန်တန်သော် နွားများမရှိသည်ကိုသိ၍ မိစ္ဆာဒိဋ္ဌိသည် မိမိ၏နွားတို့ကိုလိုက်ရှာရင်း မြို့တွင်းသို့ရောက်ရှိသွားလေသည်။ မြို့တွင်းမှာ နွားတို့ကို လိုက်ရှာရင်းအချိန်ကုန်၍ မြို့တံခါးပိတ်လိုက်လေရာ မိစ္ဆာဒိဋ္ဌိ သည် မြို့ပြင်သို့ ထွက်မရတော့ဘဲ မြို့အပြင်လှည်းပေါ်၌ ကလေးငယ် တစ်ဦးတည်းသာ ကျန်ရစ်နေရရှာလေသည်။

ညသို့ရောက်သော် ထိုကလေးငယ်သည် ကြောက်ရွံ့သည်ဖြစ်၍ ထင်းလှည်းအောက်သို့ဝင်ကာ အိပ်ရရှာသည်။ ညဥ့်လယ်သို့ရောက်သော် သမ္မာဒိဋ္ဌိအယူရှိသော ဘီလူးတစ်ကောင်နှင့် မိစ္ဆာဒိဋ္ဌိအယူရှိသော ဘီလူး တစ်ကောင်တို့သည် ထိုကလေးငယ်ရှိရာအရပ်သို့ ရောက်လာကြသည်။ မိစ္ဆာဒိဋ္ဌိဘီလူးက ကလေးငယ်ကိုစားမည်ဟု ဟန်ပြင်သောအခါ သမ္မာဒိဋ္ဌိ ဘီလူးက'မစားနှင့်'ဟုတားမြစ်၏။ 'ဤကလေးငယ်သည် နမော ဗုဒ္ဓါယ ဟူသော ဘုရားရှိခိုးကိုရွတ်ဆိုပြီး ကစားသောကလေး ဖြစ်၍ မစားပါနှင့်'ဟု ပြောဆို၏။ မိစ္ဆာဒိဋ္ဌိဘီလူးက သုံးကြိမ်တိုင်တိုင်စားမည်ပြုရာ သမ္မာဒိဋ္ဌိ ဘီလူးကလည်း သုံးကြိမ်တိုင်တိုင် တောင်းပန်တားမြစ်ခဲ့၏။

သို့ပါသော် မိစ္ဆာဒိဋ္ဌိဘီလူးသည် သမ္မာဒိဋ္ဌိဘီလူး ပြောဆိုသည်ကို နားမထောင်တော့ဘဲ စားအံ့ဟု ကလေးငယ်၏ခြေကိုလှမ်း၍ ဆွဲလိုက်ရာ ကလေးငယ်သည် လန့်ပြီး ကြွေအံပစ်စဉ်က ရွတ်ဆိုခဲ့သည့်အတိုင်း 'နမော ဗုဒ္ဓါယ'ဟုနှုတ်ကယောင်၍ရွတ်ဆိုလိုက်လေသည်။ ထိုသို့ 'နမောဗုဒ္ဓါယ'ဟု ရွတ်ဆိုသံကိုကြားလျှင်ပင် မိစ္ဆာဒိဋ္ဌိဘီလူးသည် ကြက်သီးမွေးညင်းထကာ ကလေးငယ်၏ခြေကို ပြန်၍လွှတ်ပေးလိုက်လေသည်။ နောက်သို့ဆုတ်၍ ရပ်နေရလေသည်။

'မြတ်စွာဘုရားရှင်၏ တန်ခိုးရှိန်စော်အာနုဘော်သည် ကြီးပေစွ၊ မဖြစ်ဖူးမြဲ ထူးပေစွ၊ အံ့သြဖွယ်လည်း ကောင်းပေစွ။ မိစ္ဆာဒိဋ္ဌိအယူကို ယူသူဖြစ်သော်လည်း 'နမောဗုဒ္ဓါယ' ဟု နှုတ်ကယောင်၍ ရွတ်ဆိုကာမျှဖြင့် ဘေးကင်းပါမှု အသက်ထက်ဆုံးဘုရားကို ကိုးကွယ်ဆည်းကပ်သော သူတို့အဖို့ အဘယ်မှာဆိုဖွယ်ရာ ရှိပါတော့မည်နည်း။

'ဥဒေါင်း၏အသံကို မြွေတို့ကြောက်သကဲ့သို့၊ ဘုရားဟူသော စကားသံကို ဘီလူးစသည့် အမနုဿတို့ ကြောက်ကြကုန်၏။ မန္တန်ရွတ်ဆိုသော အစွမ်းကြောင့် မြဲမြံသောအနှောင်အဖွဲ့တို့ ကျွတ်ရသကဲ့သို့၊ ဘုရား–ဟူသော စကားသံကြောင့် မြေဘုတ်ဘီလူးတို့ ပြေးကြကုန်၏။ ပျားဖယောင်းသည် မီးကိုမြင်၍ အရည်ပျော်ပျက်စီးရသကဲ့သို့ သရဏဂုံဆောက်တည်သူကိုမြင်၍ ပြိတ္တာတို့သည်လည်း ပျက်စီးမည်ကိုစိုးရွံ့သဖြင့် အဝေးသို့ပြေးကြကုန်၏။

'ဘုရား–ဟူသော အကြင်အက္ခရာနှစ်လုံးသည် မွန်မြတ်လှ၏။ အလုံးစုံသောဘေးဥပါဒ်ကို ပယ်ဖျက်နိုင်၏။ မြဲမြံခိုင်ခံ့သော တံတိုင်းနှင့်လည်း တူ၏။ ရတနာခုနစ်ပါးရှိသော ပြာသာဒ်နှင့်လည်း တူ၏။ ထိုအက္ခရာ နှစ်လုံးသည် ကျောက်လိုဏ်နှင့်လည်းတူ၏။ ရတနာမကိုဋ်နှင့်လည်း တူ၏။ ကြာပွင့်ပုံချယ် ပုလဲသွယ်နှင့်လည်းတူ၏။ ကူးခတ်ရာလှေနှင့်လည်း တူ၏။ မှီခိုရာကျွန်းနှင့်လည်း တူ၏။ တင့်တယ်မြဲမြံသော ချပ်ဝတ်တန်ဆာအင်္ကျီနှင့်လည်း တူ၏။ ထို့ကြောင့် ပညာရှိပုဂ္ဂိုလ်တို့က လောကသုံးပါး၏မျက်စိ သဖွယ်ဖြစ်သော မြတ်စွာဘုရားအားလည်းကောင်း၊ ထိုမြတ်စွာဘုရား၏ တရားတော်အား လည်းကာင်း၊ သံဃာတော်အရှင်မြတ်တို့အားလည်းကောင်း ကိုးကွယ်ဆည်းကပ်သင့်ပေသင့်ပေသည်ဟု မှာကြားခဲ့ကြ၏။

ထိုအခါ သမ္မာဒိဋ္ဌိဘီလူးက မိစ္ဆာဒိဋ္ဌိဘီလူးကို 'အို ဘီလူး၊ သင်ဟာ မသင့်လျော်သောအမှုကို ပြုတာပဲ၊ မြတ်စွာဘုရား၏ဂုဏ်ကို မရိုမသေပြုတာပဲ၊ သင့်ကို ဒဏ်ပေးရမယ်'ဟုဆို၏။ မိစ္ဆာဒိဋ္ဌိဘီလူးက 'သင်ပေးသော

ဒဏ်ကို ခံယူပါမည်’ဟု ဝန်ခံသောအခါ ‘သင်သည် ဤကလေးအတွက် စားစရာ ရှာပေးလိုက်ပါ’ဟု ဒဏ်ထားခဲ့၏။ မိစ္ဆာဒိဋ္ဌိဘီလူးက ‘ကောင်းပါပြီ’ဟုဆိုပြီး နန်းတော်တွင်းသို့ဝင်ရောက်၍ ဗိမ္ဗိသာရမင်းကြီး၏ စားတော်ရွှေခွက်နှင့်တကွ စားသောက်ဖွယ်တို့ကိုယူလာပြီး သူငယ်ကိုနှိုးကာ ကလေး၏ မိဘအသွင်ဖြင့် ကျွေးမွေးပြုစုခဲ့၏။ ထိုနောက် သူငယ်ရွတ်ဆိုသော ‘နမော ဗုဒ္ဓါယ’ဘုရားရှိခိုးကိုလည်းကောင်း၊ မိမိတို့၏အဖြစ်သနစ်ကိုလည်းကောင်း ရွှေခွက်၌ရေးထားခဲ့ပြီး ‘ဤအက္ခရာအရေးအသားတို့ကို မင်းကြီးတစ်ဦးတည်း ကြည့်၍မြင်ပါစေ’ဟု အဓိဋ္ဌာန်ပြု၍ သူငယ်အနားတွင်ချထားခဲ့၏။ အလုံးစုံပြည့်စုံသော် ဘီလူးနှစ်ကောင်သည် ထိုနေရာမှခွာသွားကြ၏။

နောက်တစ်နေ့နံနက်လင်းသော် နန်းတွင်း၌ မင်းကြီး၏စားတော်ရွှေခွက်ပျောက်ဆုံးသော အမှုဖြစ်ပေါ်လေသည်။ မင်းမှုထမ်းတို့သည် တစ်မြို့လုံးနေရာအနှံ့ လိုက်ရှာကြရာ နောက်ဆုံး မြို့တံခါးပြင် လှည်းထက်၌ ထိုစားတော်ရွှေခွက်ကို တွေ့ကြလေသည်။ ထိုအခါ ရွှေခွက်နှင့်တကွ သူငယ်ကိုဖမ်းပြီး ဘုရင့်ထံသွင်းကြသည်။ မင်းကြီးထံရောက်ရှိသောအခါ မင်းကြီးသည် မိစ္ဆာဒိဋ္ဌိဘီလူးအဓိဋ္ဌာန်ထား၍ရေးသားခဲ့သော ရွှေခွက်ပေါ်ရှိ ကမ္ပည်းစာများကိုဖတ်ရှုပြီး ထိုသူငယ်၏ဂုဏ်ကို ကြည်ညိုလှ၍ အပြစ်မယူတော့ဘဲ စည်းစိမ်ဥစ္စာတို့ကိုပင် အပ်နှင်းခဲ့လေသည်။

ဤအယူလွဲမှားသော မိစ္ဆာဒိဋ္ဌိကလေးငယ်ဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က ‘ဤသို့ မြတ်စွာဘုရား၏ဂုဏ်တော်ကို အိပ်ပျော်နေစဉ် ယောင်၍ရွတ်ဆိုကာမျှ ကြောက်စရာကောင်းသော ဘီးလူး၏ဘေးမှကင်းဝေးခဲ့ရ၏။ ထို့ကြောင့် မြတ်စွာဘုရား၏ဂုဏ်တော်တို့ကို အစဉ်အမြဲ အောက်မေ့သတိရကြပါကုန်လော့’ဟု တိုက်တွန်းထားလေသည်။



## ဗုဒ္ဓ၏ခြေဆေးအင်းပျဉ်တော်တန်ခိုး

---

[၂၃။ ပါဒပိဋ္ဌိကာဝတ္ထု]

ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံအတွင်း ဗုဒ္ဓပွင့်တော်မူသော မဟာဗောဓိပင် တည်ရာအရပ်မှ တောင်ဘက်၌ ပစ္စန္တရစ်မြို့လေးတစ်မြို့၌ ရတနာသုံးပါးကိုကြည်ညို၍ သဒ္ဓါတရားနှင့်ပြည့်စုံသော ဥပါသကာတစ်ဦး နေထိုင်ခဲ့လေသည်။

တစ်နေ့သော် ထိုပစ္စန္တရစ်မြို့လေးသို့ ရဟန္တာအရှင်မြတ်တစ်ပါး ကြွရောက်တော်မူခဲ့ပြီး ထိုအရှင်မြတ်နှင့်အတူ မြတ်စွာဘုရားရှင်သုံးဆောင်တော်မူသော အသုံးအဆောင်ပရိဘောဂတစ်ခုလည်းပါလာခဲ့၏။ ထိုအသုံးအဆောင်ကား မြတ်စွာဘုရားခြေဆေးသောအခါ၌အသုံးပြုသော ခြေပွတ်သစ်သားလေးထောင့်အင်းပျဉ်ခုံဖြစ်သည်။ ထိုရဟန္တာအရှင်မြတ်သည် မြတ်စွာဘုရားရှင်၏ခြေဆေးအင်းပျဉ်ခုံကို အိတ်တစ်အိတ်တွင်ထည့်ပြီး မိမိသွားရာ အရပ်တိုင်းသို့ အတူဆောင်ယူသွားပြီး အစဉ်ပူဇော်၍ နေတော်မူခဲ့သည်။

ထိုအရှင်မြတ်သည် ပစ္စန္တရစ်မြို့လေးသို့ ရောက်သည်ရှိသော် ဆွမ်းခံရန် အချိန်ဖြစ်၍ သင်ပိုင်းကိုယ်ဝတ်ကို ပြင်ဆင်ဝတ်ရုံပြီး သပိတ်ကို ယူ၍ ထမ်းပိုးတစ်ပြန်မျှကြည့်ကာ ရဟန်းတို့၏တင့်တယ်ခြင်းဖြင့် မြို့အတွင်းသို့ ဆွမ်းခံထွက်တော်မူခဲ့သည်။ ထိုသို့ဆွမ်းခံလှည့်လာသော ရဟန္တာအရှင်မြတ်ကိုပစ္စန္တရစ်ရွာနေ သဒ္ဓါတရားနှင့်ပြည့်စုံသော ဥပါသကာ ဖူးတွေ့ရသောအခါ ကြည်ညိုစိတ်တဖွားဖွားဖြစ်ပေါ်လာ၍ ရဟန္တာအရှင်မြတ်ထံပါးသို့ ရိုသေစွာချဉ်းကပ်ပြီး တည်ခြင်းငါးပါးဖြင့် ရှိခိုးပြီးလျှင်

သပိတ်ကိုယူ၍ ဆွမ်းလုပ်ကျွေးခဲ့၏။ အရှင်မြတ်အား 'အကျွန်ုပ် ၏အိမ်သို့ အစဉ်ကြွတော်မူပါဘုရား'ဟုလည်း ပင့်ဖိတ်ခဲ့သည်။

ထိုဥပါသကာသည် ရဟန္တာအရှင်မြတ်ကို ကြည်ညိုလှသောကြောင့် ဤမြို့မှာပင် အမြဲသီတင်းသုံးတော်မူပါဟု ပန်ကြားလျှောက်ထားခဲ့ပြန်၏။ မြို့၏အနီး မွေ့လျော်ဖွယ်ရှိသော တောအုပ်မြစ်ကမ်းအရပ်၌ သစ်ရွက်မိုးသောသခ်မ်းကျောင်းကလေးတစ်ကျောင်းကို ဆောက်လုပ်၍ အရှင်မြတ်အား လှူဒါန်းခဲ့လေသည်။ ရဟန္တာမထေရ်မြတ်သည် ထိုမွေ့လျော်ဖွယ်ကောင်းလှသော ကျောင်းသခ်မ်း၌ သီတင်းသုံးတော်မူပြီး ထိုသခ်မ်းကျောင်းပရဝုဏ်အတွင်း၌ မြတ်စွာဘုရားရှင်သုံးဆောင်တော်မူခဲ့သော ခြေဆေးအင်းပျဉ်ဓာတ်မြတ်ကို ဌာပနာ၍ သဲပုံစေတီတော်တစ်ဆူကို တည်ထားခဲ့၏။ ထိုစေတီတော်ကို နေ့ညမပြတ် နံ့သာဆီမီးပန်းမန်တို့ဖြင့် ပူဇော်နေတော်မူခဲ့သည်။

ထိုတောရကျောင်းသခ်မ်းဒါယကာနှင့် တစ်မြို့တည်းနေ အိမ်နီးချင်း မိတ်ဆွေသည် နတ်ကိုဆည်းကပ်သူဖြစ်ရာ ယင်းတို့ဘာသာအလျောက် နတ်မင်းကို နေ့စဉ်ရှိခိုးပူဇော်လေ့ရှိသည်။ ကျောင်းဒါယကာဥပါသကာက အိမ်နီးချင်းမိတ်ဆွေ၏ အကျိုးကိုလိုလားသူဖြစ်သည့်အတိုင်း ထိုမိတ်ဆွေထံချဉ်းကပ်ပြီး 'အဆွေ၊ ကောင်းမှုကုသိုလ်စိုက်ပျိုးရန် လယ်ယာမြေကောင်းမဟုတ်တဲ့နေရာမှာ ဖွဲကောင်းမနေပါနဲ့၊ သင့်ရဲ့အားထုတ်မှုဟာ လွဲနေပါတယ်'ဟု မေတ္တာဖြင့် ပြောကြားလေသည်။ နတ်ကိုးကွယ်သူကလည်း မိမိ၏နတ်ကို အပြစ်ပြောသည်ဟု 'သင်ရဲ့ဘုရားကကော ဘယ်လောက်တန်ခိုးကြီးလို့လဲ၊ ငါ့ရဲ့နတ်က ကြောက်မက်ဖွယ်ကောင်းလောက်အောင် တန်ခိုးကြီးပေးတယ်'ဟု ပြန်ပြောလေသည်။ ထိုမိစ္ဆာဒိဋ္ဌိပုဂ္ဂိုလ်က မိမိကိုးကွယ်သောနတ်ကို အမွှန်းတင်ပြီး–

'ထိုမဟေသရနတ်မင်း၏နဖူးပြင်၌ တည်ရှိသောမျက်စိဖြင့် နတ်ပြည်ကို ဖျက်ဆီးနိုင်၏။ စွဲကိုင်ထားသော တံကျင်သုံးချောင်းဖြင့် အသုရာ

ပြည်ကိုလည်း ဖျက်ဆီးနိုင်၏။ ထိုတံကျင်သုံးချောင်း စွဲကိုင်ထားသော မဟောသရနတ်မင်း၏ လည်ပင်း၌ ဆံကျစ်ကိုပတ်ထားပြီး ညနေဆည်းဆာတွင် စောင်းကိုတီးခတ် သီချင်းသီဆိုပြီး က,ခုန်လေ့ရှိ၏။ ဂါထာမန္တန်စသည်ကိုလည်း သီဆိုကျူးရင့်၏။

'ထိုမဟောသရနတ်မင်း၌မယားသုံးယောက်ရှိ၏။ မယားတစ်ယောက်ကို ဆံကျစ်၌ထား၏။ မယားတစ်ယောက်ကို နံပါးတစ်ဖက်၌ထား၏။ ကျန်မယားတစ်ယောက်ကိုမူကား ခြေထောက်၌ထား၏။

'ထိုမဟောသရနတ်မင်းသည် ဆင်သေကောင်၏အရေကို ဝတ်ဆင်ထားပြီး နေ၏အပူဒဏ်ကိုလည်းခံနိုင်၏။ အဆင်အသွေးအားဖြင့်လည်း ထူးခြားထင်ရှား၏။ ထိုမဟောသရနတ်မင်းသည် ပျားရည်အဖျော်ယမကာကို နှစ်ခြိုက်၏။ လူ၏အရိုးကိုဆောင်၏။ လူ၏ဦးခေါင်းခွံဖြင့် အစာကိုထည့်စားလေ့ရှိ၏။

'ထိုမဟောသရနတ်မင်း၌ မွေးဖွားခြင်းဇာတိ သေခြင်းမရဏစသည် မရှိ။ အစဉ်တည်မြဲပေ၏။ ဤသို့သောဂုဏ်မျိုးသည် ထိုမဟောသရနတ်မင်းမှတစ်ပါး အခြားသောပုဂ္ဂိုလ်၌ ရှိမည်မထင်'စသည်ဖြင့် ချီးကျူးပြောလေသည်။

ထိုမိစ္ဆာဒိဋ္ဌိမိတ်ဆွေ၏စကားကို ကြားရသောအခါ ဗုဒ္ဓဥပါသကာက မြတ်စွာဘုရားရှင်၏ဂုဏ်ကို ပြောကြားပြန်သည်မှာ–

'လောက၌ မဟာသမုဒ္ဒရာသည် အားလုံးသောမြစ်တို့၏ပေါင်းစုတည်ရာ ဖြစ်သကဲ့သို့ မြတ်စွာဘုရားသည်လည်း ဂုဏ်အပေါင်းတို့၏စုဝေးတည်ရာဖြစ်ပါသည်။ ဤမဟာပထဝီမြေကြီးသည် ခပ်သိမ်းသောသတ္တဝါတို့၏ထောက်တည်ရာဖြစ်သကဲ့သို့ မြတ်စွာဘုရားသည်လည်း ဂုဏ်အပေါင်းတို့၏ထောက်တည်ရာ ဖြစ်ပါသည်။

'သူတော်ကောင်းတို့ ချီးမွမ်းသည့် ပညာဆိုသည်မှာ ဤသို့ဖြစ်၏။ သူတော်ကောင်းတို့၏ချီးမွမ်းသည့် ကရုဏာဆိုသည်မှာ ဤသို့ဖြစ်၏။

မြတ်စွာဘုရား၏တန်ခိုးတော်ဆိုသည်မှာ ဤသို့ဖြစ်၏–ဟူ၍ ဘုရားတစ်ဆူသည် အခြားဘုရားတစ်ဆူ၏ကျေးဇူးဂုဏ်တို့ကို တစ်ကမ္ဘာကာလပတ်လုံး ပြောဆိုလှစ်ဟချီးပသော်လည်း ကုန်နိုင်ဖွယ်ရာမရှိ၊ ကုန်ဆုံးခြင်းသို့ ရောက်နိုင်လိမ့်မည် မဟုတ်။ နတ်ဗြဟ္မာအသူရာစသောသူတို့မှုကား အဘယ်မှာ ဆိုဖွယ်ရာရှိပါတော့မည်နည်း'ဟူ၍ ဖြစ်သည်။

ဤသို့ဖြင့် အယူအဆမတူသော အိမ်နီးချင်းမိတ်ဆွေနှစ်ယောက်သည် မိမိတို့ ယုံကြည်ကိုးကွယ်ဆည်းကပ်ရာကို တန်ခိုးကြီးသည် သာလွန်သည်ဟုပြောဆိုကြရင်း တင်းတင်းမာမာပြောဆိုငြင်းခုံခြင်းသို့ ရောက်ခဲ့ကြလေသည်။ ထိုသူနှစ်ဦး၏အကြား၌ မည်သူကမျှ ဝင်ရောက်၍ အဆုံးအဖြတ်ပေးနိုင်စွမ်းမရှိသည့်အလျောက် နောက်ဆုံး ဘုရင်မင်းထံ အဆုံးအဖြတ်ခံရန်ရောက်ရှိသွားကြသည်။ ဘုရင်မင်းကလည်း ထိုသူနှစ်ယောက်၏စကားကို ကြားနာပြီး 'သင်တို့ ငြင်းခုံမနေကြနဲ့၊ တန်ခိုးပြာဋိဟာပြခြင်းဖြင့် ဆုံးဖြတ်ပေးမယ်။ အမှန်တကယ် တန်ခိုးကြီးသည်ဖြစ်ပါက ယုံကြည်လောက်အောင် ထူးထူးဆန်းဆန်းအံ့ဖွယ်ဘနန်းဖြစ်အောင် လက်တွေ့တန်ခိုးပြသနိုင်ရမယ်'ဟုဆိုကာ တန်ခိုးပြကြရန် ခုနစ်ရက် အချိန်ပေးလိုက်သည်။

ခုနစ်ရက်ပြည့်သောနေ့တွင် မြို့သူမြို့သားအပေါင်းတို့သည် တန်ခိုးပြိုင်ရာနေရာသို့ တခဲနက်စုဝေးရောက်ရှိလာကြသည်။ မင်းကြီးလည်း ဆင်စီးပြီး ထိုပြိုင်ပွဲကျင်းပရာဌာနသို့ ဆိုက်ရောက်လာခဲ့၏။ မင်းညီပရိသတ်စုံလင်သောအခါ မင်းကြီးက 'သင်တို့ရဲ့ ကိုးကွယ်ရာတို့ တန်ခိုးပြရန် အချိန်တန်ပြီ၊ ခင်းကျင်းပြသကြလော့'ဟု မိန့်ကြားလေသည်။

ထိုအခါ သမ္မာဒိဋ္ဌိအယူရှိသော ဗုဒ္ဓဘာသာဝင်တို့က ဘုရားရှင်၏ ခြေဆေးအင်းပျဉ်ဓာတ်တော်ကိုဌာပနာ၍ တည်ထားသော သဲပုံစေတီကို ရည်မှန်း၍ လက်အုပ်ချီမိုးရှိခိုးကြကာ 'ငါတို့အားကိုးရာ မြတ်စွာဘုရားရှင်သည် မဟာပရိနိဗ္ဗာန်ဝင်စံတော်မူခဲ့လေပြီ၊ အရှင်မောဂ္ဂလ္လာန် အရှင်သာရိပုတ္တရာတို့သည်လည်း ပရိနိဗ္ဗာန်ဝင်စံတော်မူခဲ့ပြီဖြစ်၍ ဤနေရာ၌ ငါတို့

အဖို့အားကိုးရာဟူ၍သစ္စာတရားသာရှိပေ၏။ သို့ပါ၍ ငါတို့သည် မှန်သော သစ္စာကိုဆိုကြအံ့'ဟု အောက်ပါအတိုင်းသစ္စာစကားဆို၍ အမိဋ္ဌာန်ပြုကြလေသည်။

၁။ အာပါဏကောဋိ ဗုဒ္ဓဿ၊ သရဏံ နော ဂတာ ယဒိ။
တေနသစ္စေနယံမာတု၊ ဒသေတု ပါဋိဟာရိယံ။

အကျွန်ုပ်တို့သည် အသက်ထက်ဆုံးမြတ်စွာဘုရားအား ကိုးကွယ်ရာဟူ၍ ဆည်းကပ်ကြပါကုန်၏။ ထိုမှန်ကန်သောသစ္စာစကားကြောင့် အမှန်မလွဲ ဤမြတ်စွာဘုရားရှင်၏ခြေဆေးတော်အင်းပျဉ်မာတ်မြတ်သည် တန်ခိုးပြာဋိဟာကို ပြတော်မူပါစေသတည်း။

၂။ အာပါဏကောဋိ ဓမ္မဿ၊ သရဏံ နော ဂတာ ယဒိ။
တေနသစ္စေနယံမာတု၊ ဒသေတု ပါဋိဟာရိယံ။

အကျွန်ုပ်တို့သည် အသက်ထက်ဆုံးတရားတော်အား ကိုးကွယ်ရာဟူ၍ ဆည်းကပ်ကြပါကုန်၏။ ထိုမှန်ကန်သောသစ္စာစကားကြောင့် အမှန်မလွဲ ဤမြတ်စွာဘုရားရှင်၏ခြေဆေးတော်အင်းပျဉ်မာတ်မြတ်သည် တန်ခိုးပြာဋိဟာကို ပြတော်မူပါစေသတည်း။

၂။ အာပါဏကောဋိ သံဃဿ၊ သရဏံ နော ဂတာ ယဒိ။
တေနသစ္စေနယံမာတု၊ ဒသေတု ပါဋိဟာရိယံ။

အကျွန်ုပ်တို့သည် အသက်ထက်ဆုံး အရိယာရှစ်ဖော်သံဃာတော်တို့အား ကိုးကွယ်ရာဟူ၍ ဆည်းကပ်ကြပါကုန်၏။ ထိုမှန်ကန်သောသစ္စာစကားကြောင့် အမှန်မလွဲ ဤမြတ်စွာဘုရားရှင်၏ခြေဆေးတော်အင်းပျဉ်မာတ်မြတ်သည် တန်ခိုးပြာဋိဟာကို ပြတော်မူပါစေသတည်း။

၄။ ရာမကာလေ မုနိန္ဒဿ၊ ပါဒုကာစာသိ အဗ္ဘုတာ။
တေနသစ္စေန ယံမာတု၊ ဒသေတု ပါဋိဟာရိယံ။

မြတ်စွာဘုရားသည် ဒသရထမင်း၏သား ရာမမင်းသားဖြစ်တော်မူစဉ်အခါက မြက်ခြေနင်းအစုံသည် အချင်းချင်းထ,ခွပ်သဖြင့်

အံ့ဖွယ်သရဲဖြစ်ခဲ့ဖူးပါသည်။ ထိုမှန်ကန်သောသစ္စာစကားကြောင့် အမှန်မလွဲ ဤမြတ်စွာဘုရားရှင်၏ ခြေဆေးတော်အင်းပျဉ်ခာတ်မြတ်သည် တန်ခိုးပြာဋိဟာကို ပြတော်မူပါစေသတည်း။

၅။ ဆဒ္ဒန္တကာလေ မုနိနော၊ ဒါဌာဆရံသိရဋ္ဌိတာ။
တေနသစ္စေနယံဓာတု၊ ဒဿေတု ပါဋိဟာရိယံ။

မြတ်စွာဘုရားရှင်သည် ဆဒ္ဒန်ဆင်မင်းဖြစ်တော်မူစဉ်အခါက စွယ်တော်စုံမှ ခြောက်ပါးသောအရောင်တို့ဖြင့် ထွန်းပနေပေ၏။ ထိုမှန်ကန်သောသစ္စာစကားကြောင့် အမှန်မလွဲ ဤမြတ်စွာဘုရားရှင်၏ခြေဆေးတော်အင်းပျဉ်ခာတ်မြတ်သည် တန်ခိုးပြာဋိဟာကို ပြတော်မူပါစေသတည်း။

၆။ ဇာတမတ္တော တဒါ ဗုဒ္ဓေါ၊ ဌိတော ပက်ဇမုဒ္ဓနိ။
နိစ္ဆာရေယာသဘိ'ဝါစံ၊ အဂ္ဂေါသေဋ္ဌောတိအာဒိနာ။
တေနသစ္စေနယံဓာတု၊ ဒဿေတု ပါဋိဟာရိယံ။

မြတ်စွာဘုရားရှင်သည် ဖွားတော်မူစအခါကပင် ပဒုမာကြာထက်၌ ရပ်လျက် 'အဂ္ဂေါဟမသ္မိ လောကဿ၊ ဇေဋ္ဌောဟမသ္မိ လောကဿ၊ သေဋ္ဌောဟမသ္မိလောကဿ အယမန္တိမာဇာတိ၊ နတ္ထိဒါနိပုနဗ္ဘဝေါ= ငါသည် အဦးအဖျားဆုံး၊ ငါသည် အကြီးဆုံး၊ ငါသည် အမြတ်ဆုံး- ငါသည် မွေးဖွားခြင်းဇာတိမရှိတော့ပြီ၊ ငါသည် ဘဝတစ်ဖန်ပြန်၍ မဖြစ်တော့ပြီ'ဟု မကြောက်မရွံ့ ရဲဝံ့တောက်ကြွား အာသဘိဝါစာစကားကို ကျူးရင့်တော်မူခဲ့၏။ ထိုမှန်ကန်သောသစ္စာစကားကြောင့် အမှန်မလွဲ ဤမြတ်စွာဘုရားရှင်၏ ခြေဆေးတော်အင်းပျဉ်ခာတ်မြတ်သည် တန်ခိုးပြာဋိဟာကို ပြတော်မူပါစေသတည်း။

၇။ နိမိတ္တေစတုရောဒိသွာ၊ နိက္ခန္တောအဘိနိက္ခမံ။
တေနသစ္စေန ယံဓာတု၊ ဒဿေတုပါဋိဟာရိယံ။

မြတ်စွာဘုရားရှင်သည် သူအို-သူနာ-သူသေ-ရဟန်း-ဟု လေးမျိုးနိမိတ်တို့ကို မြင်တော်မူသဖြင့် ထီးနန်းစွန့်ခွာ မြတ်သောတောထွက်

ခြင်းဖြင့် ထွက်တော်မူခဲ့၏။ ထိုမှန်ကန်သော သစ္စာစကားကြောင့် အမှန်မလွဲ ဤမြတ်စွာဘုရားရှင်၏ ခြေဆေးတော် အင်းပျဉ်ခာတ်မြတ်သည် တန်ခိုးပြာဋိဟာကို ပြတော်မူပါစေသတည်း။

၈။ မာရသေနံ ပလာပေတွာ၊ နိသိန္နော ဗုဒ္ဓိ ဗောဓိယံ။
တေနသစ္စေနယံခာတု၊ ဒဿေတု ပါဋိဟာရိယံ။

မြတ်စွာဘုရားရှင်သည် မဟာဗောဓိပင်၌ ထက်ဝယ်ဖွဲ့ခွေထိုင်တော်မူလျက် မာရ်နတ်စစ်သည်တို့ကိုပြေးစေ၍ သစ္စာလေးပါး မြတ်တရားကို သိတော်မူခဲ့ပြီ။ ထိုမှန်ကန်သော သစ္စာစကားကြောင့် အမှန်မလွဲ ဤမြတ်စွာဘုရားရှင်၏ ခြေဆေးတော် အင်းပျဉ်ခာတ်မြတ်သည် တန်ခိုးပြာဋိဟာကို ပြတော်မူပါစေသတည်း။

၉။ ဓမ္မစက္ကံ ပဝတ္တေသိ၊ ဣသိနောသိပတနေ တဒါ။
တေနသစ္စေနယံခာတု၊ ဒဿေတု ပါဋိဟာရိယံ။

ထိုအခါကာလ၌ မြတ်စွာဘုရားရှင်သည် ဣသိပတနမည် ရဂုံသာမောမိဂဒါဝုန်တော၌ ဓမ္မစကြာတရားတော်ကိုစတင်ဟောကြား၍ တရားစက်ကိုလည်စေတော်မူခဲ့ပြီ။ ထိုမှန်ကန်သောသစ္စာစကားကြောင့် အမှန်မလွဲ ဤမြတ်စွာဘုရားရှင်၏ ခြေဆေးတော်အင်းပျဉ်ခာတ်မြတ်သည် တန်ခိုးပြာဋိဟာကို ပြတော်မူပါစေသတည်း။

၁၀။ နန္ဒောပနန္ဒဘောဂိန္ဒံ၊ နာဂံ နာဠာဂိရိဝှယံ။
အာဠဝကာဒယော ယက္ခေ၊ ဗြဟ္မာနောစ ဗကာဒယော။

နန္ဒောပနန္ဒမည်သော နဂါးမင်းကြီးကိုလည်းကောင်း၊ နာဠာဂိရိမည်သော ဆင်ကိုလည်းကောင်း၊ အာဠာဝကအစရှိကုန်သော ဘီလူးတို့ကိုလည်းကောင်း၊ ဗကအစရှိကုန်သောဗြဟ္မာတို့ကိုလည်းကောင်း။

၁၁။ သစ္စကာဒိနိဂဏ္ဌေစ၊ ကူဋဒန္တာဒယော ဒွိဇေ။
ဒမေသိ တေနသစ္စေန၊ ဒဿေတု ပါဋိဟာရိယံ။

သစ္စကအစရှိကုန်သော တက္ကဒွန်းနိဂဏ္ဌာတို့ကိုလည်းကောင်း၊ ကူဋဒန္တ အစရှိကုန်သော ပုဏ္ဏားတို့ကိုလည်းကောင်း၊ ဆုံးမတော်မူခဲ့ပြီ။

ထိုမှန်ကန်သော သစ္စာစကားကြောင့် အမှန်မလွဲ ဤမြတ်စွာဘုရားရှင်၏ ခြေ ဆေးတော်အင်းပျဉ်ခာတ်မြတ်သည် တန်ခိုးပြာဋိဟာကို ပြတော်မူပါစေ သတည်း။

ဤသို့လျှင် ဥပါသကာတို့၏သစ္စာအဓိဋ္ဌာန်စကားအဆုံး၌ သဲပုံ စေတီကို နှစ်ခြမ်းခွဲ၍ အတွင်း၌ဌာပနာအပ်သော အင်းပျဉ်ခာတ်တော်သည် ကောင်းကင်ယံထက် ပျံတက်ပြီးလျှင် ခြောက်ပါးသောရောင်လျှံတော်တို့ ဖြင့် တလက်လက်တောက်ပခဲ့လေသည်။

ထိုအခါ ပရိသတ်အပေါင်းသည် အံ့အားသင့်ဝမ်းမြောက်ကြကာ ကိုယ်ရုံပုဆိုးတို့ကို အထက်သို့ မြှောက်ပစ်၍ မြူးထူးပျော်ရွှင်ကစားကြ ကုန်၏။ အင်းပျဉ်ခာတ်တော်ကိုလည်း ကြီးကြီးကျယ်ကျယ်ပူဇော်ကြ၏။ မိစ္ဆာဒိဋ္ဌိအယူရှိကြကုန်သော သူတို့သည်လည်း ထိုအံ့ဩဖွယ်မြင်ကွင်း ကြောင့် သာသနာတော်၌ သက်ဝင်ကြပြီးလျှင် ရတနာသုံးပါးကို ကိုးကွယ် ဆည်းကပ်ခဲ့ကြပါသည်။

ဤမြတ်စွာဘုရား၏ ခြေဆေးအင်းပျဉ်တော်ဝတ္ထုကို အကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'မြတ်စွာဘုရား၏ခြေနှင့်ထိတွေ့ပွတ်တိုက်ခဲ့သော ထိုခြေပွတ်သစ်သားအင်းပျဉ်သော်မှ ဤမျှတန်ခိုးအာနုဘော်ကြီးမားခဲ့သည် ရှိသော် လောက၌ တုဖက်မရှိ တစ်ဆူတည်းကိုးကွယ်ရာဖြစ်တော်မူသော မြတ်စွာဘုရား၏ကြီးမားလှသည့် အာနုဘော်တော်တို့သည်ကား ကြံစည်၍ မရနိုင်လောက်အောင် အစိန္တေယျဂုဏ်နှင့်ပြည့်စုံတော့သည်သာ' ဟု ရေးဖွဲ့ ခဲ့ကြကုန်၏။



# ကြောက်ဖွယ်ကောင်းသောအတိတ်ကံကြွေး

[၂၄။ ဉတ္တရသာမဏေရဝတ္ထု]

သုမေဓာမြတ်စွာဘုရားပွင့်တော်မူစဉ်အခါက ဉတ္တရသာမဏေလောင်းသည် ဝိဇ္ဇာဓိုရ်ဖြစ်၍ ဟိမဝန္တာ၌နေခဲ့၏။ ထိုစဉ်အခါ သုမေဓာမြတ်စွာဘုရားရှင်သည် နှလုံးမွေ့လျော်ဖွယ်ကောင်းသော ဟိမဝန္တာအရပ်သို့ ကြွရောက်သီတင်းသုံးနေတော်မူခဲ့၏။ ဉတ္တရသာမဏေလောင်း ဝိဇ္ဇာဓိုရ်သည်လည်း မိမိနေရာဟိမဝန္တာသို့ ထက်ကောင်းကင်ယံမှ ပြန်အလာ ရောင်ခြည်တော်ခြောက်သွယ် တင့်တယ်သောအသရေဖြင့် သီတင်းသုံးနေတော်မူသော သုမေဓာမြတ်စွာဘုရားကိုဖူးတွေ့ရသောအခါ ကောင်းကင်ယံမှသက်ဆင်း၍ မဟာလှေခါးပန်းသုံးပွင့်တို့ဖြင့် ပူဇော်ခဲ့လေသည်။ ထိုမဟာလှေခါးပန်းသုံးပွင့်သည် မြတ်စွာဘုရား၏အာနုဘော်တော်ကြောင့် မြတ်စွာဘုရား၏အထက်၌ ထီးသဖွယ်တည်နေကြကုန်၏။ ထိုကုသိုလ်ကောင်းမှုကြောင့် ဉတ္တရသာမဏေလောင်းဝိဇ္ဇာဓိုရ်သည် ထိုဘဝမှလွန်သော် နတ်ပြည်,လူ့ပြည်တို့၌ အဖန်ဖန်ကျင်လည်ခဲ့ပြီး ဂေါတမမြတ်စွာ လက်ထက်တော်အခါ၌ ရာဇဂြိုဟ်ပြည် မဟာသာလပုဏ္ဏားသူဌေးကြီး၏သား ဖြစ်ခဲ့လေသည်။

မဟာသာလပုဏ္ဏားသူဌေးကြီးသည် မိမိ၏သားကို ဉတ္တရဟုအမည်ပေးခဲ့၏။ ဉတ္တရလုလင်ငယ်သည် အရွယ်ရောက်သော် ပုဏ္ဏားတို့တတ်အပ်သော အတတ်ပညာတို့ကို ကောင်းစွာသင်ယူတတ်မြောက်ခဲ့၏။ ထိုဉတ္တရလုလင်သည် ဇာတ်အားဖြင့်လည်းကောင်း၊ အတတ်ပညာအားဖြင့်လည်းကောင်း အခြားသောပုဏ္ဏားများထက် မြင့်မြတ်သာလွန်သောကြောင့် ချစ်ခင်ရင်းနှီးကျွမ်းဝင်လိုသူ ပေါများခဲ့လေသည်။

ထိုအချိန်တွင် ရာဇဂြိုဟ်ပြည်၌ ဝဿကာရအမည်ရှိသောပုဏ္ဏား အမတ်ချုပ်ကြီးတစ်ဦးရှိခဲ့၏။ ထိုပုဏ္ဏားအမတ်ချုပ်ကြီး၌ သမီးပျိုကလေး တစ်ဦးရှိလေရာ အမတ်ကြီးသည် မိမိ၏သမီးပျိုကို ဥတ္တရပုဏ္ဏားလုလင်နှင့် လက်ဆက်လို၍ ဥတ္တရလုလင်၏ဖခင် မဟာသာလပုဏ္ဏားသူဌေးကြီး ထံသို့ လက်ဆောင်ပဏ္ဏာတို့ဖြင့်ကမ်းလှမ်းခဲ့၏။ ဥတ္တရလုလင်ပုဏ္ဏားက အိမ်ထောင်ပြုရန် စက်ဆုပ်ငြီးငွေ့သဖြင့် လက်မခံဘဲငြင်းပယ် လိုက်လေသည်။ ဝဿကာရပုဏ္ဏားအမတ်ကြီးသည် မိမိကဲ့သို့သောပုဂ္ဂိုလ်၏ သမီး ကိုလက်မခံဘဲ ငြင်းပယ်ခဲ့သည့် ဥတ္တရလုလင်ကို ထိုအခါမှစ၍ ရန်ငြိုးဖွဲ့ လေတော့သည်။

ဥတ္တရလုလင်သည် ဓမ္မသေနာပတိအရှင်သာရိပုတ္တရာထံသို့သွား၍ တရားနာယူခဲ့ပြီး မကြာမြင့်မီမှာပင် သဒ္ဓါတရားထက်သန်လှသဖြင့် ရှင် သာမဏေပြုခဲ့သည်။ တစ်နေ့သောအခါ အရှင်သာရိပုတ္တရာမထေရ်မြတ် သည် အနာရောဂါဖြစ်တော်မူရာ ဥတ္တရသာမဏေသည် မိမိ၏ဥပဇ္ဈာယ် အတွက် ဆေးရှာဖွေရန် နံနက်စောစောကပင် သပိတ်သင်္ကန်းကိုယူပြီး ကျောင်းမှထွက်ခွာခဲ့သည်။ မြို့သို့မရောက်မီ လမ်းခရီးအကြား ရေကန် တစ်ကန်သို့ရောက်သော် ကန်စပ်တစ်နေရာတွင် သပိတ်ကိုထားပြီး ရေစပ် သို့ဆင်းသွားကာ ကိုယ်လက်သန့်စင်တော်မူခဲ့သည်။

ထိုအခါ သူခိုးတစ်ဦးသည်လည်း ပစ္စည်းခိုးနေစဉ် လူအများဝိုင်း လာသဖြင့် ခြေဦးတည့်ရာပြေးလွှားရင်း ရှင်သာမဏေမျက်နှာသစ်နေသည့် ရေကန်အနီးသို့ရောက်ရှိလာလေ၏။ ထိုသူခိုးသည် ဥတ္တရရှင်သာမဏေ တည်ထားသော သပိတ်ကိုမြင်လျှင် မိမိခိုးယူလာသည့် ပစ္စည်းကို သပိတ် တွင်းကို အမြန်ထည့်ခဲ့ပြီး လက်လွတ်ပြေးလေတော့သည်။ မင်းမှုထမ်းတို့ လည်း ရေကန်သို့ ရောက်ရှိလာသောအခါ သူခိုးခြေရာပျောက်သွားသဖြင့် ထိုအနီးအနား၌ရှာကြရာ ရှင်သာမဏေ၏သပိတ်တွင်းမှ အခိုးခံရသော ပစ္စည်းကို ပြန်၍ရရှိခဲ့ကြ၏။ ထိုအခါ သပိတ်ရှင်သာမဏေကို ခိုးသူဟု

စွပ်စွဲပြီး ချုပ်နှောင်သွားကြလေသည်။ ဝေဿကာရပုဏ္ဏား အမတ်ချုပ်ကြီး၏ရုံးသို့ စစ်ဆေးရန် ပို့ဆောင်ခဲ့ကြ၏။

ဝေဿကာရပုဏ္ဏား အမတ်ချုပ်ကြီးသည် ဥတ္တရသာမဏေ အပေါ်၌ မိမိ၏သမီးကိုငြင်းပယ်ပြီး ရှင်သာမဏေပြုခဲ့သည့်အတွက် အငြိုးအတေးကြီးစွာရှိလေရာ သူခိုးအမှတ်နှင့် ဖမ်းလာသည်ကို မြင်ရသောအခါ မိမိကလဲ့စားချေရန် အခွင့်ပေါ်ပြီဟု ဝမ်းမြောက်ဝမ်းသာဖြစ်နေတော့သည်။ ဝေဿကာရပုဏ္ဏားအမတ်ကြီးသည် အမှုဖြစ်ပျက်ပုံကို မစစ်ဆေးတော့ဘဲ ဥတ္တရသာမဏေကို 'တံကျင်ထိုး၍ လျှိုထားကြ'ဟု အမိန့်ပေးလိုက်လေသည်။ မင်းမှုထမ်းတို့လည်း အမတ်ကြီး၏အမိန့်အတိုင်း သာမဏေကို အရှင်လတ်လတ် တမာသားနှင့်တံကျင်လျှိုကာ ထားကြ၏။ ဥတ္တရသာမဏေသည် တံကျင်ဖျား၌နေလျက် မိမိ၏ဝေဒနာကိုပယ်ဖျောက်ကာ 'သြော်... ငါ၏ဥပဇ္ဈာယ်အရှင်မြတ်ကို ဘယ်ပုဂ္ဂိုလ်သည် ဆေးရှာပေးပါလိမ့်မလဲ'ဟု အောက်မေ့နေတော်မူခဲ့၏။

ဓမ္မသေနာပတိအရှင်သာရိပုတ္တရာသည် ဥတ္တရသာမဏေ၏ ဖြစ်ပျက်ပုံ အလုံးစုံကို သိရှိတော်မူသည်ဖြစ်၍ မြတ်စွာဘုရားထံတော်ပါး ချဉ်းကပ်ပြီး ထိုဖြစ်ပျက်ပုံအလုံးစုံကို လျှောက်ထားခဲ့၏။ မြတ်စွာဘုရားရှင်သည် သာဝကအများခြံရံလျက် ထိုဥတ္တရသာမဏေရှိရာအရပ်သို့ ကြွလာတော်မူခဲ့သည်။ မြတ်စွာဘုရား ကြွလာတော်မူသည်ကိုသိကြသော မြို့သူမြို့သားတို့သည်လည်း ရှင်သာမဏေရှိရာအရပ်သို့ စုဝေး၍ရောက်ရှိလာကြ၏။ မြတ်စွာ ဘုရားရှင်သည် ဥတ္တရသာမဏေ၏ဦးခေါင်း၌ လက်တော်ကို တင်ထားပြီး 'ချစ်သားဥတ္တရ...၊ သင် ယခုကြုံတွေ့ရသောအမှုသည် ရှေးဘဝအဆက် ဆက်က သင်ပြုခဲ့သောမကောင်းမှုကံ၏အကျိုးဖြစ်၏။ ထိုမကောင်းမှုကို ဆင်ခြင်ပြီး သည်းခံပါလော့ ငါ့ရှင်'ဟု မိန့်တော်မူ၏။

ရှေးတစ်ဘဝကဖြစ်ခဲ့သောအကုသိုလ်ကံကြွေးဆိုသည်မှာ ဥတ္တရသာမဏေသည် အတိတ်ဘဝတစ်ခုတွင် သူငယ်ချင်းများနှင့်အတူ ကစားရာ

ယင်ကောင်အရှင်ကလေးများကို တမာဆူးနှင့် တံကျင်ထိုးလျှိုခဲ့ဖူး၏၊ ထိုမကောင်းမှုအကုသိုလ်ကံကြောင့် ယခုဘဝ၌ တမာသားနှင့် တံကျင်ထိုး လျှိုခြင်းခံရလေသည်။ ထို့ပြင် အတိတ်ဘဝတစ်ခုက မိမိ၏မိခင်ကို 'အရှင် လတ်လတ် တံကျင်လျှိုခံရမည်'ဟု ကျိန်ဆဲခဲ့ဖူး၏၊ ထိုမကောင်းမှုဝစီကံ ကြောင့် အသက်ထင်ရှားရှိစဉ်မှာ တံကျင်လျှိုခြင်းခံရခြင်းဖြစ်သည်။ ပြဆို ခဲ့သော ထိုမကောင်းမှုအကုသိုလ်ကံတို့ကြောင့် ဥတ္တရသာမဏေသည် ယခုဘဝမတိုင်မီ ဘဝငါးရာပတ်လုံး တမာသားနှင့်တံကျင်လျှိုခြင်းကိုခံခဲ့ ရပြီးဖြစ်၏။ ယခုအကြိမ်သည်ကား အဆုံးသတ်ဘဝ နောက်ဆုံးအကျိုးပေး မှုပင်ဖြစ်သည်။

မြတ်စွာဘုရားရှင်သည် သာမဏေ၏ဦးထိပ်ထက်မှနေ၍ ဓမ္မအမြိုက် ရေကိုသွန်းလောင်းတော်မူသောအခါ ဥတ္တရသာမဏေသည် လွန်စွာပီတိ ဖြစ်လျက် ထိုဖြစ်ပေါ်လာသောပီတိကို ဆင်ခြင်ပြီး ဝိပဿနာဘာဝနာ ပွားများရာ ဉာဏ်၏ရင့်ကျက်ခြင်းသို့ရောက်၍ အဘိညာဉ်ခြောက်ပါးနှင့် တကွအရဟတ္တမဂ်သို့ ရောက်တော်မူလေသည်။ ဥတ္တရသာမဏေ အရဟတ္တ မဂ် အရဟတ္တဖိုလ်သို့ရောက်လျှင် လျှိုထားအပ်သောတံကျင်မှလွတ်ပြီး ကောင်းကင်၌ရပ်တည်ကာ ပြာဋိဟာပြတော်မူလေ၏။ လူပရိသတ် အပေါင်းသည်လည်း ထူးဆန်းလှပေသည်ဟု အံ့သြဘနန်းဖြစ်ကြလေ သည်။ ထိုအခါ မြတ်စွာဘုရား၏တရားတော်ကို နာကြားကြပြီး နတ်လူ ပရိသတ်ရှစ်သောင်း လေးထောင်တို့သည် တရားထူးကို ရခဲ့ကြကုန်၏။

ဥတ္တရသာမဏေကို ပုထုဇဉ်ရဟန်းတော်တို့က 'ငါ့ရှင် ဤမျှတံကျင် လျှိုထားသောဒုက္ခကို ခံစားနေရသည့်အချိန်တွင် ဝိပဿနာဘာဝနာကို မည်သို့အားထုတ်ပါသလဲ'ဟု မေးမြန်းကြလေသည်။ ဥတ္တရသာမဏေက သီတင်းသုံးဖော်သံဃာတော်တို့အား 'အရှင်တို့ဘုရား၊ တပည့်တော်သည် သံသရာ၏အပြစ်ကိုလည်းကောင်း၊ သင်္ခါရတို့၏သဘောကိုလည်းကောင်း စောစောကပင် ကောင်းစွာသိမြင်ပါ၏။ သို့ပါ၍ ထိုခံစားနေရသောဆင်းရဲကို

ပယ်ဖျောက်ကာ ဝိပဿနာဘာဝနာကို ပွားသည့်အတွက် အရဟတ္တမဂ်ကို ဆိုက်ရောက်ခဲ့ရပါသည်'ဟု ဖြေကြားတော်မူခဲ့လေသည်။

ထို့နောက်၌ မိမိ၏ရှေးဘဝအတိတ်ဖြစ်စဉ်အပဒါန်ကို ပြန်လည်ပြောကြားတော်မူသည်။ ပြီးလျှင် မြတ်စွာဘုရားအား ပူဇော်ရသောအကျိုးကို သိရှိကြစေရန် 'သတာနံ ပဥ္စကုတ္တံ၊ ဒေဝရဇ္ဇမကာရယိံ' အစရှိသော ဂါထာတို့ဖြင့် အောက်ပါအတိုင်း မိန့်ကြားတော်မူလေသည်။

'ငါသည် နတ်တို့၏ဘုရင် သိကြားမင်းအဖြစ် ဘဝငါးရာဖြစ်ခဲ့၏။ စကြာဝတေးမင်းအဖြစ် ဘဝသုံးရာဖြစ်ခဲ့၏။ ကြီးကျယ်သော ပဒေသရာဇ်မင်းအဖြစ်ကား ရေတွက်၍ပင် မကုန်နိုင်ပေ။ ငါသည် ဘဝကြီးငယ်ကျင်လည်ခဲ့ရာတွင် စည်းစိမ်ဥစ္စာများစွာတို့ကိုလည်း ရခဲ့၏။ ငါ့၌ စည်းစိမ်ဥစ္စာ ဆုတ်ယုတ်ဆင်းရဲခြင်းဟူ၍ မရှိခဲ့ဖူးပေ။ ဤအကျိုးတို့သည်ကား ဘုရားရှင်အား ပူဇော်ရခြင်း၏ အကျိုးပေတည်း။

'လူနတ်နှစ်ပါးသော ဘဝတို့၌သာ ကျင်လည်ရပြီး အခြားသော အပါယ်လေးပါးဟုဆိုအပ်သော ဂတိတို့ကိုမူကား သိပင်မသိခဲ့ရ။ ဤအကျိုးသည်လည်း ဘုရားရှင်အား ပူဇော်ရခြင်း၏အကျိုးပေတည်း။

'မင်းမျိုး,ပုဏ္ဏားမျိုး ဤနှစ်ထွေသောအမျိုးတို့၌သာဖြစ်ရပြီး ပင်ပန်းဆင်းရဲကြီးစွာ လုပ်ကိုင်အသက်မွေးရသော ကုန်သည်လယ်လုပ်အမျိုးတို့၌ မဖြစ်ခဲ့ရဘူးပေ။ ဤအကျိုးသည်လည်း ဘုရားရှင်အား ပူဇော်ရခြင်း၏ အကျိုးပေတည်း။

'မည်သည့်အခါ၌မဆို ဆင်ယာဉ်,မြင်းယာဉ်,ထမ်းစင်သံလျင်းစသည်တို့ကိုသာ စီးနင်းသွားခဲ့ရပြီး ခြေလျင်မသွားခဲ့ရပေ။ ဤအကျိုးသည်လည်း ဘုရားရှင်အား ပူဇော်ရခြင်း၏ အကျိုးပေတည်း။

'ခိုင်းစေစရာ မိန်းမယောကျ်ားတို့နှင့် လှပတင့်တယ်ခြယ်လှယ်ပြင်ဆင်ထားသော မိန်းမပျိုတို့ကိုသာ ရခဲ့၏။ ဤအကျိုးသည်လည်း ဘုရားရှင်အား ပူဇော်ရခြင်း၏ အကျိုးပေတည်း။

'ပိုးပုဆိုး,ခေါမချည်,ဝါချည်ပုဆိုးတို့ကိုသာလျှင် ရခဲ့ပါ၏။ အသစ်ဖြစ်သော ပုဆိုးအင်္ကျီ,ပေါင်းဦးပေါ်ဖျားသစ်သီးသစ်နှံစသည်တို့ကိုသာလျှင်ရခဲ့ပါ၏။ မည်သည့်နေရာမှာမဆို စားရန်အသင့်,သောက်ရန်အသင့်, အိပ်ရန်အဆင့်သင့်ရရှိခဲ့ပါသည်။ ဤအကျိုးတို့သည်လည်း ဘုရားရှင်အား ပူဇော်ရခြင်း၏ အကျိုးတို့ပေတည်း။

'နေရာတိုင်း၌ ပူဇော်ခြင်းကိုခံရပါ၏။ အခြံအရံပရိသတ်လည်းများစွာရှိပါ၏။ မပြုလုပ်နိုင်သော အရာဟူ၍ မရှိ၊ ပြုစွမ်းနိုင်သည်သာဖြစ်ပါ၏။ ပရိသတ်စုံညီ ဆွေမျိုးမိတ်သင်္ဂဟတို့အလယ်တွင်လည်း အမြတ်ဆုံးဖြစ်ခဲ့ရပါ၏။ ဤအကျိုးတို့သည်ကား ဘုရားရှင်အား ပူဇော်ရခြင်း၏ အကျိုးပေတည်း။

'ချမ်းခြင်းပူခြင်းစသည်ကိုလည်း မသိရပါ။ စိုးရိမ်သောကမီးကြောင့်တောက်လောင်ပူပန်နေရခြင်းလည်း မရှိစဖူး။ စိတ်နှလုံး၌ ဆင်းရဲခြင်းဟူသောအရာသည် ရေးရေးမျှမထင်ခဲ့။ ဘဝကြီးငယ် ဖြစ်လေရာတို့၌ ကိုယ်ခန္ဓာအဆင်းသည်လည်း ရွှေအဆင်းသာဖြစ်ခဲ့၍ အခြားသောဖြူတူတူ, ညိုညစ်ညစ်,မည်းတဲတဲဟု မရှိခဲ့စဖူး။ ဤအကျိုးတို့သည်လည်း ဘုရားရှင်အား ပူဇော်ရခြင်း၏ အကျိုးပေတည်း။

'ငါသည် နတ်ပြည်မှစုတေ၍ ဖြူစင်သောကုသိုက်ကံ၏စေ့ဆော်မှုကြောင့် သာဝတ္ထိပြည်ရှိ မဟာသာလသူကြွယ်မျိုး၌ လူဖြစ်ခဲ့ရပြီး အရွယ်သို့ရောက်သော် ကာမဂုဏ်ငါးပါးကိုစွန့်၍ အိမ်ရာမထောင် ရဟန်းဘောင်၌ ရှင်သာမဏေပြုခဲ့ပြီ။ ထို့နောက်၌ ရဟန္တာအဖြစ်သို့လည်း ရောက်ခဲ့လေပြီ။

'စက္ခုငါးပါးနှင့်ပြည့်စုံတော်မူသောမြတ်စွာဘုရားသည် အရွယ်အားဖြင့် နုနယ်ပျိုမျစ်သော ငါ့ကို ပဥ္စင်းအဖြစ်ကိုခံယူစေပြီး ချီးမြှောက်တော်မူခဲ့ပြီ။ ဤအကျိုးတို့သည်လည်း ဘုရားရှင်အား ပူဇော်ရခြင်း၏ အကျိုးပေတည်း။

'ငါ၏ဒိဗ္ဗစက္ခုဉာဏ်သည် စင်ကြယ်၏။ ငါသည် သမာဓိ၌

နိုင်နင်း၏။ အဘိညာဉ်၌ အထွတ်အထိပ်သို့ရောက်ခဲ့၏။ ဤအကျိုးတို့သည်လည်း ဘုရားရှင်အား ပူဇော်ရခြင်း၏အကျိုးပေတည်း။

'ပဋိသမ္ဘိဒါတို့သို့ အစဉ်ရောက်ကုန်၏။ တန်ခိုးဣဒ္ဓိပါဒ်တို့ကိုလည်း နိုင်နင်း၏။ သူတော်ကောင်းတရား၌ အထွတ်အထိပ်သို့ရောက်ခဲ့၏။ ဤအကျိုးတို့သည်လည်း ဘုရားရှင်အား ပူဇော်ရခြင်း၏အကျိုးပေတည်း။

'ဤကမ္ဘာမှရေတွက်သော် ကမ္ဘာသုံးသောင်းအထက်၌ မြတ်စွာဘုရားကို ပူဇော်ခဲ့ရသည်။ ဤအကြား၌ ဒုဂ္ဂတိဘဝကို မသိစဖူး။ ဤအကျိုးတို့သည် ဘုရားရှင်အား ပူဇော်ရခြင်း၏အကျိုးပေတည်း။

'ငါသည် ကိလေသာတို့ကို အကြွင်းမဲ့လောင်ကျွမ်းစေပြီး အလုံးစုံသောဘဝတို့ကို မဂ်ဖြင့်ပယ်သတ်လိုက်ပြီ။ အနှောင်အဖွဲ့ဟူသရွေ့ကို ဖြတ်ပြီးသော ဆင်ပြောင်ကြီးကဲ့သို့ အာသဝေါမှကင်းခဲ့လေပြီ။ ငါသည် ဘုရားရှင်၏အထံသို့ ကောင်းစွာရှေးရှုလာအပ်ပြီ။ လေးပါးကုန်သော ပဋိသမ္ဘိဒါ၊ ရှစ်ပါးသောဝိမောက္ခ၊ ခြောက်ပါးသောအဘိညာဉ်တို့ကို မျက်မှောက်ပြုအပ်ပြီ။ မြတ်စွာဘုရား၏အဆုံးအမကိုလည်း လိုက်နာခဲ့လေပြီ' ဟူ၍ ကျူးရင့်တော်မူခဲ့သည်။

ဤသို့လျှင် သာမဏေဟောကြားအပ်သော စကားတို့ကိုကြားနာကြရသော ပရိသတ်အပေါင်းတို့သည် ကုသိုလ်မှု၌သာ မွေ့လျော်လဲလျောင်းခြင်း ဖြစ်ကြလေသည်။

ဤဥတ္တရသာမဏေ၏ဝတ္ထုအပဒါန်ကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'သဟိတ်ပဋိသန္ဓေရှိကုန်သော၊ ပစ္ဆိမဘဝိကသားဖြစ်ကုန်သော သတ္တဝါတို့သည်လည်း အစဉ်လိုက်တတ်သော ထိုမကောင်းမှုကံ၏အကျိုးကို စွန့်ပယ်ခြင်းငှာ မစွမ်းနိုင်ပေ။ သို့ဖြစ်၍ ဆင်းရဲကိုကြောက်သော, ဆင်းရဲကို အလိုမရှိသော သတ္တဝါအပေါင်းတို့သည် မကောင်းမှုကို ဝေးသောအရပ်မှ နေ၍သာ ကြဉ်ရှောင်ကြပါကုန်'ဟု သတိပေးခဲ့ကြသည်။



## ဗုဒ္ဓ၏တန်ခိုးတော်အနန္တ

[၂၅။ ကာဝီရပဋ္ဋနဝတ္ထု]

ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံတောင်ပိုင်း စောဠတိုင်း၌ ကာဝီရပဋ္ဋန အမည်ရှိသော ရွာကြီးတစ်ရွာတည်ရှိ၏။ ထိုရွာ၌ နတ်ကိုဆည်းကပ်ကြသော မိစ္ဆာဒိဋ္ဌိအများ နေထိုင်လျက်ရှိ၏။ တစ်ခုသောအချိန်တွင် ထိုမိစ္ဆာဒိဋ္ဌိ နတ်ကိုးကွယ်ကြသူများသည် မိမိတို့အမွန်အမြတ်ထားရာ နတ်ကွန်းနတ် ဗိမာန်ကို ဆေးသုတ်ပြီး မွမ်းမံပြင်ဆင်ခဲ့ကြသည်။ ထိုနတ်ကွန်းအတွင်း ပျဉ်ချပ်တစ်ချပ်ပေါ်တွင် မိစ္ဆာဒိဋ္ဌိနတ်မင်းကို လူနတ်အများစုဝေးပြီးရှိခိုး နေကြပုံကို ပန်းချီဆရာက ရေးခြယ်ထား၏။ ထိုသို့ရှိခိုးနေကြသူတို့တွင် မြတ်စွာဘုရားရှင်၏ပုံတော်ကိုလည်း ထည့်သွင်းရေးဆွဲထား၏။

ထိုနတ်ကွန်းသို့ ရွာသူရွာသားအချို့ သွားရောက်ကြည့်ရှုကြရာ နတ်ကွန်းအတွင်းရှိ ပျဉ်ချပ်ပေါ်တွင် နတ်မင်းကြီးကို မြတ်စွာဘုရားက ရှိခိုးနေပုံ ပန်းချီရေးခြယ်ထားသည်ကို သိရှိသွားကြပြီး၊ ထိုအကြောင်းကို ရွာအတွင်းရှိ ဗုဒ္ဓဘာသာဝင်များထံ အသိပေးအကြောင်းကြားကြသည်။ ထိုသတင်းကို ဗုဒ္ဓဘာသာဝင်ဥပါသကာတို့ ကြားသိကြသောအခါ ‘အံ့သြ ဖွယ်ကောင်းလိုက်တာ၊ ငါတို့သည် မကြားသင့်တာကြားရ၏။ မမြင်သင့် တာမြင်ရ၏။ နတ်ပြည်ခြောက်ထပ်နှင့်တကွ သြကာသလောကကြီးတစ်ခု လုံး၌ ငါတို့၏မြတ်စွာဘုရားနှင့်တူသူ မြတ်သူဟုမရှိ။ အလုံးစုံသော လူနတ်ဗြဟ္မာတို့ရှိခိုးခြင်းငှာ ထိုက်တော်မူသောမြတ်စွာဘုရားဖြစ်တော် မူပါပေ၏။ ဤမိစ္ဆာဒိဋ္ဌိတို့သည် မသင့်လျော်သောအမှုကိုပြုကြသည်’ဟု ပြောဆိုမြည်တမ်း၍ ငိုကြွေးကြသည်။

ဗုဒ္ဓဘာသာဝင်သမ္မာဒိဋ္ဌိဥပါသကာတို့သည် လူသူစုရုံးကြပြီး ဘုရင်မင်းမြတ်ထံသွားကြကာ နန်းတော်ဝ၌ မကျေမနပ်သောအသံများပြု၍နေကြ၏။ မင်းကြီးလည်း ဥပါသကာတို့ကိုခေါ်ယူပြီး 'သင်တို့ ဘာကိုမကျေမနပ် ဖြစ်လာကြသလဲ'ဟုမေးတော်မူ၏။ ဥပါသကာတို့က မိစ္ဆာဒိဋ္ဌိတို့၏ မသင့်လျော်သောအမှုကိစ္စကို ပြောပြပြီးလျှင် 'အရှင်မင်းကြီး၊ ငါတို့၏မြတ်စွာဘုရားသည် နတ်ထက်နတ်မြတ်၊ သိကြားထက်သိကြားမြတ်၊ ဗြဟ္မာထက်ဗြဟ္မာမြတ် ဖြစ်တော်မူပါ၏။ ငါတို့မြတ်စွာဘုရား၏ ဂုဏ်တော်တို့သည် မြင်းမိုရ်တောင်ကဲ့သို့ ကြံ့ခိုင်၏။ မဟာသမုဒ္ဒရာကဲ့သို့ ကျယ်ဝန်း၏။ ကောင်းကင်ကဲ့သို့ အဆုံးအပိုင်းအခြားမရှိ၊ မြေကြီးကဲ့သို့ ပျံ့နှံ့ပါ၏–စသည်ဖြင့် မြတ်စွာဘုရား၏ ဂုဏ်တော်ကျေးဇူးတော်တို့ကို ချီးကျူးပြောဆိုကြလေသည်။

မင်းကြီးက 'အို...လူများအပေါင်းတို့၊သင်တို့ စိတ်မပျက်ကြနှင့်၊ အမျက်ဒေါသကို သိမ်းကြပါ၊ သင်တို့က သင်တို့ ကိုးကွယ်အားထားရာ မြတ်စွာဘုရားရှင်၏တန်ခိုးတော်အနန္တ ဂုဏ်တော်အနန္တ ဉာဏ်တော်အနန္တဖြစ်တော်မူပုံကို ပြောဆိုကြသကဲ့ပင် နတ်ကိုးကွယ်သူတို့ကလည်း သူတို့ကိုးကွယ်သောနတ်မင်း၏ဂုဏ်ကျေးဇူးကြီးကျယ်ပုံတို့ကိုသာ ပြောကြမှာ အမှန်ဖြစ်၏။ သင်တို့ကို ငါမေးဦးမည်၊ သင်တို့ကိုးကွယ်ရာဖြစ်သော မြတ်စွာဘုရား၏တန်ခိုးကြီးပုံကို ငါတို့ လက်တွေ့အားဖြင့် ဘယ်လိုလုပ်သိနိုင်ပါမလဲ အမောင်တို့'ဟုမိန့်ဆိုလေသည်။

ထိုအခါ သမ္မာဒိဋ္ဌိဥပါသကာတို့က'အရှင်မင်းကြီး...၊မြတ်စွာဘုရား၌ဘုန်းတော်အနန္တ တန်ခိုးတော်အနန္တရှိတော်မူပုံကို သက်သေပြပါမည်။ အကယ်၍ အရှင်မင်းကြီးသည် ထိုမိစ္ဆာဒိဋ္ဌိတို့၏နတ်ကွန်းရှိ ဗုဒ္ဓပုံတော်ပါသော ပျဉ်ချပ်ကိုယူပြီး လုံခြုံသောအရပ်၌ သိမ်းထားပေးတော်မူပါက ဤနေ့မှစ၍ ခုနစ်ရက်မြောက်နေ့တွင် ထိုပျဉ်ချပ်ကိုထုတ်ယူ၍ကြည့်လျှင်

မြတ်စွာဘုရား၏ ဘုန်းတော်အနန္တ တန်ခိုးတော်အနန္တ ဂုဏ်တော်အနန္တ တို့နှင့် ပြည့်စုံတော်မူပုံကို သိကြပါလိမ့်မည်’ဟု လျှောက်တင်ကြ၏။

မင်းကြီးလည်း သမ္မာဒိဋ္ဌိဥပါသကာတို့ဆိုသည့်အတိုင်းပင် ဗုဒ္ဓ ပုံတော်ပါသောပျဉ်ချပ်ကို ယူဆောင်စေ၍ အဝတ်ဖြင့်လုံအောင် ရစ်နှောင် ဖွဲ့ပတ်ထားပြီးလျှင် မိမိ၏လက်စွပ်ဖြင့် အမှတ်အသား ချိပ်တံဆိပ်ခတ်နှိပ် ကာ လုံခြုံသောနတ်ကွန်းတစ်ခုတွင် အစောင့်အရှောက်အထပ်ထပ်ချ၍ သိမ်းဆည်းထားခဲ့သည်။

ထိုသို့ ပျဉ်ချပ်ကိုသိမ်းဆည်းထားသည့် ခုနစ်ရက်တာကာလပတ်လုံး သမ္မာဒိဋ္ဌိဥပါသကာတို့ ဘုရားကျောင်းကန်၌ စုဝေးပြီး ဥပုသ်သီလစောင့် သုံးကြသည်။ ခပ်သိမ်းသောသတ္တဝါတို့အား မေတ္တာပို့အမျှဝေကြသည်။ ရတနာသုံးပါးကို ပူဇော်ခြင်းဖြင့်သာ ခုနစ်ရက်အချိန်ကို ကုန်လွန်စေခဲ့ သည်။ ပြီးလျှင် ဤသို့ကြွေးကြော်ကြ၏။ ‘ငါတို့ပြုသော ဤကုသိုလ် အကျိုးဆက်ဖြင့် လောက၌ တန်ခိုးကြီးကုန်သော နတ်မင်းတို့သည်လည်း ကောင်း၊ လောကကိုစောင့်ရှောက်ကုန်သောနတ်မင်းကြီးလေးယောက်တို့ သည်လည်းကောင်း သင်တို့သည် ငါတို့၏မြတ်စွာဘုရားကို ဆည်းကပ် ကြသည်မှန်ပါက သက်သေထင်ရှားအောင် ထုတ်ဖော်ပြသကြပါ’ဟု တိုင်တည်သစ္စာပြုကြ၏။

သမ္မာဒိဋ္ဌိဥပါသကာတို့၏ ကောင်းမှုအာနုဘော်ကြောင့် ထိုခဏ၌ သိကြားမင်း၏ ပဏ္ဍုကမ္ဗလာကျောက်နေရာသည် ပူပြင်းလာခဲ့သည်။ သိကြား မင်းသည် မိမိနေရာပူပြင်းခြင်းအကြောင်းကိုသိလို၍ လူ့ပြည်သို့ ရှုကြည့် ရာတွင် မိစ္ဆာဒိဋ္ဌိတို့၏ဖောက်ပြန်လွဲမှားသော အပြုအမူများကို တွေ့ရ၍ လူ့ပြည်သို့ သက်ဆင်းခဲ့၏။ သိကြားမင်းသည် မိစ္ဆာဒိဋ္ဌိတို့၏ပျဉ်ချပ် ပေါ်တွင် မြတ်စွာဘုရား၏ခြေတော်အစုံကို မိစ္ဆာဒိဋ္ဌိနတ်က ရှိခိုးနေပုံ ပြုပြင်၍ ရေးဆွဲထားခဲ့၏။ ထိုသို့ပြုပြင်ရေးဆွဲခဲ့ကြောင်းကိုလည်း သမ္မာဒိဋ္ဌိ ဥပါသကာတို့အား အသိပေးပြီး မိမိနေရာသို့ပြန်ခဲ့၏။

ခုနစ်ရက်မြောက်သောနေ့၌ နံနက်စောစောကပင် သမ္မာဒိဋ္ဌိဥပါသကာတို့သည် မင်းကြီးထံသွားကြပြီး 'အရှင်မင်းကြီး၊ သိမ်းဆည်းထားသောပျဉ်ချပ်ကို ထုတ်ယူ၍ ကြည့်ရှုရန် အချိန်ကျရောက်ပါပြီ။ ထိုပျဉ်ချပ်၌ မြတ်စွာဘုရားရှင်ကို နတ်မင်းက ရှိခိုးနေသည်ကိုသာ ရှုမြင်ကြရပါလိမ့်မည်'ဟု လျှောက်တင်ခဲ့ကြ၏။ ဥပါသကာတို့၏စကားကိုကြားလျှင်မင်းကြီးသည် တစ်မြို့လုံးရှိ ပြည်သူအပေါင်းကို ထိုနေရာသို့ စုဝေးလာရောက်ကြရန်နှိုးဆော်စေပြီး၊ လူသူစုဝေးရောက်ရှိလာသောအခါ နတ်ကွန်းအတွင်းမှ အဝတ်တို့ဖြင့် အထပ်ထပ်ရစ်ပတ် မင်းတံဆိပ်ခတ်နှိပ်ထားသောပျဉ်ချပ်ကို ထုတ်ယူပြီး အဝတ်တို့ကို ဖြေစေ၏။ အဝတ်တို့ပြေလေသော်ပျဉ်ချပ်ပေါ်တွင် မြတ်စွာဘုရားရှင်၏ခြေတော်အစုံကို နတ်မင်းက ရှိခိုးနေပုံပန်းချီကားကို အံ့ဖွယ်ဘနန်း ထူးဆန်းစွာ တွေ့မြင်ကြရလေသည်။ ဤသို့မြတ်စွာဘုရားရှင်၏တန်ခိုးတော်အနန္တဖြစ်ပုံကို ကိုယ်တိုင် ဒိဋ္ဌသိမြင်လေသောအခါ ကာဝီရပဋ္ဋနမင်းသည် ထိုမိစ္ဆာဒိဋ္ဌိတို့၏နတ်ကွန်းတို့ကိုဖြိုဖျက်စေပြီး ဘုရားကျောင်းတော်ရာ ဂန္ဓကုဋိကြီးတစ်ဆောင်ကို တည်ဆောက်၍ အသက်ထက်ဆုံး ဗုဒ္ဓဥပါသကာအဖြစ် ခံယူတော်မူခဲ့၏။

ဤကာဝီရပဋ္ဋနဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'မြတ်စွာဘုရားရှင် သက်တော်ထင်ရှားရှိတော်မူစဉ်အခါက မြတ်စွာဘုရား၏ တန်ခိုးတော်တို့ကို ဖူးမြင်ကြရ၍ ကုသိုလ်ကောင်းမှုတို့ကိုပြုခဲ့ကြသည်မှာ အံ့ဩဖွယ်ဟုမဆိုနိုင်။ မြတ်စွာဘုရားရှင် မဟာပရိနိဗ္ဗာန်ပြုပြီးသည့်အခါတွင်မှ မြတ်စွာဘုရားရှင်၏တန်ခိုးတော်ကို ဖူးမြင်ကြရသောကြောင့်ကုသိုလ်ကောင်းမှုတို့ကို ပြုကြသူတို့သည်သာ မိုးမြေမဆံ့ အံ့ဩဖွယ်ကောင်းလှပေသည်'ဟု ရေးဖွဲ့ခဲ့ကြ၏။



# အဖိုးမဖြတ်နိုင်သောလယ်ယာမြေ

[၂၆။ စောရယာတကဝတ္ထု]

ဂေါတမမြတ်စွာဘုရားရှင် သာဝတ္ထိပြည်မွန် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ်အခါက ဖြစ်ပါသည်။ ထိုစဉ်အခါ သာဝတ္ထိမြို့တော်နှင့်မနီးမဝေး တောအုပ်ကြီးတစ်ခု၌ ပုန်းခိုနေကြသော သူခိုးငါးရာအုပ်စုကြီးတစ်စုသည် မင်းနေပြည်တော်တွင်းသို့ ညစဉ်ဝင်ရောက်၍ ခိုးယူလုယက်ကြသည်။

တစ်နေ့သော် ထိုသူခိုးအုပ်စုသည် မြို့တော်အတွင်းသို့ခိုးယူရန် အလာ မြို့တံခါးဝ၌ ဆင်းရဲသားတစ်ဦးကို တွေ့ရှိကြလေသည်။ သူခိုးတို့က ထိုဆင်းရဲသားကို ‘မင်း ဘယ်အရပ်မှာ နေသလဲ’ဟုမေး၏။ ဆင်းရဲသားက ‘ကျွန်တော် တောရွာကလေးတစ်ရွာမှာ နေတာပါ’ဟုဖြေလျှင် သူခိုးတို့က ‘မင်းကြည့်ရတာ ဆင်းရဲလိုက်တာ လွန်ပါရော၊ တို့လိုချမ်းသာချင်သလား၊ ချမ်းသာချင်ရင် တို့နဲ့လိုက်၍ခိုးလှည့်၊ အကြဲတုံးဉာဏ်တုံးလုပ်မနေနဲ့’ဟု ပြောပြီး မိမိတို့နှင့်ပူးပေါင်းရန် ဆွယ်စကားပြောဆိုကြသည်။ ဆင်းရဲသားကလည်း ‘ခိုးတာဟာ ဥစ္စာရလွယ်တဲ့အလုပ်ပဲ’ဟု သဘောကျသွားပြီး သူခိုးအုပ်စုအတွင်းသို့ဝင်ရန် ကတိပေးလေ၏။ ထိုအချိန်မှစ၍ ဆင်းရဲသားသည် သူခိုးဘဝသို့ရောက်ရှိသွားခဲ့လေသည်။

ထိုသူခိုးငါးရာအုပ်စုသည် မင်းနေပြည်တော်အတွင်း ခိုးလွန်းဆိုးလွန်းအားကြီးသောကြောင့် ကောသလဘုရင်ထံ တိုင်တန်းကြရာ ဘုရင်မင်းကြီးက ထိုသူခိုးအုပ်စုကို အလျင်အမြန်ဖမ်းဆီးကြရန် အမိန့်

ထုတ်ခဲ့သည်။ မင်းမိန့်အတိုင်း ထိုသူခိုးငါးရာကိုဖမ်းဆီးကြပြီး ကောသလမင်းကြီးထံတော်သို့ ပို့ဆောင်ခဲ့ကြသည်။ မင်းကြီးက သူခိုးအုပ်စုကြီးကို စစ်ဆေးပြီး သေဒဏ်အပြစ်ပေးလိုက်သည်။ ထိုသို့အပြစ်ပေးပြီးမှ သူခိုးအုပ်စုကို 'သင်တို့အထဲတွင် လူသတ်ပေးမည့်သူရှိပါက ထိုသူကို အသက်ဘေးမှ ကင်းလွတ်စေမည်၊ သတ်ပေးရမည့်ရာဇဝတ်သားတို့မှာ သင်သူခိုးတွေကိုပဲ'ဟု ထူးဆန်းသောစကားကို မိန့်တော်မူလေသည်။

ထိုသူခိုးအုပ်စုသည် တစ်ဦးကိုတစ်ဦး အဆွေအမျိုး ညီရင်းအစ်ကိုမျှမက ချစ်ခင်ကြသည်ဖြစ်၍ မိမိ၏ညီတော်နောင်တော်သဖွယ်ဖြစ်နေသော အချင်းချင်းသတ်ပေးရန်အလုပ်ကို မလုပ်လိုကြပေ။ သို့ဖြစ်၍ မင်းကြီးမိန့်ဆိုသည်ကို ပြန်မပြောကြဘဲ ငြိမ်၍နေခဲ့ကြသည်။ ထိုအုပ်စုထဲသို့ နောက်ဆုံးမှ ဝင်ရောက်လာသော ဆင်းရဲသားသူခိုးက မတ်ရပ်လိုက်ပြီး မင်းကြီးကို 'ကျွန်တော်ရဲ့အသက်ကို ချမ်းသာပေးမည်ဆိုပါက ဤသူခိုးတို့ကို သတ်ပေးပါမည်'ဟုလျှောက်တင်ခဲ့၏။ ကောသလမင်းကြီးလည်း ထိုဆင်းရဲသားသူခိုးကို ယင်း၏အပြစ်မှလွတ်စေပြီး သေဒဏ်ကျခံရန်ရှိသော ရာဇဝတ်သားသူခိုးတို့ကို သတ်ဖို့တာဝန်ပေးအပ်ခဲ့၏။ ထိုအခါမှစ၍ ထိုဆင်းရဲသားသူခိုးသည် သူခိုးဘဝမှ သူသတ်သမားအာဏာပါးကွက်သားဘဝသို့ ကူးပြောင်းခဲ့လေ၏။

ထိုဆင်းရဲသားသူခိုးသည် လက်မရွံ့သူသတ်သမားဖြစ်လာပြီး နှစ်ဆယ့်ငါးနှစ်တိုင်တိုင် မင်းမှုထမ်းကာ အပြစ်ရှိသောသူတို့ကို သတ်ဖြတ်ပေးခဲ့သည်။ နှစ်ပေါင်းနှစ်ဆယ့်ငါးနှစ်ကျော်သောအခါ အသက်ကြီးရင့်လာပြီဖြစ်၍ အားအင်ဗလနည်းပါးလာကာ အပြစ်ရှိသူတို့ကိုသတ်ရာတွင် တစ်ချက်တည်းဖြင့် ရိုက်နှက်ခုတ်သတ်သော်လည်း မသေ၊ နှစ်ချက်သုံးချက်ခုတ်မှ သေလေရာ ထိုအကြောင်းကို မင်းကြီးကြားသိလျှင် သူသတ်ယောကျ်ားကြီးကို အလုပ်တာဝန်မှနားစေပြီး၊ အားကောင်းမောင်းသန် လူငယ်လူရွယ်တစ်ဦးကို လွှဲပြောင်းတာဝန်ပေးအပ်ခဲ့လေသည်။ သူသတ်

ယောကျ်ားသည် တာဝန်မှ ဖယ်ရှားခြင်းခံရသဖြင့် စိတ်ပျက်လက်ပျက် ဖြစ်ကာ အိမ်သို့ ပြန်ခဲ့လေသည်။

ထိုစဉ်ကာလအတွင်း ထူးဆန်းသောအတတ်ပညာတစ်ရပ် ပေါ်ထွန်းလာခဲ့၏။ ထိုအတတ်ပညာမှာ လူသတ်ခြင်းနှင့်သက်ဆိုင်ပြီး မန္တန်တစ်ပုဒ်ကို ရွတ်ပြီး နှာခေါင်းမှလေကို ပြင်းပြင်းထန်ထန်မှုတ်ထုတ်လိုက်ရုံဖြင့် ထိုလေ၏အရှိန်ကြောင့် မိမိ၏ရှေ့၌ရှိသောသူသည် လက်ခြေဦးခေါင်းတို့ပြတ်ထွက်ကာ သေသွားသောပညာမျိုးဖြစ်၏။ ထိုဆန်းကြယ်သော လူသတ်ပညာ၏ သတင်းကို သူသတ်ယောကျ်ားကြီးကြားလျှင် ထိုပညာတတ်သောပုဂ္ဂိုလ်ထံ သွားရောက် ချဉ်းကပ်လုပ်ကျွေးပြီး ထိုမန္တန်ကို သင်ယူခဲ့၏။ ထိုပညာကို တတ်မြောက်လျှင် မိမိသည် အင်အားမစိုက်ရဘဲ လွယ်လင့်တကူ ရှေးကကဲ့သို့ပင် လူသတ်နိုင်ပြီဟု မင်းကြီးထံသို့ သတင်းစကားပို့ဆောင်ခဲ့၏။ မင်းကြီးလည်း ‘ကောင်းပြီ’ဟုဆိုကာ သူသတ်ယောကျ်ားကြီးကို မူလတာဝန်များကို ပြန်လည်ပေးအပ်၍ အပြစ်ရှိသူတို့ကို အသတ်ခိုင်းပြန်လေသည်။ သူသတ်ယောကျ်ားသည် မန္တန်ရွတ်ပြီး နောက်ထပ်ငါးနှစ်တိုင်တိုင် ထပ်၍ သူသတ်အလုပ်ကို လုပ်ခဲ့ပြန်လေသည်။

နောက်ထပ် ငါးနှစ်လွန်သောအခါ သူသတ်ယောကျ်ားသည် အသက်အရွယ်အလွန်ကြီးရင့်ပြီး အားအင်ဗလလျော့နည်းလာ၍ မန္တန်ကိုမျှပင် မရွတ်နိုင်တော့ပေ။ ရောဂါဝေဒနာအမျိုးမျိုးဖိစီးကာ တစ်ဘဝလုံးကပြုခဲ့သော မကောင်းမှုကံတို့၏ အကျိုးပေးခြင်းကို ခံရရှာလေသည်။ ထိုအချိန်၌ ရောဂါဝေဒနာအမျိုးမျိုး ပြင်းပြင်းထန်ထန် ခံစားနေရပြီး ကြောက်မက်ဖွယ်အသံကြီးဖြင့် အော်ဟစ်နေလေသည်။ မျက်စိထဲတွင် ငရဲမီးလျှံများ၊ သံတူဆောက်ပုတ်ကိုကိုင်စွဲထားသော ငရဲသားတို့ကိုသာ မြင်တွေ့နေရသည်။ ထိုသူသတ်ယောကျ်ားကြီး၏ အော်ဟစ်ငိုမြည်နေသံကိုကြားကြရသော အိမ်နီးချင်းတို့ ကြောက်ရွံ့ပြီး အခြားနေရာသို့ ပြောင်းရွှေ့သွားကြသည်။

ဤသို့ သူသတ်ယောကျ်ားကြီး ရောဂါဝေဒနာပြင်းထန်စွာခံစားပြီး အော်ဟစ်နေချိန် ဓမ္မသေနာပတိအရှင်သာရိပုတ္တရာမထေရ်မြတ်သည် ဒိဗ္ဗစက္ခုဖြင့် လောကကိုကြည့်သောအခါ ထိုအဖြစ်အပျက်တို့ကို ရှုမြင်တော်မူပြီး ထိုသူသတ်ယောကျ်ားသည် ယနေ့ပင်သေဆုံးလိမ့်မည်၊ သေလျှင် ငရဲ၌ကျလိမ့်မည်၊ အကယ်၍ ထိုသူသတ်ယောကျ်ားထံသို့ မိမိကြွသွားပြီး တရားအနည်းငယ်ချီးမြှောက်ပါက ထိုလူသတ်ယောကျ်ားသည် နတ်ပြည်၌ ဖြစ်လိမ့်မည်ဟု သိမြင်တော်မူ၏။ သို့ဖြစ်၍ ဓမ္မသေနာပတိ အရှင်သာရိပုတ္တရာမထေရ်မြတ်သည် နံနက်စောစောကပင် သပိတ်သင်္ကန်းကို ပြင်တော်မူ၍ ထိုသူသတ်ယောကျ်ား၏အိမ်သို့ကြွကာ အိမ်တံခါးဝ၌ ရပ်တန့်နေတော်မူခဲ့သည်။

အိမ်တံခါးဝ၌ ဓမ္မသေနာပတိအရှင်သာရိပုတ္တရာ ရပ်တန့်နေတော်မူသည်ကို သူသတ်ယောကျ်ားသည် အိပ်ရာထက်မှနေ၍ တွေ့မြင်ရသောအခါ အမျက်ဒေါသထွက်လျက် လူသေစေသောမန္တန်ကိုရွတ်ဆိုပြီး နှာခေါင်းမှ လေကိုပြင်းထန်စွာမှုတ်ထုတ်လိုက်သည်။ အရှင်သာရိပုတ္တရာမထေရ်မြတ်သည် နိရောဓသမာပတ်ကို ဝင်စားပြီး ထိုနိရောဓသမာပတ်မှထကာ နေလုလင်ကဲ့သို့ ထွန်းလင်းတောက်ပတင့်တယ်စွာ ရပ်နေတော်မူ၏။

သူသတ်ယောကျ်ားသည် မထေရ်မြတ်ကို သုံးကြိမ်တိုင်တိုင် မန္တန်ရွတ်ပြီး သေအောင်ပြုသော်လည်း သေအောင်မစွမ်းနိုင်ခဲ့ပေ။ ထိုအခါ အလွန်အမင်း အံ့ဩသွားပြီး မထေရ်မြတ်၌ ကြည်ညိုသော စိတ်ဖြစ်ပေါ်လာကာ မိမိအတွက်စီမံထားသော နို့ထမင်းကို မထေရ်မြတ်အား လောင်းလှူခဲ့၏။ မထေရ်မြတ်သည် သူသတ်ယောကျ်ား လောင်းလှူသောနို့ဂဏာဆွမ်းကို လက်ခံတော်မူပြီး အနုမောဒနာတရားအနည်းငယ်ကို ချီးမြှောက်တော်မူ၍ ကျောင်းသို့ပြန်ကြွခဲ့၏။ သူသတ်ယောကျ်ားသည် မထေရ်မြတ်အား ကြည်ညိုသောစိတ်ဖြစ်လျက် ထိုနေရာမှာပင် သေလွန်ခဲ့ပြီးနောက် နတ်ပြည်၌ ဖြစ်ခဲ့လေသည်။

အံ့သြဖွယ်ပါပေ။ ရာဂကင်းပြီးဖြစ်သော သာဝကသံဃာတော်တို့၏ တန်ခိုးတေဇော်အာနုဘော်ကြောင့် ငရဲ၌ဖြစ်လတ္တံ့သော ပုဂ္ဂိုလ်သည်ပင် နတ်ပြည်၌ ဖြစ်ရသေး၏။

ဒါနသည် လူတို့အား စောင့်ရှောက်၏။ ဒုဂ္ဂတိဘေးကို တားမြစ်၏။ နတ်ပြည်တက်ရာ စောင်းတန်းလှေကားသဖွယ်ဖြစ်၏။ ဒါနသည် တမလွန်ဘဝ၌ ငြိမ်းအေးမှုကိုပြုတတ်၏။ ဒါနသည် အလိုရှိသည်ကို ပေးတတ်သော စိန္တာမဏိပတ္တမြားကြီးနှင့်လည်းကောင်း၊ လိုတိုင်းရစေသောပဒေသာပင်ကြီးနှင့်လည်းကောင်း၊ ခပ်တိုင်းမလျော့သော နတ်ထမင်းအိုးနှင့်လည်းကောင်း တူလေသည်။ သီလရှိသောပုဂ္ဂိုလ်အား ပေးလှူခြင်းကြောင့် စကြာဝတေးမင်း၏ကျက်သရေ၊ သိကြားမင်း၏ စည်းစိမ်ချမ်းသာကိုသာမက လောကုတ္တရာ ချမ်းသာကိုလည်း ရနိုင်၏။

မကောင်းမှု၌မွေ့လျော်၍ ငရဲတွင်း၌နေရာယူပြီးဖြစ်သော ဤသူသတ်သမားသည် အရှင်သာရိပုတ္တရာကို ဆွမ်းတစ်နပ်လှူလိုက်ခြင်းကြောင့် ဆင်းရဲပြည့်နေသောအပါယ်ကိုကြဉ်၍ နတ်ပြည်သို့ရောက်ခဲ့ရ၏။ ထို့ကြောင့် ဤခေတ်ကောင်းကာလသမယအခါ၌ သဒ္ဓါတရားဖြင့် အလှူဒါနတို့ပြုကြပါလော့။ အလိုရှိတိုင်း ပြည့်စုံစေသောဒါနကို ပြုကြပါလော့။ ဒါနပြုကြရာဝယ် သီလကိုစောင့်သုံးပြီးပြုပါမူကား အတိုင်းထက်အလွန်ဆိုဖွယ်မရှိအောင် အတိသုန္ဒရကောင်းမြတ်လှပါပေ၏။

သာဝတ္ထိမြို့အတွင်း၌ သူသတ်ယောကျ်ားကွယ်လွန်၍ နတ်ပြည်သို့ရောက်သောသတင်းကို တစ်မြို့လုံးပြောဆိုနေကြသည်။ ဇေတဝန်ကျောင်း၌လည်း သံဃာတော်များစုဝေးကာ ထိုအကြောင်းကိုပင် ပြောဆိုနေတော်မူကြ၏။ မြတ်စွာဘုရားရှင်သည် ရဟန်းတို့ စုဝေးပြောဆိုရာ ဓမ္မသဘင်သို့ ကြွတော်မူခဲ့ပြီးလျှင် 'သင်တို့သည် ငါဘုရားကြွလာချိန်၌ အဘယ်မည်သော စကားကို ပြောဆိုနေကြသနည်း'ဟု အမေးရှိတော်မူ၏။ ထိုအခါ သံဃာတော်တို့က 'ဘုန်းတော်ကြီးတော်မူသော မြတ်စွာဘုရား၊

တပည့်တော်တို့သည် သူသတ်ယောကျ်ား နတ်ပြည်၌ဖြစ်ပုံအကြောင်းစုံ ပြောဆိုနေကြပါသည်’ဟုလျှောက်ထားကြသောအခါ၊ မြတ်စွာဘုရားရှင်က ‘ထိုသူသတ်ယောကျ်ားသည် အရှင်သာရိပုတ္တရာအား ပေးလှူသော နို့ဂဏှာ ဆွမ်းအလှူ၏ အကျိုးဆက်ကြောင့် ယနေ့ပင်နတ်ပြည်၌ဖြစ်ရ၏။ ထိုနို့ဂဏှာ ဆွမ်း၏ကျေးဇူးကြောင့် နောင်အခါ၌ ပစ္စေကဗုဒ္ဓါ ဖြစ်လိမ့်ဦးမည်’ဟု ဗျာဒိတ်စကား မိန့်ကြားတော်မူပါသည်။

ဤသူခိုးသူသတ်ယောကျ်ားဝတ္ထုကို အကြောင်းပြု၍ ရှေးဆရာမြတ်တို့က ‘အရှင်သာရိပုတ္တရာမထေရ်ကို ဆွမ်းအနည်းငယ်လှူခြင်းဖြင့် နတ်ပြည်သို့ရောက်ရ၏။ ထို့ကြောင့် တမလွန်လောက၌ နတ်ပြည်နိဗ္ဗာန်ကို ရောက်လိုကြသူတို့သည် လယ်ယာမြေကောင်းသဖွယ်ဖြစ်သော သံဃာတော်တို့အား ပေးလှူကြပါကုန်’ဟု တိုက်တွန်းစကား ရေးသားထားခဲ့၏။



## အနည်းငယ်သောကုသိုလ်၏အကျိုး

[၂၇။ သဒ္ဒေါပါသကဝတ္ထု]

ကဿပမြတ်စွာဘုရားရှင် လက်ထက်တော်အခါက ရတနာသုံးပါး၌ ကြည်ညို၍ သဒ္ဓါတရားနှင့်ပြည့်စုံသော ဥပါသကာအမျိုးကောင်းသား တစ်ဦးသည် ကြုံကြိုက်စက်ပြုလုပ်ခြင်းအတတ်ဖြင့် အသက်မွေး၍နေခဲ့၏။

တစ်နေ့သောအခါ ထိုဥပါသကာအမျိုးကောင်းသားသည် ဂိလာန ရဟန်းတော်တစ်ပါးကို ထောပတ်တစ်ဇွန်းလောင်းလှူခဲ့၏။ အခြားရဟန်း တော်တစ်ပါးကိုမူ တင်လဲခဲတစ်ခဲပေးလှူခဲ့၏။ အလွန်ဆာလောင်နေရှာ သော ခွေးကလေးတစ်ကောင်ကိုလည်း ထမင်းတစ်ခဲကျွေးမွေးခဲ့၏။ ငွေကြေး အခက်အခဲဖြစ်နေရှာသူတစ်ဦးကို အသပြာတစ်ကျပ်ပေးပြီး ကူညီ ခဲ့၏။ ဓမ္မကထိကရဟန်းတော်တစ်ပါးကို တရားနာအပြီး၌ သင်္ကန်းလျာ ပုဆိုးတစ်ထည်လှူဒါန်းခဲ့၏။ ဤသို့လျှင် ကောင်းမှုအမျိုးမျိုးပြုလုပ်ခဲ့ပြီး နောက် ထိုအမျိုးကောင်းသားသည် 'ငါသည် နောက်နောင်ဘဝသံသရာ၌ ကျင်လည်ရသည်ရှိသော် လူသူကင်းဝေးသော သမုဒ္ဒရာအတွင်း တောကြီး တောင်ဝှမ်းအလယ်၌ ရောက်နေရစေကာမူ အရာဝတ္ထုတစ်ခုခုကို အလိုရှိ ခဲ့ပါလျှင် ထိုအရာဝတ္ထုသည် လျင်စွာခဏ ပြည့်စုံပါစေသတည်း။ ငါ့ထံ မျက်မှောက် ရောက်ရှိပါစေသတည်း'ဟူသောဆုကို တောင်းယူခဲ့၏။

ထိုဥပါသကာအမျိုးသားသည် ထိုဘဝမှ သေလွန်သောအခါ နတ်ပြည်၌ဖြစ်၍ နတ်တို့၏စည်းစိမ်ချမ်းသာတို့ကို ခံစားစံစားပြီးလျှင် ထိုနတ်ပြည်မှ စုတေပြန်သော်၊ ဂေါတမမြတ်စွာဘုရားပွင့်တော်မူရာ

သာဝတ္ထိပြည်တွင် ဥစ္စာပစ္စည်းပြည့်စုံကြွယ်ဝသော မဟာသာလသူဌေးကြီး အိမ်၌ လူ့အဖြစ်ကို ရရှိခဲ့လေသည်။ အရွယ်ရောက်သောအခါ အိမ်ရာတည် ထောင် လူ့ဘောင်၏အပြစ်ကို ဆင်ခြင်မိပြီး ရတနာသုံးပါးကိုကြည်ညိုသည့် အလျောက် သာသနာဘောင်သို့ဝင်ရောက်ကာ ရဟန်းပြုခဲ့၏။ ထိုနောက်၌ အာသဝေါကုန်ခန်းရဟန္တာအဖြစ်သို့ ရောက်ရှိတော်ခဲ့မူပါသည်။

ထိုရဟန္တာမထေရ်သည် မြတ်စွာဘုရားရှင်ထံ ခွင့်ပန်တော်မူပြီး ဥဂ္ဂမြို့သို့ ရဟန်းငါးရာခြံရံလျက် ကြွသွားခဲ့၏။ ဥဂ္ဂမြို့သို့ရောက်လျှင် ဥဂ္ဂသူကြွယ်ကြီးက သံဃာတော်မြတ်တို့အား ဆွမ်းလုပ်ကျွေး၏။ ဆွမ်း ကျွေးပွဲအပြီးတွင် ဥဂ္ဂသူကြွယ်၏ သူဌေးကတော်ဒါယိကာမကြီးက ထို ရဟန္တာအရှင်မြတ်ကို ကြည်ညိုလှသည်ဖြစ်၍ ဤဥဂ္ဂမြို့မှာပင် သံဃာ ငါးရာနှင့်အတူ အမြဲသီတင်းသုံးတော်မူဖို့ လျှောက်ထားတောင်းပန်ခဲ့၏။ ရဟန်းတော်များသီတင်းသုံးရန် စုလစ်မွန်းချွန်တပ်သော ကျောင်းပေါင်း ငါးရာကိုလည်း ဆောက်လုပ်လှူဒါန်းခဲ့သည်။ ထိုရဟန္တာအရှင်မြတ်လည်း သူဌေးကတော်ဥပါသိကာမကြီး၏ သဒ္ဓါတရားအတိုင်း ဥဂ္ဂမြို့တွင် ရဟန်း တော်အပါးငါးရာနှင့်အတူ သီတင်းသုံးနေတော်မူခဲ့သည်။

ထိုအရှင်မြတ်သည် ဥဂ္ဂသူဌေးကတော်ကြီးလှူဒါန်းသော ကျောင်း၌ မွေ့လျော်သရွေ့သီတင်းသုံးတော်မူခဲ့ပြီးနောက် ရဟန်းငါးရာခြံရံပြီး ပဋ္ဌနရွာ သို့ ဒေသစာရီကြွတော်မူခဲ့၏။ ထိုရွာမှတစ်ဖန် ရဟန်းငါးရာတို့နှင့်အတူ လှေဖြင့်သမုဒ္ဒရာသို့ ကြွတော်မူပြန်ပါသည်။ သမုဒ္ဒရာကိုကူးနေစဉ် ခရီး အလယ်သို့အရောက် ထိုရဟန္တာအရှင်မြတ်၏ဝမ်း၌ လေနာရောဂါ ဖြစ်ပေါ်၍လာခဲ့၏။ သီတင်းသုံးဖော် ရဟန်းတော်တို့က 'အရှင်ဘုရား၊ ထိုရောဂါကို ရှေးအခါက အဘယ်ဆေးဝါးသောက်သုံးတော်မူပါသဖြင့် ပျောက်ငြိမ်းဖူးပါသနည်း'ဟု မေးလျှောက်ကြ၏။ ရဟန္တာအရှင်မြတ်က 'ငါ့ရှင်တို့...၊ ရှေးက ထောပတ်တစ်ဇွန်းကို ဘုဉ်းပေးခြင်းဖြင့် ထိုလေ ရောဂါပျောက်ဖူးခဲ့သည်'ဟုမိန့်ကြားသောအခါ၊ ခရီးသွားဖော်ရဟန်းတော်

တို့က 'အရှင်ဘုရား၊ ဤသမုဒ္ဒရာအလယ်၌ အရှင်မြတ်မိန့်ဆိုအလိုရှိသော ထောပတ်ကိုရနိုင်ဖို့ရန် မလွယ်ပါဘုရား'ဟု လျှောက်ထားကြလေသည်။

ထိုအခါ၌ ရဟန္တာအရှင်မြတ်က 'အရှင်တို့၊ ငါ၏သပိတ်ကိုယူ၍ သမုဒ္ဒရာရေအနည်းကိုထည့်ပြီး ငါ့ထံသို့ယူဆောင်ခဲ့ကြပါ'ဟု မိန့်ဆို၏။ ဆိုသည့်အတိုင်း သပိတ်အတွင်းသို့ သမုဒ္ဒရာရေအနည်းငယ်ကိုထည့်၍ ထိုရဟန္တာအရှင်မြတ်၏လက်သို့ ဆက်ကပ်လိုက်လျှင်ပင် သပိတ်အတွင်းရှိ သမုဒ္ဒရာရေသည် ထောပတ်အဖြစ်သို့ ပြောင်းလဲသွားလေတော့သည်။ ရဟန္တာအရှင်မြတ်လည်း ထိုထောပတ်ကိုဘုဉ်းပေး၍ လေနာရောဂါမှ ပျောက်ကင်းချမ်းသာတော်မူခဲ့ပါသည်။ ဤသို့ သမုဒ္ဒရာရေမှ ထောပတ်အဖြစ် ပြောင်းလဲသွားသည်ကို မြင်တော်မူကြသော ရဟန်းတော်တို့က 'အံ့ဩဖွယ်ကောင်းလေစွ'ဟု အထပ်ထပ်မိန့်ဆိုတော်မူကြ၏။

ထိုသို့ပြောကြားသည့်စကားကို ရဟန္တာအရှင်မြတ် ကြားသိတော်မူသောအခါ 'ငါ့ရှင်တို့၊ ငါပြုခဲ့သောကောင်းမှုအကျိုးကို မြင်ကြရမည်'ဟု မိန့်ဆိုကာ သမုဒ္ဒရာကိုကြည့်၍ သမုဒ္ဒရာရေသည် ထောပတ်ဖြစ်စေသတည်းဟု ဓိဋ္ဌာန်၏။ မြင်နိုင်သမျှ သမုဒ္ဒရာရေတို့သည် ထောပတ်ဖြစ်ကုန်၏။ ထိုအခါ ခရီးသွားဖော်ရဟန်းတော်တို့က 'အရှင်ဘုရား၌ အခြားသော ကုသိုလ်ကောင်းမှု ရှိပါသေးသလော'ဟု မေးကြပြန်ရာ ထိုအရှင်မြတ်က 'ငါ့၌ရှိသေး၏၊ ရှုကြကုန်လော့'ဟုဆို၍ ကျောက်တောင်ကိုကြည့်၏။ ထိုကြည့်သောခဏ၌ ဆွမ်းအုပ်နှင့်တကွ ဆွမ်း,ဟင်းလျာတို့ကို တွေ့ကြရ၏။ ထို့နောက် ဟိမဝန္တာတောင်ကို လှမ်း၍ကြည့်၏။ ဟိမဝန္တာတောင်ကြီးသည် ရွှေအတိပြီးသောတောင်ကြီးအဖြစ် မြင်ကြရပြန်၏။

ခရီးသွားဖော် ရဟန်းတော်များသည် အလွန်အံ့ဩကြပြီးလျှင် 'အရှင်မြတ်သည် မည်သည့်ကုသိုလ်ကောင်းမှုများ ပြုလုပ်ခဲ့သည့်အတွက် ဤသို့ ကြီးမားသော အကျိုးကျေးဇူးများကိုခံစားရပါသနည်း အရှင်ဘုရား' ဟုမေးလျှောက်ကြရာ 'ကဿပဘုရားရှင်လက်ထက်အခါက ပြုခဲ့သော

ငါ၏ ကုသိုလ်ကောင်းမှု အကျိုးပင်ဖြစ်သည်’ဟုဆိုပြီး မိမိ၏ရှေးဘဝ အတိတ်ကို မိန့်ကြားတော်မူခဲ့၏။ ကဿပမြတ်စွာဘုရားရှင်လက်ထက် အခါက မိမိသည် ကြံကြိတ်ယန္တရားပြုလုပ်၍ အသက်မွေးနေစဉ် ဂိလာန ရဟန်းတစ်ပါးအား ထောပတ်ဆွမ်းလောင်းလှူသောကုသိုလ်မှစ၍ မိမိ၏ အတိတ်ဇာတ်ကို ပြန်လည်ဖော်ထုတ်မိန့်ကြားတော်မူခဲ့၏။

‘ငါသည် ထိုဂိလာနရဟန်းအား ထောပတ်တစ်ဇွန်းလှူရသောဒါန၏ ကောင်းမှုကံကြောင့် သံသရာ၌ကျင်လည်ရသည့်ရှိသော် ဘဝကြီးငယ်၌ မည်သည့်အရပ်ဒေသမဆို ထောပတ်ကိုအလိုရှိပါက အလိုရှိသလောက် ရရှိခဲ့၏။ သမုဒ္ဒရာ၌ပင် ထောပတ်ကိုအလိုရှိပါက သမုဒ္ဒရာရေသည်ပင် ထောပတ်ဖြစ်ခဲ့ရ၏။ ဤကား တစ်ဇွန်းထောပတ်လှူခဲ့သောအကျိုးဖြစ်၏။

‘ငါသည် ဂိလာနရဟန်းတော်ကို တင်လဲခဲလှူရသောဒါန၏အကျိုး ကြောင့် နတ်ပြည်လူ့ပြည်၌ကျင်လည်ပြီး ငါအလိုရှိသောအခါ၌ တင်လဲကို အလိုရှိသလောက် လွယ်လင့်တကူရရှိခဲ့၏။ ကြီးကျယ်မြင့်မားသော ကျောက်တောင်ကြီးများသည်ပင် ငါ၏အလိုကိုလိုက်ကာ တင်လဲခဲ တောင်ကြီးဖြစ်ခဲ့ရသည်။ ဤကား တင်လဲခဲလှူသောအကျိုးဖြစ်၏။

‘ငါသည် ဆာလောင်နေရှာသောခွေးကလေးတစ်ကောင်ကို ထမင်း တစ်ခဲလှူရသော ဒါန၏အကျိုးကြောင့် ထိုအခါမှစ၍ ငါ့၌ ထမင်းအဖျော် ချို့တဲ့သောအဖြစ်ကို မကြုံခဲ့ရပေ။ ဖြစ်လေရာဘဝတို့၌ ထမင်းအဖျော် ရလွယ်၍ ကိုယ်စိတ်ချမ်းသာခြင်းရှိခဲ့သည်။ ယနေ့လည်း ဆွမ်းအလိုရှိပါက ငါ၏မျက်စိရှုကြည့်ရာအရပ်တို့၌ ဆွမ်းအိုးများရှိကြကုန်၏။

‘ငါသည် ကြွေးမြီတင်နေသူတစ်ဦးကို ငွေတစ်ကျပ်ပေးလှူခဲ့သော ဒါန၏အကျိုးကြောင့် ဖြစ်တိုင်းဖြစ်တိုင်းသောဘဝတို့တွင် ရွှေငွေများစွာကို ရခဲ့၏။ အကယ်၍ ကျောက်အတိပြီးသောတောင်ကိုသည်ပင် ရွှေဖြစ်စေ နိုင်၏။ ဤကား ကြွေးမြီဒုက္ခမှ ကယ်တင်ခဲ့သော အကျိုးဖြစ်၏။

'ငါသည် ဓမ္မကထိကရဟန်းတော်တစ်ပါး၏တရားကို နာယူ၍ မြတ်စွာဘုရားအားလည်းကောင်း၊ တရားတော်အားလည်းကောင်း ရည်မှန်း၍ ပုဆိုးတစ်ထည်လှူခဲ့ဖူး၏။ ထိုဒါန၏အကျိုးကြောင့် လူ့ပြည် နတ်ပြည်၌ ကျင်လည်သည်ရှိသော် အဝတ်များစွာကိုရခဲ့၏။ အခြားသော ပုဆိုးတို့ထက် ကောင်းမြတ်သောပုဆိုးကိုသာ ရရှိခဲ့၏။ ယနေ့ ငါသည် ပုဆိုးကို အလိုရှိပါမူ ဤဇမ္ဗူဒီပါကျွန်းသာမက ကျန်ကျွန်းသုံးကျွန်းနေ လူများအပေါင်းကိုပင် ပုဆိုးတို့ကို လုံလောက်အောင် ပေးစွမ်းနိုင်ပါ၏။ ဤကား ပုဆိုးလှူခဲ့ခြင်း၏အကျိုးဖြစ်၏။

'သင်တို့သည်လည်း တစ်ခါတစ်ရံ ကုသိုလ်ပြုရာ၌ အနည်းငယ်ဟု မထေမဲ့မြင် မပြုကြပါနှင့်၊ နည်းပင်နည်းသော်လည်း ထိုနည်းသောကုသိုလ် သည်ပင် နိဗ္ဗာန်ရောက်သည့်တိုင်အောင် အတိုင်းမသိသော အကျိုးကို ပေးတတ်ပါ၏'ဟူသော အနက်အဓိပ္ပါယ်ရှိသည့် အောက်ပါဂါထာကို ရွတ်ဆိုပြတော်မူလေသည်။

ကုသလံ နာဝမန္တဗ္ဗံ၊ ခုဒ္ဒကန္တိ ကဒါစိပိ။
အနန္တဖလဒံ ဟောတိ၊ နိဗ္ဗာနမ္ပိ ဒဒါတိ တံ။

ဤသဒ္ဓါတရားနှင့်ပြည့်စုံသောဥပါသကာ၏ဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'ထက်သန်ကြည်ညိုသောစိတ်ကြောင့် အနည်းငယ် သော ကုသိုလ်ကောင်းမှုသည်ပင် ကြီးမားသောအကျိုးကိုပေးတတ်၏ဟု သိနေကြသော သင်သူတော်ကောင်းတို့သည် ကောင်းမှု၌ မမေ့လျော့ကြ ပါနှင့်၊ ပစ္စေကဗုဒ္ဓါငါးရာကို ပေါက်ပေါက်လှူသော ဥပ္ပလဝဏ်ထေရီ လောင်း ပဒုမဒေဝီမိဖုရား၏အဖြစ်ကိုလည်း သတိပြုကြပါကုန်လော့'ဟု တိုက်တွန်းထားခဲ့၏။



## ပေးလှူတတ်ကကုသိုလ်ရ

[၂၈။ ကပဏဝတ္ထု]

ဂေါတမမြတ်စွာဘုရား ပရိနိဗ္ဗာန်စံဝင်တော်မူပြီးသောအခါက ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ ဗာရာဏသီပြည်တွင် သူတစ်ပါးအိမ်၌ ထမင်းတစ်နပ်စားပြီး ပေးသမျှကိုယူ၍ ပင်ပင်ပန်းပန်းအလုပ်လုပ်နေရရှာသော သူဆင်းရဲတစ်ဦး ရှိခဲ့သည်။ ထိုစဉ်အခါက ဗာရာဏသီပြည်တွင် ငွေကြေးပြည့်စုံသူတို့သည် မဏ္ဍပ်ကြီးများထိုးကာ အလှူပွဲကြီးများကို ခြိမ့်ခြိမ့်သဲမစဲအောင် ကျင်းပနေကြ၏။

ထိုသို့ ဗာရာဏသီပြည်သားသူကြွယ်များ၏ မဏ္ဍပ်ကြီးထိုး, ကနားကြီးဆောက် လှူတန်းနေကြသောအလှူပွဲကြီးများကို မြင်ရသော ထိုဆင်းရဲသားခမျာ 'ငါ့ဘဝဟာ နံ့ချာလှပေစွ၊ ရှေးအတိတ်ကံ အကြောင်းမလှခဲ့သည့်အတွက် ယခုဘဝမှာ သူတစ်ပါးအိမ်၌ ပင်ပန်းကြီးစွာ အလုပ်လုပ်ရပြီး ပေးသမျှယူ ကျွေးသမျှစားနှင့် မိမိရဲ့အသက်တစ်ချောင်းကို ခဲယဉ်းပင်ပန်းကြီးစွာ မွေးခဲ့ရတယ်။ သူတကာလှူလို့မှ မလှူနိုင်။ သူတို့တစ်တွေမှာတော့ အလှူကြီးအတန်းကြီးတွေလုပ်ပြီး နတ်ပြည်တက်လမ်းကို ဖောက်ထွင်နိုင်ကြပါပေတယ်။ ငါလည်း သူတို့လို လှူချင်စမ်းပါဘိ။ သူတို့လို လှူစရာငွေကြေးအသပြာ ငါ့မှာမရှိသော်လည်း လုပ်အားတော့ရှိလေရဲ့၊ ဒီလုပ်အားကို အရင်းတည်ပြီး အလှူဒါနတစ်ခုခု ထမြောက်အောင် ကြံဆောင်မှ သင့်တော့မယ်'ဟုကြံစည်စိတ်ကူးပြီး ထိုနေ့ကစ၍ မိမိရှာဖွေရသမျှ ငွေကြေး,ဆန်စသည်တို့ကို စုဆောင်းလေတော့သည်။

နေ့ညမရွေး ရသမျှအလုပ်ကို ရှာဖွေလုပ်ကိုင်ပြီး ရလာသမျှဥစ္စာနှင့် အလှူခံ၍ရလာသောပစ္စည်းကို စုလိုက်သောအခါ ဂဏာနို့ဆွမ်းကပ်နိုင်လောက်သည့် အခြေသို့ဆိုက်လာ၏။ ထိုသို့ အလှူဝတ္ထုပြည့်စုံသောအခါ သစ်ဝါးကလေးနှင့်မကျော့ပ်ဆောက်၊ တောပန်းများနှင့်မကျော့ပ် ကိုခြယ်လှယ်ဆင်ယင်ပြီး သံဃာတော်များကိုပင့်ဖိတ်ကာ မိမိလုပ်အားဖြင့် ရအပ်သောနို့ဂဏာဆွမ်းကို ရိုသေစွာကပ်လှူခဲ့လေသည်။ မိတ်သင်္ဂဟ အနည်းငယ်ကိုလည်း ဖိတ်ခေါ်ကာ ကျွေးမွေးခဲ့သည်။ အလှူပြုပြီးနောက် ထိုဆင်းရဲသားသည် သေလွန်ခဲ့လေရာ နတ်ပြည်၌ဖြစ်၍ အလွန်ထူးခြားသော နတ်စည်းစိမ်ကို ခံစားစံစားရလေသည်။

ထိုနတ်သား၏နတ်ဗိမာန်သည် ရွှေဗိမာန်အဆောက်အအုံကြီးဖြစ်သည်။ ရွှေဗိမာန်ဘေးဝန်းကျင်၌ နတ်တို့က တူရိယာများတီးမှုတ်နေကြ၏။ နတ်သမီးတစ်ထောင် အခြံခြံရံလျက်ရှိသည်။ ထိုကုသိုလ်ရှင်နတ်သားသည် ကြီးကျယ်ခမ်းနား ထူးခြားသော နတ်စည်းစိမ်ကို ခံစားနေခဲ့လေသည်။

တစ်နေ့သောအခါ သုဝဏ္ဏသေလဝိဟာရခေါ် ရွှေတောင်ကျောင်း၌ သီတင်းသုံးနေသော အရှင်မဟာသံဃရက္ခိတမထေရ်သည် ပဋိသမ္ဘိဒါမဂ်သို့ရောက်၍ နတ်ပြည်၌ ဒေသစာရီ လှည့်လည်ရှိသော် ထိုနတ်သား၏ဗိမာန်သို့ ဆိုက်ရောက်တော်မူခဲ့၏။ ထိုနတ်သား၏ စည်းစိမ်ချမ်းသာကြီးမားပုံကို ကြည့်တော်မူပြီး အရှင်မြတ်က 'သင်နတ်သား၊ သင်ပြုခဲ့သောရှေးကောင်းမှုကိုသိတော်မူလိုသည်'ဟုမေးတော်မူခဲ့၏။ ထိုအခါ နတ်သားက မိမိ၏ရှေးဘဝက ဆင်းရဲလွန်း၍ လုပ်အားဖြင့်ရှာဖွေ၍ရသော ဂဏာနို့ဆွမ်းကို သံဃာတော်အရှင်မြတ်တို့အား ကပ်လှူခဲ့၍ ထိုဒါနအကျိုးကြောင့် ဤသို့ ခံစားစံစားရပုံအကြောင်းကို ရှင်းလင်းလျှောက်ထားခဲ့လေသည်။

ဤသို့လျှင် မိမိ၏အတိတ်ဘဝကပြုခဲ့သော ဒါနကောင်းမှု၏အကျိုးကို လျှောက်ထားပြီးနောက်–

'ယခုအခါသည် ဘုရားပွင့်သောအခါဖြစ်၏။ လောက၌ တရားတော်

သည်လည်း တည်ရှိနေပေ၏။ ကောင်းမြတ်သောသီလနှင့်ပြည့်စုံသော၊ မြတ်သောအလှူကိုခံယူထိုက်သော သံဃာတော်အပေါင်းလည်းရှိပေ၏။ ထိုရတနာမြတ်သုံးပါး၌ ကောင်းမှုတို့ကို ပြုသင့်ပြုထိုက်၏။ သံသရာသည် အဖန်တလဲလဲဖြစ်၏။ အပါယ်၌သာ ပြည့်ကြ၏။ ကောင်းမှုကို မျက်နှာလွှဲသူတို့သည် အပါယ်ဒုဂ္ဂတိသို့ သွားကြရ၏။

'ငါသည် အတိတ်ဘဝက သံဃာတော်တည်းဟူသော လယ်ယာမြေကောင်း၌ ဒါနမျိုးစေ့ကိုစိုက်ပျိုးလို၍၊ ထိုစိုက်ပျိုးသော ဒါနမျိုးစေ့သည် တမလွန်ဘဝ၌ ချမ်းသာကိုဖြစ်စေလို၍ တစ်အိမ်တက်ဆင်းရှာ၍ရသော ငွေစကလေးဖြင့် သံဃာတော်အရှင်မြတ်တို့အား နို့ဂဏာသုဒ္ဓါဘုတ်ကို ပေးလှူခဲ့၏။ ထိုကံ၏အကျိုးကြောင့် နတ်ပြည်၌ ဤစည်းစိမ်ကို ခံစားရခြင်းဖြစ်၏'ဟူ၍ လျှောက်ထားခဲ့ပါသည်။

အရှင်မဟာသံဃရက္ခိတမထေရ်သည် နတ်ပြည်မှနေ၍ လူ့ပြည်သို့ ပြန်လည်ရောက်ရှိတော်မူသောအခါ လူတို့အား မိမိတွေ့မြင်တော်မူခဲ့သော နတ်တို့၏စည်းစိမ်တို့ကို မိန့်ကြားတော်မူ၏။ နတ်ပြည်၌ ထူးခြားသော စည်းစိမ်ရှင်နတ်သား၏အတိတ်ဘဝက ဒါနမျိုးစေ့စိုက်ပျိုးပုံကိုပြောပြရာ ကြားသိကြရသော သူတော်စင်အပေါင်းတို့က ဒါနအစရှိသော ကောင်းမှုတို့ကိုပြုကြပြီး၊ သေလွန်သောအခါ ထိုဆင်းရဲသား ကုသိုလ်ရှင်ကဲ့သို့ပင် နတ်ပြည်၌ ဖြစ်ကြရလေသည်။

ဤ အထီးကျန်သူဆင်းရဲ၏ဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'ဆန်တစ်ပြည်မျှ ကိုယ်ပိုင်မရှိလောက်အောင် မွဲတေနေသော သူဆင်းရဲ အထီးကျန်သည် ဒါနအလှူပေး၍ ထူးသောအကျိုးကို ခံစားရပါလျှင် သင်သူတော်ကောင်းတို့သည် တကယ်ပင် လူနတ်ချမ်းသာကို လိုလားတောင့်တပါက မလှူရက်လို၀န်တိုသော မစ္ဆေရအညစ်အကြေးကိုပယ်၍ ဒါနအလှူကို ပြုကြပါလော့'ဟု တိုက်တွန်းထားပေ၏။



# ဆွမ်းတစ်လုတ်အလှူ၏အကျိုး

[၂၉။ ဒေဝပုတ္တဝတ္ထု]

ရှေးကမ္ဘာတစ်ခု၌ နာရဒမြတ်စွာဘုရားပွင့်တော်မူခဲ့၏။ ထိုအခါက သီရိလင်္ကာကျွန်းသည် အမည်တစ်မျိုးနှင့်ထင်ရှားခဲ့ပြီးလျှင် တစ်ကျွန်းလုံးသရောကြီးခိုင်းကာ လူတို့ရှားရှားနှင့်အများ အငတ်ဘေး ဆိုက်ရောက်ခဲ့၏။ စားပင်သီးပင်များ ပျက်စီး၍ စားသောက်ဖွယ် ရှားပါးလှသည့်အတွက် ဆန်ကိုပင် အစေ့လိုက်ရေတွက်ပြီး ချက်စားရသောအဖြစ်မျိုး ကြုံတွေ့နေကြရ၏။ ဆန်တစ်ဆုပ်ရေတစ်မှုတ်မဟုတ်တော့ဘဲ ဆန်တစ်ဆုပ်ကို ရေတစ်ပုံးခန့်ခပ်များများရော၍ ဆန်ပြုတ်ရေကြဲကိုသာ သောက်သုံးနေကြရရှာသည်။

ထိုသို့ အငတ်ဘေးကြီးဆိုက်နေစဉ်အခါ ရဟန်းတော်တစ်ပါးသည် ရွာအတွင်းသို့ ဆွမ်းအလို့ငှာ လှည့်လည်တော်မူရာ ဆွမ်းမရဘဲ သပိတ်ကိုသာ ရေဆေးထားသည့်အတိုင်း ပိုက်လျက်သားပြန်ကြွခဲ့ရသည်။ ထိုရဟန်းတော်သည် အိမ်တစ်အိမ်သို့ ဆွမ်းခံဝင်သောအခါ ထိုအိမ်၌ရွာသားအချို့သည် ဖောင်းကားရှက်တွင် ဆန်အနည်းငယ်ထည့်ပြီး ရေကိုများများစွက်ကာ ပြုတ်သောက်နေကြ၏။ ရဟန်းတော်ကြွလာသည်ကို မြင်ကြလျှင် မိမိတို့ပြုတ်နေသော ဆန်ပြုတ်အိုးကလေးအတွင်းမှဆန်ကို ထုတ်ယူ၍ ထမင်းအဖြစ်ချက်ပြီး ရဟန်းတော်၏သပိတ်အတွင်းသို့ ထက်သန်သော သဒ္ဓါအဟုန်ဖြင့် လောင်းလှူလိုက်ကြ၏။ ထိုရွာသားတို့၏ထက်သန်သော သဒ္ဓါအဟုန်ကြောင့် သူတို့၏ထမင်းအိုးကလေးမှာ ခပ်ယူလိုက်သောနေရာတွင် ခပ်ရာမထင်ဘဲ ပကတိနဂိုအတိုင်း ထမင်းတို့ ပြည့်မြဲပြည့်နေသည်ကို အံ့ဩစဖွယ် တွေ့ကြရသည်။

ဤသို့ အံ့ဩဖွယ်မြင်ကွင်းကို မြင်တွေ့လိုက်ရသောအခါ ရွာသားများသည် ထမင်းအိုးကလေးကို ကြည့်ကြပြီး 'ထိုအရှင်မြတ်ကို ငါတို့လှူတဲ့

အကျိုး 'လက်ငင်းခံစားကြရတာပဲ'ဟုပြောဆိုကြကာ မိမိတို့၏ဆွမ်းအလှူကို ဝမ်းမြောက်နေကြ၏။ ပြီးနောက် လှူအပေါင်းတို့စုဝေးကြပြီး ထမင်းအိုးကလေးမှထမင်းကိုခူးခပ်၍စားကြရာ ထိုထမင်းအိုးကလေးသည် နတ်ထမင်းအိုးကဲ့သို့ ခူးခပ်ရာမထင် ပကတိပြည့်မြဲအတိုင်း ပြည့်နေသည်ကို တွေ့ကြရ၏။ ထိုအခါမှစ၍ လာလာသမျှလူအပေါင်းကို ထိုထမင်းအိုးကလေးမှပင် ခူးခပ်ကျွေးမွေးပြီး ကုသိုလ်ယူခဲ့ကြသည်။

ရဟန်းတော်သည် ရွာအတွင်းမှ ဆွမ်းအနည်းငယ်ကို ခံယူခဲ့ပြီးနောက် ရွာအပြင်သို့ကြွတော်မူကာ ရွာပြင်တစ်နေရာ သစ်ပင်ရင်း၌ ဆွမ်းဘုဉ်းပေးရန် ပြင်တော်မူပါသည်။ ထိုအခါ ရဟန်းတော်မှီ၍ထိုင်နေသော သစ်ပင်စောင့်နတ်သည်လည်း အာဟာရပြတ်၍ ပင်ပန်းနွမ်းနယ်နေသည်ဖြစ်၍ ဆွမ်းဘုဉ်းပေးရန်ပြင်နေသော ရဟန်းတော်ကိုမြင်လျှင် မိမိကိုယ်ကို အဘိုးအိုတစ်ဦးအသွင်ဖန်ဆင်းပြီး ရဟန်းတော်၏အနီး၌ ရပ်နေခဲ့၏။ ရဟန်းတော်သည် မိမိ၏အနီး၌ ထိုအဘိုးကြီးရပ်နေသည်ကို သတိမမူမိပေ။ ဆွမ်းကိုဘုဉ်းပေးမြဲဘုဉ်းပေးနေခဲ့၏။ နောက်ဆုံးဆွမ်းလုတ်ယူရန် ပြင်သောအခါ အဘိုးကြီးယောင်ဆောင်ထားသည့် ရုက္ခစိုးက ချောင်းဟန့်လိုက်ကာမှ မိမိ၏အနီး၌ရပ်နေသောအဘိုးကို တွေ့မြင်တော်မူလေသည်။ မထေရ်သည် အဘိုးကြီးကို သနားတော်မူသည့်အတွက် မိမိ၏နောက်ဆုံးဘုဉ်းပေးရန် ပြင်ထားသော ဆွမ်းလုတ်ကို ပေးလှူတော်မူလေသည်။

ထိုအခါ အဘိုးကြီးယောင် ဆောင်ထားသော ရုက္ခစိုးနတ်သည် ရဟန်းတော်ပေးလှူသော ဆွမ်းလုတ်ကိုကိုင်ကာ စဉ်းစားနေခဲ့၏။ 'ငါသည် ရှေးရှေးဘဝက အစာအာဟာရကိုမလှူခဲ့၍ ယခုရုက္ခစိုးဘဝ၌ နတ်ဖြစ်ပါလျက် အာဟာရကို ပြည့်စုံအောင်မရခဲ့ပေ။ ယခု ရဟန်းတော်ပေးလှူသော ဤဆွမ်းလုတ်ကို ငါစားလိုက်ပါက ယခုမျက်မှောက် ပစ္စုပ္ပန်အတွက် အကျိုးတစ်ရံသာရှိမည်၊ သံသရာအတွက် အကျိုးမဖြစ်။ အကယ်၍ ငါ မစားဘဲ ရဟန်းတော်ကို ပြန်၍လှူခဲ့ပါမူ သံသရာအတွက် အကျိုးများ

ပေအံ့၊ နောင်သံသရာ၌ အစာအာဟာရငတ်မွတ်ခြင်းမှ ကင်းပေလိမ့်မည်' ဟု အကြံဖြစ်ခဲ့၏။

ရက္ခစိုးသည် ရဟန်းတော်ထံပါးသို့ ချဉ်းကပ်ပြီး 'အရှင်ဘုရား၊ အကျွန်ုပ်ကို ပစ္စုပ္ပန်အတွက် မချီးမြှောက်ပါနဲ့၊ တမလွန်အတွက် ချီးမြှောက်တော်မူပါ' ဟုဆို၍ ရဟန်းတော်၏သပိတ်အတွင်းသို့ ဆွမ်းကိုလောင်းထည့်လိုက်၏။ သပိတ်အတွင်းသို့ ဆွမ်းလုတ်ကျသည်နှင့်တစ်ပြိုင်နက် နတ်တို့၏အစားအစာဘောဇဉ်တို့သည် ခွက်ကြီးခွက်ငယ်များစွာဖြင့် တမုဟုတ်ချင်းပေါ်ထွက်လာလေ၏။ ထိုအခါ ရက္ခစိုးသည် နတ်ဘောဇဉ်အာဟာရတို့ကို ရဟန်းတော်အား ရှေးဦးစွာကပ်လှူခဲ့၏။ ထိုအခါမှစ၍ ရက္ခစိုးနတ်သည် လူနတ်သတ္တဝါတို့ကို အစားအသောက်တို့ဖြင့် ချီးမြှောက်ပေးကမ်းလှူဒါန်းနေခဲ့ပြီး ထိုရက္ခစိုးနတ်ဘဝမှစုတေသော် ပဒုမုတ္တရမြတ်စွာဘုရားလက်ထက်အခါ၌ ဗာရာဏသီပြည်တွင် ရတနာသုံးပါး၌မသက်ဝင်သော မိစ္ဆာဒိဋ္ဌိသူဌေး၏အိမ်တွင် လူဖြစ်ခဲ့ရပြန်၏။ အမည်ပေးရန်အချိန်ရောက်သော် ဒေဝ-ဟု အမည်မှည့်ခဲ့ကြ၏။

ထိုမိစ္ဆာဒိဋ္ဌိအယူရှိသောမိဘတို့သည် ဒေဝအရွယ်ရောက်သောအခါ ကွယ်လွန်ခဲ့ကြ၏။ ဒေဝ၏မိဘတို့ထားရစ်သော စည်းစိမ် ဥစ္စာရွှေငွေ ရတနာများစွာ ကြွင်းကျန်ခဲ့လေသည်။ ဒေဝသည် တိုက်တာကျီကျ အပြည့်ဖြစ်သော ထိုရတနာတို့ကိုကြည့်ရှုပြီးလျှင် 'ငါ၏မိဘတို့သည် မိစ္ဆာဒိဋ္ဌိများဖြစ်ကြသည့်အလျောက် မလှူမတန်းမပေးမကမ်းဘဲ သေလွန်ကုန်ကြပြီ။ ငါကား ထိုရတနာအပေါင်းတို့ကို ငါနှင့်အတူ အပါယူသွားမည်' ဟု ကြံစည်ပြီး ဥစ္စာလက်မဲ့ဆင်းရဲသားအပေါင်းကိုစုဝေးစေပြီး ခုနစ်ရက်လုံးလုံး အလှူကြီးပြုကာ ပေးကမ်းဝေငှလိုက်လေသည်။ ပြီးလျှင် ရသေ့ပြု၍ တောရဆောက်တည်နေခဲ့၏။ မကြာမီမှာပင် အဘိညာဉ်ငါးပါး သမာပတ်ရှစ်ပါးတို့ကိုရခဲ့၍ ကောင်းကင်ယံ၌ လှည့်လည်သွားလာနေခဲ့လေသည်။

တစ်နေ့သော် ထိုဈာန်ရအရှင်ရသေ့သည် ဟံသာဝတီနေပြည်တော်၌

သစ္စာလေးပါးတရားကို ဟောနေတော်မူသော ပဒုမုတ္တရမြတ်စွာဘုရားကို မြင်တော်မူလျှင် ကောင်းကင်မှဆင်း၍ တရားတော်ကို ရိုသေစွာနာယူပြီး မိမိ၏ကျောင်းသင်္ခမ်းသို့ ပြန်ခဲ့လေသည်။ ထိုရသေ့သည် မိမိ၏ကျောင်းသင်္ခမ်းမှာပင် အသက်ထက်ဆုံးတရားဘာဝနာဖြင့် မွေ့လျော်ပျော်ပိုက်နေခဲ့ပြီး ထိုဘဝမှသေလွန်သော် တာဝတိံသာနတ်ပြည်၌ဖြစ်၍ ကမ္ဘာပေါင်းသုံးဆယ်ပတ်လုံး နတ်စည်းစိမ်ကို ခံစားခဲ့ရ၏။ ထို့ပြင် နတ်ပြည်ခြောက်ထပ်ကိုအစိုးရသော သိကြားမင်းအဖြစ် ငါးဆယ့်တစ်ကြိမ်၊ စကြဝတေးမင်းအဖြစ်နှစ်ဆယ့်တစ်ကြိမ်နှင့် လူ့စည်းစိမ်ချမ်းသာတို့ကို ခံစားပြီးသော် ဂေါတမမြတ်စွာဘုရားပရိနိဗ္ဗာန်ပြုသောအခါ၌ သာဝတ္ထိမြို့တွင် လူဖြစ်ခဲ့ရပြန်၏။

သာဝတ္ထိပြည်၌ လူ့အဖြစ်ကိုရပြီးနောက် ခုနစ်နှစ်သားအရွယ်တွင် ဓမ္မကထိကရဟန်းတော်တစ်ပါးဟောကြားသော တရားတော်ကိုနာယူရ၍ အနိစ္စသညာကိုလေ့လာမှတ်သားရာ ပဋိသမ္ဘိဒါမဂ်နှင့်တကွ ရဟန္တာအဖြစ်သို့ ရောက်တော်မူခဲ့၏။ ထို့နောက် မိမိပြုခဲ့သော ရှေးကောင်းမှုနှင့်ဘဝ အစဉ်ကို ကြည့်ပြီးလျှင် သီတင်းသုံးဖော် သံဃာတော်တို့အား မိမိ၏ဖြစ်စဉ် အပဒါန်ကို ကျူးရင့်ပြောကြားတော်မူလေသည်။ ထိုသို့ပြောကြားတော်မူပြီးသည်၏ အဆုံးတွင် 'ငါသည် အလှူဒါနကိုကောင်းစွာပြုခဲ့၏။ မြတ်သောတရားတော်ကို ရိုသေစွာနာယူခဲ့၏။ ထိုကောင်းမှုကံတို့၏အစွမ်းဖြင့် ဒုက္ခ၏အဆုံးကို ပြုခဲ့လေပြီ' ဟုမိန့်ဆိုတော်မူကာ လူအများကို ကုသိုလ်ကောင်းမှုပြုလုပ်ကြရန် တိုက်တွန်းတော်မူခဲ့၏။

ဤရုက္ခစိုးနတ်ဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'နောက်ဆုံးစားရန်ကျန်သော ဆွမ်းတစ်လုတ်ကိုပေးလှူသဖြင့် လူနတ်နိဗ္ဗာန်သုံးတန်သော ချမ်းသာကိုရသည်ဖြစ်ရာ၊ သင်သူတော်ကောင်းတို့သည်လည်း များစွာသောဥစ္စာစီးပွားတို့ကို ပေးလှူကြသည်ဖြစ်၍ သင်တို့ရရှိကြမည့်အကျိုးကို အဘယ်ပုဂ္ဂိုလ်ကမှ ကုန်စင်အောင် ရေတွက်နိုင်လိမ့်မည်မဟုတ်' ဟု အမှာစကားရေးသားခဲ့ကြ၏။

# ရှင်သီဝလိမထေရ်ဝတ္ထု

[၃၀။ သီဝလိတ္ထေရဝတ္ထု]

ဤဘဒ္ဒကမ္ဘာမှ ပြန်၍ရေတွက်သည်ရှိသော် ကမ္ဘာတစ်သိန်းထက် ကာလ၌ ပဒုမုတ္တရာဘုရားရှင်ပွင့်တော်မူခဲ့၏။ ပဒုမုတ္တရမြတ်စွာဘုရားသည် ဟံသာဝတီပြည့်ရှင်မင်းကြီးနှင့်တကွသော ပရိသတ်လေးပါးတို့၏ အလယ်၌ ရဟန်းတော်မြတ်တစ်ပါးကို လာဘ်လာဘပေါများသောအရာ၌ အသာဆုံး အမြတ်ဆုံး ဧတဒဂ်ထားတော်မူခဲ့၏။

ဟံသာဝတီပြည့်ရှင်ဘုရင်မင်းမြတ်သည် လာဘ်လာဘပေါများသော အရာ၌ ဧတဒဂ်ထားတော်မူခြင်းခံရသည့် ရဟန်းတော်ကို ဖူးမြင်ရသော အခါ ထိုရဟန်းတော်ကဲ့သို့ ဧတဒဂ်ရလိုသောစိတ် ဖြစ်ပေါ်လာခဲ့၏။ သို့ဖြစ်၍ ဘုရားအမှူးရှိသော သံဃာတော်တို့အား အလှူကြီးပေးလှူပြီး ဘုရားရှင်၏ ခြေတော်ရင်း၌ ဧတဒဂ်ဆုကို ပန်ဆင်ခဲ့လေသည်။ ပဒုမုတ္တရမြတ်စွာဘုရား ရှင်က 'နောင် ဂေါတမမြတ်စွာဘုရားပွင့်တော်မူသောအခါ၌ ဆုလာဘ် လာဘပေါများသော လာဘဂ္ဂအရာကို ရလတ္တံ့'ဟု ဗျာဒိတ်စကားမိန့်ကြား တော်မူပါသည်။

ဟံသာဝတီမင်းသည် ဝမ်းမြောက်သောစိတ်ဖြစ်လျက် ကုသိုလ် ကောင်းမှုတို့ကို အသက်ထက်ဆုံးပြုကာ ထိုဘဝမှသေလွန်သော် နတ်ပြည်၌ ဖြစ်လေသည်။ နတ်ပြည်၌သက်တမ်းစေ့နေခဲ့ပြီးစုတေပြန်သော် ဗာရာဏ သီပြည်၌ သူဌေးသားတစ်ဦးဖြစ်ခဲ့ပြီး အရှင်ပစ္စေကဗုဒ္ဓါအပါးတစ်ထောင် တို့ကို ပစ္စည်းလေးပါး အသက်ထက်ဆုံးလှူ၍ ထိုဘဝမှသေလွန်သော် နတ်ပြည်၌ ဖြစ်ရပြန်လေ၏။

နတ်ပြည်၌ နတ်စည်းစိမ်ကိုခံစားပြီး စုတေပြန်သောအခါ ဝိပဿီမြတ်စွာဘုရားလက်ထက်အခါ ဗန္ဓုဝတီမြို့၌ အမျိုးသားတစ်ဦးဖြစ်ခဲ့၍ ဗန္ဓုဝတီမင်း၏ စစ်တပ်၌ဝင်၍ စစ်သူကြီးအဖြစ်အမှုထမ်းခဲ့၏။ ဗန္ဓုဝတီမြို့သူမြို့သားတို့သည် ဝိပဿီဘုရားအမှူးရှိသော သံဃာတော်အပေါင်းကို ဆွမ်းတော်ကြီးလောင်းလှူခဲ့ကြ၏။ ထိုဆွမ်းလောင်းပွဲကြီး၌ အလှူဝတ္ထုတို့ ပြည့်စုံစေငှလုသော်လည်း အလှူဝတ္ထုတစ်ခု ကျန်နေ၏။ ထိုအလှူဝတ္ထုမှာ နို့ခမ်းအိုးနှင့် ပျားလဘို့ဖြစ်သည်။ နို့ခမ်းအိုးနှင့်ပျားလဘို့ရရန်အတွက် အလှူဒါယကာတို့က အနီးအပါးဌာနများသို့ အဖိုးအခပေး လူလွှတ်ပြီး ရှာဖွေခဲ့ကြသည်။

ထိုအချိန်တွင် စစ်သူကြီးသည် မင်းကြီးကို ဆက်ကပ်ရန်ဟု နို့ခမ်းအိုးနှင့်ပျားလဘို့ကြီးတစ်ခုကိုကိုင်၍ မြို့တံခါးမှဝင်လာ၏။ ထိုစစ်သူကြီးမြင်ကြသောအခါ နို့ခမ်းအိုးနှင့်ပျားလဘို့ လိုက်ရှာနေကြသူများက 'ငါ့ကိုရောင်းပါ၊ ငါ့ကို ရောင်းပါ'နှင့် ဝိုင်းအုံလုယက်ပြီး ဝယ်ယူကြသည်။ အချို့က 'အသပြာတစ်ထောင်ပေးပါမည်'ဟုဆိုကြ၏။ စစ်သူကြီးက မိမိထံမှ နို့ခမ်းအိုးနှင့်ပျားလဘို့ အလုအယက်ဝယ်နေသူများကို ကြည့်ပြီး 'ဒီအဖိုးတန်တဲ့ နို့ခမ်းအိုးနဲ့ပျားလဘို့ကို ဘာလုပ်ဖို့ဈေးကောင်းပေး၍ ဝယ်ကြတာပါလဲ'မေးလေသည်။ ဆွမ်းလောင်းပွဲကြီး၌ မြတ်စွာဘုရားကိုကပ်လှူရန် ဝယ်ယူနေကြခြင်းဖြစ်ကြောင်း ပြောပြကြသောအခါ 'ဒီလိုဆို မရောင်းလိုတော့ပါ၊ ပျားရည်ညှစ်ပြီး နို့ခမ်းနဲ့ရော၍ မြတ်စွာဘုရားအား ကိုယ်တိုင်လှူပါတော့မယ်'ဟုဆိုပြီး ဇီရာငြုပ်ကောင်းစသည်ရော၍ နို့ပျားရည်ပြုလုပ်ပြီး မြတ်စွာဘုရားအား လှူဒါန်းခဲ့၏။ မြတ်စွာဘုရား၏တန်ခိုးတော်ကြောင့် ထိုနို့ပျားရည်ကို ဘုရားအမှူးရှိသော ခြောက်သန်းရှစ်သိန်းသောရဟန်းတို့ လောက်လောက်ငငဘုဉ်းပေးကြရ၏။ ထိုယောကျာ်းသည် နို့ပျားရည်လှူရသောကောင်းမှုကံကြောင့် လူ့ပြည်နတ်ပြည်တို့၌ စည်းစိမ်ချမ်းသာအဝဝကိုခံစားပြီး ဂေါတမမြတ်စွာဘုရား လက်

ထက်တော်အခါ၌ ကောလိယမြို့ မဟာလိစ္ဆဝီမင်းကြီး၏ အဂ္ဂမဟေသီ မိဖုရားကြီးသုပ္ပိယာ၏ဝမ်း၌ သန္ဓေစွဲယူနေတော်မူခဲ့သည်။

သုပ္ပိယာမိဖုရားကြီးသည် သန္ဓေသားကို ခုနစ်နှစ်,ခုနစ်လလွယ် ပိုက်ထားရပြီး မွေးဖွားရန်အချိန်စေ့ရောက်သောအခါ၌ ခုနစ်ရက်တိုင်တိုင် ဝေဒနာကိုခံစားခဲ့ရ၏။ ခုနစ်ရက်စေ့မှ သတို့သားကလေးကိုဖွားမြင်ခဲ့ရာ မိဘတို့က သီဝလိဟုအမည်ကိုမှည့်ကြ၏။ ဤသို့ အမိဝမ်း၌ ခုနစ်နှစ်, ခုနစ်လ,ခုနစ်ရက်ခိုအောင်းကာ ဇာတိကြောင့်ဖြစ်သော ဆင်းရဲဒုက္ခကိုခံစား ရသည်မှာ အခြားမဟုတ်၊ ထိုသီဝလိသတို့သား၏ ရှေးဘဝကပြုခဲ့သော မကောင်းမှုကံ၏အစွမ်းကြောင့်ဖြစ်သည်။ လွန်လေပြီးသောအတိတ်အခါ က ထိုသီဝလိသတို့သားသည် ရှင်ဘုရင်တစ်ပါးဖြစ်ခဲ့ပြီး သီဝလိမင်းသား၏ မယ်တော် သုပ္ပိယာဒေဝီသည် ထိုရှင်ဘုရင်၏မယ်တော်ဖြစ်ခဲ့၏။ ထိုဘုရင် သည် မိမိ၏မယ်တော်နှင့်တိုင်ပင်ပြီး ရန်သူ၏မြို့ကို ခုနစ်ရက်ပိတ်ဆို့ပြီး ထားခဲ့သည်။ ထိုသို့ခုနစ်ရက်တိုင်တိုင် မြို့တံခါးပိတ်ပြီး သတ္တဝါတို့ကို ညှဉ်းပန်းခဲ့သောမကောင်းမှုကံကြောင့် သားအမိနှစ်ယောက်စလုံး ခုနစ်နှစ်, ခုနစ်လ, ခုနစ်ရက်တာကာလပတ်လုံး ကြီးစွာသောဒုက္ခကို ခံစားကြရခြင်း ဖြစ်သည်။

သီဝလိသတို့သားကိုဖွားမြင်ပြီး ခုနစ်ရက်မြောက်သောနေ့တွင် ဘုရားအမှူးရှိသော သံဃာတော်အရှင်မြတ်တို့အား နန်းတော်သို့ပင့်ဆောင်ပြီး ဆွမ်းကပ်လှူခဲ့၏။ သီဝလိသတို့သား ခုနစ်နှစ်အရွယ်သို့ရောက်လျှင်မြတ်စွာ ဘုရားထံတော်၌ ရှင်သာမဏေအဖြစ်ကိုတောင်းခံရာ ဓမ္မသေနာပတိ အရှင် သာရိပုတ္တရာကို ဥပဇ္ဈာယ်ဆရာ၊အရှင်မဟာမောဂ္ဂလာန်မထေရ်ကို အာစရိယ ဆရာအဖြစ်ထား၍ ရှင်သာမဏေပြုခဲ့၏။ ထိုသာမဏေလောင်း သီဝလိ မင်းသားကို ဆံချရာ နောက်ဆုံးဆံစကို သင်ဓုန်းဓားဖြင့် ရိတ်ပြီးသည်နှင့် အရဟတ္တဖိုလ်သို့ရောက်၍ မြတ်စွာဘုရား၏သာသနာတော်တွင် ခုနစ်နှစ် သားရဟန္တာသာမဏေအဖြစ် တင့်တယ်ခဲ့လေသည်။ ရှင်သီဝလိရဟန္တာ

သည် ရှေးကောင်းမှုကံတို့၏ အစွမ်းကြောင့် လာဘ်လာဘ ပေါများခဲ့၏။

မြတ်စွာဘုရားရှင်သည် အရှင်ရေဝတကိုကြည့်ရှုရန် ရှားတောကျောင်းသို့ ကြွသွားသည်ရှိသော် ရှင်သီဝလိအပါအဝင် နောက်တော်မှ ရဟန်းတော်သုံးသောင်းတို့ လိုက်ပါကြွတော်မူကြရာ ယူဇနာသုံးဆယ်ရှိသော ဆမိုတကန္တာရသို့ ရောက်တော်မူခဲ့၏။ ထိုကန္တာရ၌ ရေမရှိ၊ အစာအာဟာရမရှိ။ ရှင်သီဝလိကိုကြည်ညိုသောနတ်တို့က သံဃာတော်တို့ နေရန်ကျောင်း၊ သုံးဆောင်ရန် ဆွမ်းဘောဇဉ်များ စီရင်လှူဒါန်းခဲ့ကြ၏။ မြတ်စွာဘုရားရှင်သည် ရှင်ရေဝတ၏ရှားတောကျောင်း၌ သီတင်းသုံးတော်မူ၍ ပြုဖွယ်ကိစ္စပြီးဆုံးသောအခါ ဇေတဝန်ကျောင်းတော်သို့ ပြန်ကြွတော်မူခဲ့၏။ ဇေတဝန်ကျောင်းတော်သို့ရောက်ရှိသောအခါ ရှင်သီဝလိကို ပုဂ္ဂိုလ်တို့တွင် အမြတ်ဆုံးဖြစ်၏ဟု လာဘ်အရာ၌ ဧတဒဂ်ထားတော်မူခဲ့သည်။

ဤသို့ သီဝလိရဟန္တာအရှင်မြတ်၏ဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'သင်သူတော်ကောင်းအပေါင်းတို့သည် ထိုသီဝလိ ရှင်တော်မြတ်၏ထေရုပ္ပတ်ကို ဖတ်ရှုကြည်ညိုကြပြီးလျှင် ဘဝစည်းစိမ်းချမ်းသာအဖြာဖြာနှင့် အတုမဲ့နိဗ္ဗာန်ချမ်းသာတို့ကို အလိုရှိကြကုန်သည် ဖြစ်ပါက ပျင်းရိခြင်းကို စွန့်ပယ်၍ ကုသိုလ်ကောင်းမှု ပြုကြပါကုန်'ဟု တိုက်တွန်းခဲ့ကြ၏။



# လုပ်အားကုသိုလ်ရှင်မောင်နှမ

[၃၁။ မဟာသေနရာဇာဝတ္ထု]

ဂေါတမမြတ်စွာဘုရားရှင် ပရိနိဗ္ဗာန်ပြုတော်မူပြီးနောက် ပါဋလိပုတ်မင်းနေပြည်ကို မဟာသေနမင်းကြီး အုပ်ချုပ်စိုးစံနေခဲ့၏။ မဟာသေနမင်းသည် မင်းကျင့်တရားဆယ်ပါးနှင့်အညီ တိုင်းသူပြည်သားတို့အား ရင်ဝယ်သားကဲ့သို့ ကရုဏာထား၍ အုပ်ချုပ်တော်မူခဲ့၏။ ရတနာသုံးပါး၌လည်း သက်ဝင်ယုံကြည်သောမင်းကြီးဖြစ်၏။

ထိုမဟာသေနမင်းသည် မိမိ၏ခမည်းတော်လက်ထက်၌ဖြစ်သော ဥစ္စာစည်းစိမ်၊ မိမိ၏ဘိုးတော်ဘေးတော်တို့လက်ထက်၌ဖြစ်သော ဥစ္စာစည်းစိမ် စသည်တို့ကိုကြည့်ရှုပြီး 'ငါ၏ဘိုးတော်ခမည်းတော်တို့သည် ဥစ္စာစည်းစိမ်ကို ရှာခဲ့ကြရုံမျှသာ၊ ယူ၍ကားမသွားနိုင်ကြ။ သေမင်း၏နှုတ်ခမ်းဝ၌ ထိုဥစ္စာစည်းစိမ်တို့ကိုစွန့်၍ သေမင်းခံတွင်းသို့ ဝင်ခဲ့ကြရသည်။ အဖန်ဖန် သံသရာကျင်လည်နေကြရသော သူတို့သည်လည်း ဤအဖြစ်ကို မသိကြသည်မှာ အံ့သြဖွယ်ကောင်းလေစွ။ ဥစ္စာကိုလူကစွန့်၊ လူကလဲ ဥစ္စာကိုစွန့်နှင့် တစ်စွန့်တည်းစွန့်နေကြသော သဘောတံထွာဓမ္မတာရှိသည်ကိုလည်း မသိကြပါတကား'ဟုညည်းတွားရင်း 'စည်းစိမ်ဥစ္စာရရှိလာခြင်း၊ ရလာပြီးသော စည်းစိမ်ဥစ္စာတို့ ပျက်စီးရခြင်း'စသည့်အကြောင်းတရားတို့ကို ဆင်ခြင်ကာ သံဝေဂများစွာ ရတော်မူခဲ့လေသည်။ ပြီးလျှင် မဟာသေနမင်းကြီးသည် မြတ်စွာဘုရားရှင်၏တရားဓမ္မတို့ကိုနာယူ၍ နေ့စဉ်ရဟန်း သံဃာတစ်သောင်းကို ဆွမ်းဘောဇဉ်လုပ်ကျွေးနေခဲ့လေ၏။ အခြားသော ကုသိုလ်ကောင်းမှုတို့ကိုလည်း နေ့စဉ်ပြုလုပ်ခဲ့၏။

တစ်နေ့သ၌ မဟာသေနမင်းကြီးသည် တစ်ကိုယ်တည်း ဆိတ်ငြိမ်သောနေရာတစ်ခုသို့သွားပြီးလျှင် စဉ်းစားနေတော်မူခဲ့ပြန်၏။ 'ငါ ရက်လရှည်ကြာ လှူတန်းနေခဲ့သော အလှူဝတ္ထုဒါတဗ္ဗပစ္စည်းအစုစုတို့သည် ငါ့ဘိုးဘွားမိဘတို့၏ စည်းစိမ်မှဖြစ်သော ဝတ္ထုပစ္စည်းတို့သာဖြစ်ပေ၏။ ငါ့လက်ထက်၌ဖြစ်သော ဥစ္စာပစ္စည်းဆိုသည်မှာလည်း ဆယ်ခိုင့်တစ်ခိုင် ဆယ်ဘို့တစ်ဘို့ ရရှိလာသော ဥစ္စာပစ္စည်းတို့သာဖြစ်၏။ ထိုသို့သော လာဘ်လာဘပစ္စည်းဥစ္စာမျိုးထက် ငါကိုယ်တိုင်ပင်ပင်ပန်းပန်း မိမိလုပ်အားဖြင့် ရအပ်သော ဥစ္စာပစ္စည်းကိုသာ ပေးကမ်းလှူတန်းရပါမူကား များးစွာ အကျိုးရှိပေလိမ့်မည်၊ ပို၍အာနိသင်ရှိလိမ့်မည်'ဟူ၍ ကြံစည်စိတ်ကူးပြီး မိမိ၏စိတ်အကြံတို့ကို တစ်ဦးတည်းသောနှမငယ်ကို ပြောဆိုတိုင်ပင်ခဲ့၏။ နှမဖြစ်သူကလည်း မောင်ကြီးရှင်ဘုရင်ပြောသည့်အတိုင်း သဘောတူသည်ဖြစ်၍ စိတ်ချရသည့် အမတ်တစ်ဦးကို တိုင်းရေးပြည်မှုကိစ္စအဝဝကို အပ်နှံခဲ့ကြကာ မဟာသေနမင်းမောင်နှမနှစ်ဦးတို့သည် မိမိလုပ်အားဖြင့် အလှူဝတ္ထုရှာဖွေရန် တိုင်းပြည်တွင်းမှ တိတ်တဆိတ်ထွက်ခွာခဲ့ကြသည်။

မဟာသေနမင်းကြီးနှင့်နှမတော်တို့သည် သူဆင်းရဲအသွင်ဖြင့် အလုပ်တစ်ခုခုရရန် တစ်ရွာဝင်တစ်ရွာထွက်စုံစမ်းရှာဖွေခဲ့ကြ၏။ ဥတ္တရမဓုရာမြို့တော်သို့ရောက်ရှိကြရာ ထိုမြို့ရှိ သူဌေးတစ်ဦး၏ အိမ်သို့သွား၍ အလုပ်တစ်ခုရရန် တောင်းခံခဲ့ကြ၏။ ဥတ္တရမဓုရာမြို့သူဌေးက ထိုမင်းမောင်နှမကို 'အမောင်တို့ဘာကိစ္စရှိလို့လာခဲ့ကြပါသလဲ'ဟုမေးရာ မဟာသေနမင်းက 'အကျွန်ုပ်တို့သူဌေးမင်း၏အိမ်တွင်အလုပ်လို၍လာခဲ့ကြခြင်းဖြစ်ပါတယ်'ဟု ဖြေကြား၏။ ဥတ္တရမဓုရာသူဌေးက 'ဩော် အလုပ်လုပ်လိုကြသူတွေကိုး'ဟုဆိုပြီး ကြည်ဖြူစွာပင် မိမိ၏အိမ်၌ အလုပ်ပေးခဲ့သည်။ ထိုမဟာသေနမင်းမောင်နှမသည် သူဌေးအိမ်၌ သုံးနှစ်သုံးမိုး အလုပ်ကို မခိုမကပ်ဘဲ ရိုရိုသေသေလုပ်ကိုင်ခဲ့ကြ၏။ သုံးနှစ်စေ့သောနေ့တွင် ဥတ္တရမဓုရသူဌေးက မင်းမောင်နှမကိုခေါ်ယူပြီး 'သင်တို့ဟာ အမူအရာလဲ

သိမ်မွေ့တည်ကြည်တယ်၊ အလုပ်တွေကိုလဲ ရိုရိုသေသေတက်တက်ကြွကြွ လုပ်ကိုင်ပေးကြတယ်၊ ပျင်းရိဖင့်နွဲ့တဲ့အမူအရာလက္ခဏာမျိုးလဲ မရှိကြဘူး။ ပျက်လိုပျက်စီးအကျိုးမဲ့ဖြစ်အောင်ပြုလုပ်တာမျိုးကိုတော့ ဘယ်အခါမှာမှ မတွေ့ခဲ့ရပါဘူး။ အခု မောင်တို့အလုပ်လုပ်ခဲ့ကြတာလဲ ကြာမြင့်ခဲ့ပြီ။ မောင်တို့လုပ်ခအတွက် ဘာများတောင်းဆို လိုချင်ကြပါသလဲ။ ငါ့မှာလဲ ဆန်စပါး ကလွဲ၍ တခြားဥစ္စာပစ္စည်းဆိုလို့ဘာမှမရှိပါဘူး’ဟု ပြောကြားလေ၏။

ထိုအခါ မဟာသေနမင်းမောင်နှမက ဥတ္တရမဓုရာသူဌေးကို‘သူဌေး ကြီး ဒီအရပ်ဒေသမှာ အင်မတန်ကောင်းမွန်တဲ့ သလေးစပါးမျိုးပေါလှပါ တယ်။ အဲဒီသလေးစပါးကိုရချင်လို့ ဒီအရပ်ကိုလာခဲ့ကြခြင်းဖြစ်ပါတယ်’ဟု ဖြေကြားခဲ့၏။ သူဌေးကြီးသည် မဟာသေနမင်း၏စကားကို နှစ်သက်လှ၍ လုပ်အားခအဖြစ် သလေးစပါးလှည်း အစီးတစ်ထောင်ကို ချီးမြှင့်ခဲ့သည်။ မဟာသေနမင်းက ‘သူဌေးကြီး၊ သလေးစပါးပေးတာတော့ ဟုတ်ပါပြီ၊ ဒီမွန်မြတ်တဲ့ စပါးတွေကို အကျွန်ုပ်တို့အရပ်ဒေသအရောက် သယ်ဆောင် သွားနိုင်အောင် လှည်းတွေကိုငှားလိုက်ပါဦး’ဟု အကူအညီတောင်းခဲ့၏။ သို့ဖြင့် ဥတ္တရမဓုရာသူဌေးကြီး၏လှည်းတို့ဖြင့် သလေးစပါးတို့ကို ပါဋ္ဌလိပုတ်ပြည်အရောက် သယ်ဆောင်ခဲ့ကြသည်။ ပါဋ္ဌလိပုတ်ပြည်သို့ရောက် သော် မဟာသေနမင်းက ဥတ္တရမဓုရာသူဌေး၏ မေတ္တာစေတနာကို တုံ့ပြန် သောအားဖြင့် ထိုလှည်းများပေါ်တွင် အဝတ်အစား ဥစ္စာရွှေငွေ အပြည့် တင်စေပြီးမှ ပြန်လွှတ်လိုက်၏။

မဟာသေနမင်းသည် ရေမြေစိုးပိုင်မင်းဧကရာဇ် စင်စစ်ဖြစ်ပါလျက် မိမိတို့မောင်နှမ သူတစ်ပါးအိမ်၌ နဖူးကချွေးခြေမ,ကျအောင် တကုပ်ကုပ် လုပ်ကိုင်၍ရရှိလာခဲ့သော ထိုသလေးစပါးတို့ကို နန်းတော်အတွင်းရှိ ဘဏ္ဍာ တိုက်ကြီး၌ ကောင်းမွန်စွာသိုလှောင်ထားရှိစေပြီး သုံးလေးရက် ခန့်ရှိလျှင် မိမိလက်ဖြင့် ကျည်ပွေ့ကိုကိုင်၍ ကောက်စပါးကိုထောင်း၏။ ထောင်းပြီး သောစပါးတို့ကို နှမငယ်က ပြာပေးရသည်။

ဤသို့ မောင်နှမနှစ်ဦးတို့ အစ်ကိုမောင်းထောင်း,နှမဆန်ပြာခြင်းဖြင့် ရလာသောသလေးဆန်တို့ကို ကိုယ်တိုင်ရေခပ်၊ ထင်းခွေ၊မီးမွှေး၊ ရေဆေးပြီး ချက်ပြုတ်နူးနပ်သောအခါ နန်းရင်ပြင်ခန်းမဆောင်တွင် မွန်မြတ်သောနေရာ ငါးရာပြင်ဆင်ထားခဲ့၏။ ဆွမ်းကပ်ရန်အချိန်ကျသောအခါ မဟာသေနမင်းက 'အရှင်မြတ်တို့ဘုရား၊ တပည့်တော်များကို သနားသည်ဖြစ်လျှင် တပည့်တော်တို့၏ ဤအလှူခံမဏ္ဍပ်သို့ကြွ၍ ဆွမ်းအလှူခံတော်မူကြပါ'ဟု ကြွေးကြော်ပင့်ဖိတ်သည်။ ထိုသို့ မဟာသေနမင်း၏ပင့်ဖိတ်လျှောက်ထားသံကို ကြားကြရသော ရဟန္တာမထေရ်ငါးရာတို့သည် ကောင်းကင်ခရီးဖြင့် ကြွလာတော်မူကြပြီး နန်းယင်ပြင်၌သက်ဆင်းကာ ဆွမ်းအလှူကို ခံယူတော်မူခဲ့ကြသည်။

ထိုရဟန္တာမထေရ်မြတ်ငါးရာတို့တွင် ပိယင်္ဂုကျွန်း၌ သီတင်းသုံးလျက်ရှိသော မဟာသီဝမထေရ်ကြီးလည်း ပါဝင်၏။ မဟာသီဝမထေရ်ကြီးသည် မဟာသေနမင်းလှူသောဆွမ်းကိုယူ၍ 'ဤမောင်နှမနှစ်ယောက်တို့သည် ငါ့ကိုမြင်စေသတည်း'ဟုအဓိဋ္ဌာန်၍ ကောင်းကင်ခရီးဖြင့် ပိယင်္ဂုကျွန်းသို့ ပြန်၍ကြွသွားပြီး ထိုအလှူခံရလာသောဆွမ်းကို ရဟန်းတော်မြတ်ငါးရာတို့ကို တစ်ဖန်ပေးလှူတော်မူပြန်၏။ ထိုဆွမ်းသည် မဟာသီဝမထေရ်၏အာနုဘော်ကြောင့် ရဟန်းတော်ငါးရာတို့ ပြည့်စုံလုံလောက်အောင် ဘုဉ်းပေးတော်မူကြရလေသည်။

သူတော်ကောင်းတို့မည်သည်ကား အလှူဝတ္ထုအနည်းငယ်ပင်ဖြစ်လင့်ကစား ဒါယကာတို့၏စိတ်၌ ကြည်ညိုသဒ္ဓါတိုးတက်အောင် ပြုတော်မူတတ်ကြသည်သာဖြစ်၏။ ပညာရှိသောသူသည် အနည်းငယ်သောအလှူဝတ္ထုဖြင့် ဒါယကာတို့၏စိတ်၌ သဒ္ဓါတရားကိုတိုးပွားစေ၏။ လမင်းသည် မိမိ၏လရောင်ရိပ်ဖြင့် သမုဒ္ဒရာရေကို တိုးစေသကဲ့သို့ဖြစ်၏။

သီလနှင့်ပြည့်စုံသော အလှူခံပုဂ္ဂိုလ်တို့မည်သည် မွန်မွန်မြတ်မြတ်ပေးလှူထားသော အလှူပစ္စည်းကို သီလမစင်ကြယ်သည့်အတွက် ခိုး၍

သုံးဆောင်ခြင်းဟူသော ထေယျပရိဘောဂအဖြစ်သို့လည်း မရောက်စေဘဲ၊ ပစ္စဝေက္ခဏာမဆင်ခြင်သဖြင့် ကြွေးတင်ခံသုံးဆောင်ခြင်းဟူသော ဣဏ ပရိဘောဂအဖြစ်သို့လည်း မရောက်စေဘဲ သီလအကျင့်ပြည့်စုံသော သီတင်းသုံးဖော်တို့အား ညီညာဝေခြမ်းခွဲလှူဒါန်း၍ သုံးဆောင်တော်မူကြပါကုန်၏။ မဟာသေနမင်းမောင်နှမ တို့သည် မိမိတို့က ပါဠလိပုတ်ပြည်၌ နေကြပါလျက် မိမိတို့လှူဒါန်းသော ဆွမ်းကို မိမိတို့တိုင်း ဌာနီနှင့် ကွာလှမ်းသောပိယင်္ဂုကျွန်းရှိ ရဟန်းတော်ငါးရာတို့ ဆွမ်းဘုဉ်းပေးနေတော်မူကြသည်ကို ကြည်ညိုခွင့်ရကြသောအခါ နှစ်သက်ဝမ်းမြောက်သော စိတ်တို့ ဖြစ်ပေါ်ခဲ့လေပြီ။ ထိုမဟာသေနမင်းမောင်နှမသည် မိမိတို့ပြုအပ်သော ကုသိုလ်ကောင်းမှုကို ဆင်ခြင်မိကြပြီး မကြာမီမှာပင် သောတာပန် အရိယာပုဂ္ဂိုလ်အဖြစ်သို့ ရောက်ရှိခဲ့ကြလေသည်။

ဤမဟာသေနမင်း၏ဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'သင် သူတော်ကောင်းတို့သည် မိမိ၏တွေ့ကြုံရသော ဆင်းရဲဒုက္ခကို မငဲ့ကွက်ဘဲ ရေမြေစိုးနင်းဘုရင်မင်းဟူသော ဂုဏ်အသရေကိုပင်စွန့်၍ ကုသိုလ်ကောင်းမှုအတွက် ပင်ပန်းကြီးစွာ ကျွန်ခံလုပ်ကိုင်ခဲ့သော မဟာသေနမင်း၏ အဖြစ်အပျက်ကိုထောက်ထားပြီး ကောင်းမှုကံ၌ မွေ့လျော်ကြကုန်ရာ၏။ ဆင်းရဲပင်ပန်းစွာပြုခဲ့သော ထိုကောင်းမှုကံသည် ကြီးစွာသောအကျိုးကို ပေးတတ်သဖြင့် သင်သူတော်ကောင်းတို့သည်လည်း မိမိတို့ကိုယ်တိုင်သာ လျှင် ကုသိုလ်ကောင်းမှုကို လေးလေးစားစားပြုကြရာ၏'ဟု အမှာစကားထားခဲ့ကြ၏။



# ကာမဂုဏ်ကွန်ယက်

[၃၂။ သုဝဏ္ဏတိလကာဝတ္ထု]

သီရိလင်္ကာကျွန်း အနုရာဓပုရမြို့နေ သဒ္ဓါတရားနှင့်ပြည့်စုံသော အမျိုးသမီးဥပါသိကာမတစ်ဦးသည် ထိုအနုရာဓမြို့၏မြောက်ပိုင်း၌တည်ရှိသော အဘယုတ္တရ ခေါ် အဘယဂီရိစေတီတော်ကြီးသို့ ပန်းပူဇော်ရန် အစဉ်သွားလေ့ရှိသည်။

တစ်နေ့သော် ထိုဥပါသိကာမသည် အဘယုတ္တရစေတီတော်သို့ ပန်းပူဇော်ရန် မိမိ၏သမီးဖြစ်သူကိုလည်း ခေါ်ဆောင်ခဲ့လေသည်။ ဘုရားရင်ပြင်သို့ရောက်သောအခါ ပန်းဟောင်းစွန့်၍ ပန်းသစ်တင်ရန် ပြင်ဆင်နေစဉ် ရေကုန်သွားသဖြင့် သမီးဖြစ်သူ၏လက်တွင် ပန်းတောင်းကိုထားခဲ့ပြီး ရေခပ်ရန် ရေကန်သို့ထွက်ခဲ့၏။ သမီးဖြစ်သူသည် မိခင်မလာမီမှာပင် ပန်းတောင်းအတွင်းမှကောင်းမွန်သန့်စင်သောပန်းတို့ကို ရွေးချယ်ပြီး ပန်းကုံးပန်းဝန်းကြီးတစ်ခုကို ဆန်းကြယ်လှပစွာစီမံပြုလုပ်၍ အဘယုတ္တရစေတီတော်မြတ်အားပူဇော်ခဲ့သည်။ ပြီးလျှင် အောက်ပါဆုတို့ကို တောင်းယူခဲ့၏။

'ကြီးမြတ်သော လုံ့လရှိတော်မူသော၊ မြဲမြံခိုင်ခံ့တည်တံ့သော သမာဓိရှိတော်မူသော၊ မိမိအလိုလိုသာ သိမြင်တော်မူသော၊ သီလက္ခန္ဓစသည့် ကျေးဇူးဂုဏ်အထူးကို ရှာမှီးလေ့ရှိတော်မူသော၊ လူသုံးပါးတို့ထက် မြတ်တော်မူသော၊ ကိလေသာကိုပူပန်စေတတ်သော၊ ဘုန်းတော်ခြောက်ပါးနှင့် ပြည့်စုံတော်မူထသော မြတ်စွာဘုရားအား အကျွန်ုပ်သည် ဤပန်းကုံးပန်းဝန်းတို့ဖြင့် ပူဇော်အပ်ပါပြီ။ ထိုပန်းကုံးပန်းဝန်းတို့ကိုပူဇော်ရသော

ကောင်းမှုကံကြောင့် ဖြစ်လေရာဘဝတိုင်းတွင် လုံးရပ်သဏ္ဍာန်လှပတင့်တယ် အချိုးကျပြီး အဆင်းလှသူတို့တွင် အသာဆုံးအမြတ်ဆုံးဖြစ်ရပါလို၏။ အကျွန်ုပ်ကိုတွေ့မြင်ကြသော ယောကျ်ားအပေါင်းတို့သည် အကျွန်ုပ်၏ ကာမဂုဏ်ကွန်ယက်၌ ငြိတွယ်တွေဝေနစ်မျောသွားကြပါစေသတည်း။ အကျွန်ုပ်၏ကိုယ်မှ နေလုလင်ကဲ့သို့ အရောင်ဖြာ၍ထွက်ပါစေသတည်း။ သူတစ်ပါးနားချမ်းသာအောင် အမူပိုပိုစကားချိုချို ပြောဆိုတတ်သူ ဖြစ်ရပါလို၏'ဟူ၍ ဖြစ်သည်။

ဤသို့ဆုတောင်းပြီးနောက် ထိုသူငယ်မ၏မိခင်သည် ရေခပ်ရာမှ ပြန်လာသောအခါ စေတီတော်တွင် ပူဇော်ထားသောပန်းကုံးပန်းဝန်း တို့ကို မြင်လေလျှင် ရေမဆေးဘဲ ပန်းတင်သလောဟု စိတ်ဆိုးပြီး သမီးဖြစ်သူကို 'သူတောင်းစားမ၊ ဘာဖြစ်လို့ ပန်းတွေကို ရေမဆေးဘဲ ဘုရားမှာတင်ရ သလဲ'ဟု အပြစ်တင်စကား ပြောကြားလိုက်သည်။ မိခင်၏ပြောဆိုသံကို ကြားလျှင် ထိုသူငယ်မသည် မိခင်အပေါ် ဒေါသထွက်ပြီး 'သမီးသူတောင်း စားဆိုရင် အမေလဲ သူတောင်းစားပဲပေါ့'ဟု တုံ့ပြန်ပြောလိုက်လေသည်။ သူငယ်မသည် ထိုသို့သော ကုသိုလ်ကံ,အကုသိုလ်ကံတို့ကို ရောယှက် ပြုလုပ်ခဲ့ပြီးနောက် ထိုဘဝမှ ကွယ်လွန်ခဲ့လေ၏။

ထိုသူငယ်မသည် နောက်တစ်ဘဝတွင် ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ တောင်ပိုင်း မဒရပ်နယ်အတွင်းရှိ ဥတ္တရမဓုရာမြို့ဟု ရှေးအခေါ်ရှိသော မထုရာမြို့၌ သီချင်းဆို၍ တောင်းစားရသော သူတောင်းစားမျိုး၌ သမီး ကညာကလေးဖြစ်ခဲ့ရလေသည်။ သူတောင်းစားသမီးဖြစ်ခဲ့သည်ဆိုသော် လည်း ထိုသူငယ်မ၏အဆင်းသဏ္ဍာန်သည် အထက်တန်းစားမိန်းမတို့ ထက် သာလွန်ထူးမြတ်လှ၏။ သူမ၏ကိုယ်မှ မိုးကောင်းကင်၌ လျှပ်နွယ် တို့ အရောင်ထွက်လင်းလက်သည့်နှယ် ကိုယ်ရောင်ဝင်းဖြာ၍ထွက်နေ၏။ သူမ၏ခံတွင်းမှ ကြာညိုနံ့လှိုင်နေ၏။ နို့နှစ်လုံးအကြား၌ ရွှေရောင် လေးထောင့်အမှတ်အသားမဲ့ ကလေးတစ်လုံးပါရှိပြီး ထိုနေရာမှလည်း

အရောင်တလက်လက် ထွန်းပနေ၏။ သူမကိုမြင်ရသော ယောကျ်ားများသည် သူမ၏ကာမဂုဏ်ကွန်ယက်၌ ရုန်းမထွက်နိုင်ကြဘဲ ပညာသတိကင်းလွတ်ကြရသည်။ သို့ပါသော် သူမ၏ကိုယ်ခန္ဓာမှ သူတောင်းစားအနံ့ခေါ် ယုတ်ညံ့သောအနံ့တစ်မျိုး ထွက်ပေါ်နေခဲ့၏။

ကုသိုလ်,အကုသိုလ်တို့၏အကျိုးပေးပုံသည် အံ့ဩဖွယ်ကောင်းလေစွ။ ထိုသူငယ်မသည် မိခင်အား သူတောင်းစားဟု ပြောဆိုဆဲရေးလိုက်သော စကားတစ်ခွန်း၏အကုသိုလ်ကံကြောင့် ယုတ်ညံ့သော သူတောင်းစားမျိုး၌ ဖြစ်ခဲ့ရပြီး၊ မြတ်စွာဘုရား၌ လှပတင့်တယ်ဆန်းကြယ်သော ပန်းကုံးပန်းဝန်းတို့ကိုပြုလုပ်ပူဇော်ရသော ကုသိုလ်ကောင်းမှု၏အကျိုးကြောင့် တုနှိုင်းဖွယ်မရှိ အလွန်လှပတင့်တယ် ရှုချင့်စဖွယ်ရုပ်အဆင်းနှင့် ပြည့်စုံခဲ့ရ၏။ ဤသို့ပြုအပ်သော ကုသိုလ်,အကုသိုလ်တို့၏ တစ်ပြိုင်တည်းတစ်ချိန်တည်း အကျိုးပေးခံရသူသည် ဥဒေါင်းငှက်နှင့်တူ၏။ တူပုံမှာ–ဥဒေါင်းသည် အကုသိုလ်ကံကြောင့် တိရစ္ဆာန်မျိုး၌ဖြစ်ခဲ့ရ၏။ ကုသိုလ်ကံ၏အစွမ်းကြောင့်ပင် ရှုချင့်စဖွယ်လှပသောအဆင်းနှင့်ပြည့်စုံကြရပြန်၏။

ထိုသူတောင်းစားမလေး အရွယ်ရောက်လာသောအခါ မိဘတို့က သုဝဏ္ဏတိလကာဟူသောအမည်ကို ပေးခဲ့ကြ၏။ မထုရာမြို့နေ အမျိုးသားတို့သည် သုဝဏ္ဏတိလကာ၏အဆင်း၌ တိမ်းမပ်ယစ်မူးကြပြီး သူမကို အလွန်လိုလားကြသော်လည်း သူတောင်းစားသမီးဟူသော ယုတ်ညံ့သော အမျိုး၌ဖြစ်နေသောကြောင့် မည်သူကမျှ လက်ထပ်ရန်မဝံ့ကြပေ။ ထိုမထုရာမြို့၌ သုဝဏ္ဏတိလကာတို့ကဲ့သို့ပင် အခြားသူတောင်းစားအုပ်စုတစ်စု၏ခေါင်းဆောင်က မိမိသားနှင့် သူတောင်းစားအမျိုးအနွယ်တူ အချင်းချင်း လက်ထပ်ပေးလိုသောကြောင့် သုဝဏ္ဏတိလကာ၏ မိဘတို့ထံ လက်ဆောင်ပဏ္ဏာဆက်ပြီး ကမ်းလှမ်းခဲ့ကြ၏။ သုဝဏ္ဏတိလကာ၏ မိဘတို့ကလည်း မိမိတို့မျိုးနွယ်တူအုပ်စုခေါင်းဆောင်ဖြစ်သူ တစ်ဦး၏ သားက တောင်းရမ်းလာသည်ဖြစ်၍ ဝမ်းမြောက်ဝမ်းသာဖြစ်ပြီး သမီး

သုဝဏ္ဏာတိလကာကို လက်ခံရန် နားသွင်းပြောကြားကြ၏။ သုဝဏ္ဏာတိလကာက မိမိသည် သူတောင်းစားအမျိုး၌ဖြစ်ငြားသော်လည်း သူတောင်းစားမျိုးနွယ်နှင့်လက်ထပ်ရန် စက်ဆုပ်ရွံရှာသောကြောင့် ခါးခါးသီးသီးငြင်းပယ်လိုက်သည်။ သုဝဏ္ဏာတိလကာ၏ငြင်းပယ်မှုကို ခံရရှာသော သတို့သားသည် အလွန်အရှက်ရသွားပြီး ဤမျှမာနကြီးသော သုဝဏ္ဏာတိလကာကိုတုံ့ပြန်ကလဲ့စားချေမည်ဟု သန္နိဋ္ဌာန်ချခဲ့လေသည်။

ထိုအခါ သူတောင်းစားသတို့သားကလေးသည် သီချင်းတစ်ပုဒ်ရေးစပ်ပြီး မထုရာမင်းကြီး၏အိမ်ရှေ့၌ စောင်းတီး၍ သီဆိုခဲ့လေသည်။ သူ၏သီချင်းတွင်–

‘တင့်တယ်သောမျက်နှာပြင်ဝယ်...တလဲ့လဲ့လှုပ်ရှားနေသော မျက်ဝန်းရွဲကြီးများ ရှိပါ၏။ တဆတ်ဆတ်တုန်နေသော နှုတ်ခမ်းဖူးကလေးမှာလည်း နုသောအရဏ်ကာလ၌ တက်သစ်စ နေရောင်ပမာ နီစွေးစွေးထင်နေ၏။ ထိုသူငယ်မလုံမေပျို အချောအလှသည် မျက်တောင်မွေးယှက်၍ ချစ်ရမွှက်ထန်သောအကြည့်ဖြင့် ကြည့်တတ်ပါသော်လည်း ကျွန်ုပ်ကိုမူကား ရက်စက်သွားလေပြီ’ဟူသောစာသားကို ထည့်သွင်းစပ်ဆိုထား၏။

မထုရာမင်းသည် သူတောင်းစားငယ်၏သီချင်းကိုကြားရသော် ‘ဤသီချင်းကို သင်သည် ဘာအဓိပ္ပါယ်နှင့်ဆိုလေသနည်း’ဟု ခေါ်ယူ၍ မေးလေရာ သူတောင်းစားငယ်က ‘အရှင်မင်းကြီး၊ မြေ၌ဖြစ်သောမြေမှုန်သည် နူးညံ့ညက်ညောသည်ဆိုပါသော်လည်း ရွှေတော့ဖြစ်မလာနိုင်။ ထို့အတူ ဇာတ်ယုတ်သောတောခွေးမ သို့မဟုတ် နွားမသည် မြတ်သောကေသရာဇာခြင်္သေ့နှင့် အမျိုးချင်းထပ်သော်လည်း အမျိုးအားဖြင့် မမြတ်နိုင်ပါ’ဟု ဥပမာတင်ပြီးမှ ‘ဤမြို့၌ သုဝဏ္ဏာတိလကာအမည်ရှိသော ဒွန်းစဏ္ဍားသူတောင်းစား၏သမီးသည် မိမိနှင့်အနွယ်တူ သူတောင်းစားကိုမရည်မှန်းဘဲ

အမျိုးသန့်ဇာတ်မြင့်သော အမျိုးသားတို့ကိုသာ တောင့်တနေပါသည် အရှင်မင်းကြီး၊ ကျီးကန်းမနဲ့ရွှေဟင်္သာမင်းနဲ့ပေါင်းဖော်သည်ဟု ဘယ်အခါက ရှိခဲ့ပါသနည်း အရှင်မင်းကြီး'ဟု တင်လျှောက်ခဲ့၏။

သူတောင်းစားငယ်၏တင်လျှောက်သောစကားကို မထုရာမင်းကြားပြီးလျှင်သုဝဏ္ဏတိလကာ၏မိဘတို့ကို ချက်ချင်းပင်ခေါ်စေပြီး၊ 'သူတောင်းစားငယ်ပြောသည့်အတိုင်း ဟုတ်ပါသလား'ဟုမေးရာ 'ဟုတ်ပေ၏'ဟု ဝန်ခံကြသောအခါ မထုရာမင်းကြီးက 'ကိုင်း–ဟုတ်ကပြီ၊ သုဝဏ္ဏတိလကာလဲ အလိုပြည့်ချင်ပြည့်သွားလိမ့်မယ်၊ ငါ့ရဲ့အကြံအစည်လဲ အောင်မြင်ကောင်း အောင်မြင်သွားလိမ့်မယ်၊ သူငယ်မက ဖြစ်မြောက်အောင် ကြံဆောင်ကြည့်ပါ'ဟု မိမိ၏အကြံအစည်ကို ပြောပြလေသည်။

မထုရာမင်းကြီး၏အကြံကား ဤသို့ဖြစ်၏။ 'ဥတ္တရမဓုရာမြို့နှင့်ကွာလှမ်းသောအရပ်တွင် ပဥ္စမဓုရမြို့တည်ရှိ၏။ ထိုပဥ္စမဓုရမြို့တွင် ဥဒ္ဒါလအမည်ရှိသောပုဏ္ဏားတစ်ဦးနေထိုင်လျက်ရှိ၏။ ထိုပုဏ္ဏားသည် ဇာတ်အားဖြင့်မြတ်၏။ အမိဘက်ကအမျိုးအဆက်၊ အဖဘက်ကအမျိုးအဆက် နှစ်ဖက်သောအမျိုးအဆက်တို့သည် တင့်တယ်၍ကဲ့ရဲ့ဖွယ်မရှိ မြတ်လှသည်ချည်းဖြစ်ကြ၏။ ထိုပုဏ္ဏားသည် မိန်းမကို စက်ဆုပ်ရွံ့ရှာ မုန်းတီးနေ၏။ သူ့အိမ်မှ နန်းတော်သို့ သွားရာလမ်းတွင် နို့အိုးတစ်ဆယ့်ခြောက်လုံးကို သွန်ပြီးမှ သွားလေ့ပြန်လေ့ရှိ၏။ အကယ်၍ လမ်းတွင်အမျိုးသမီး တစ်ဦးဦးကိုမြင်သော် 'အယုတ်တမာတွေ မြင်ပြန်ပြီ'ဟုဆိုကာ မျက်နှာကို နို့ရည်ဖြင့်ဆေးကြောပစ်တတ်၏။ ထိုသို့ မိန်းမမုန်းသမားဥဒ္ဒါလကို မိန်းမတို့၏မာယာကျော့ကွင်း ကာမဂုဏ်ကွန်ယက်နှင့်ဖမ်းပေးရန်ဖြစ်သည်။ အကယ်၍ သုဝဏ္ဏတိလကာသည် ဥဒ္ဒါလကိုအမိဖမ်းနိုင်ခဲ့လျှင် ဇာတ်မြင့်သူ့ကို အလိုရှိသော သူ့အလိုလဲပြည့်ပေလိမ့်မည်။ ထို့နည်းတူ ငါ၏အလိုလည်း ပြည့်တော့မည်ပ'ဟု မထုရမင်းက ပြောကြားလေသည်။

မထုရာမင်း၏စကားကို သုဝဏ္ဏတိလကာကြားရလျှင် 'ဒီလိုအလုပ်

မျိုးကို လက်ခံချင်လို့စောင့်တာကြာချေပြီ၊ သုဝဏ္ဏတိလကာရဲ့ကာမဂုဏ်ကွန်ယက်အစွမ်းကို ပြရချည်းသေးရဲ့’ဟုဆိုပြီး ဝမ်းမြောက်ဝမ်းသာလက်ခံလိုက်၏။ မိဘတို့ကိုလည်း ‘အမေတို့အဖေတို့ ဘာမှစဉ်းစားမနေကြပါနဲ့၊ ကျွန်မတာဝန်ထားလိုက်ပါ၊ မိန်းမမုန်းသမားကြီး ဇာတ်အခြေကြီးသူ ဥဒ္ဒါလဟာ ကျွမ်မရဲ့ကာမဂုဏ်ကွန်ယက်ထဲကို ကားခနဲကျလာစေရမယ်၊ မနက်ဖြန်မနက်စောစော ကျွန်မတို့ ပဥ္စမစုရမြို့ကိုသွားကြပါစို့’ဟု ပြောကြားလေသည်။ နောက်တစ်နေ့နံနက်တွင် သုဝဏ္ဏတိလကာသည် အဖိုးတစ်ထောင်ထိုက်သော သက္ကလတ်ကမ္ဗလာအဝတ်ကိုခြုံပြီး စောင်းတူရိယာစသည်တို့ကိုယူ၍ မိမိဖခင်နှင့်အတူ ဥဒ္ဒါလနေထိုင်ရာ ပဥ္စမစုရမြို့သို့ ခရီးထွက်ခဲ့ကြသည်။

ပဥ္စမစုရသို့မရောက်မီ လမ်းခရီး၌ မင်းနေပြည်မြို့ကလေးတစ်မြို့သို့ ဆိုက်ရောက်ခဲ့၏။ ထိုမြို့ကလေးတွင် ခေတ္တနားနေကြပြီး နန်းတော်တွင်းဝင်၍ သုဝဏ္ဏတိလကာသားအဖ စောင်းတီးပြီး သီချင်းဆို ဖျော်ဖြေကြ၏။ သုဝဏ္ဏတိလကာ၏ဖခင်သည် သီချင်းဆိုစောင်းတီးနေစဉ် သူမက ဖခင်၏နောက်မှနေ၍ ခြုံစောင်ကိုအသာလှစ်ဟပြီး သူ၏တောက်ပရွှန်းလက်သော ကိုယ်အင်္ဂါကို နားထောင်ရှုစားနေသော ဘုရင်မင်းသိမြင်အောင်ပြလိုက်၏။ ထို့ပြင် ချိုမြိန်အေးမြသောအသံဖြင့်လည်း သီချင်း တစ်ပုဒ်ဖြင့်ဝင်၍ဆိုလိုက်၏။ သီဆိုနေစဉ် တလဲ့လဲ့တောက်ပနေသော မျက်လုံးအစုံကို မင်းထံသို့ ရီရီဝေဝေစွေစွေကလေး ကြည့်လိုက်လျှင်ပင် ထိုမင်းသည် သုဝဏ္ဏတိလကာ၏ ကာမဂုဏ်ကွန်ယက်၌ ကျရောက်သွားပြီး သုဝဏ္ဏတိလကာကိုမရလျှင် မဖြစ်တော့ပါဟုဆိုကာ ကာမပိုင်ရှိမရှိ စုံစမ်းရန် အမတ်တို့ကိုမေးစေ၏။ အမတ်တို့က မိမိတို့စုံစမ်းရသည့်အတိုင်း ‘ဒီသူငယ်မဟာ ကာမပိုင်မရှိ၊ အပျိုစင်စစ်ဖြစ်ပါတယ်၊ သို့ပေငြား အမျိုး ဇာတ်အားဖြင့်တော့ အင်မတန်ယုတ်နိမ့်တဲ့ သူတောင်းစားကယ်ပါမျိုးပါဘုရား’ ဟု လျှောက်တင်ရာ ထိုမင်းက ‘ဒီအတိုင်းဆို သူငယ်မကိုရဖို့ရာ မလွယ်ပါ

ကလား၊ သူ့မကိုမရရင် ငါကိုယ်တော်သေလိမ့်မယ်ကွယ့်’ဟု ရောက်တတ်ရာရာပြောဆိုပြီး သန်လျက်နှင့် မိမိလည်ကို ဖြတ်ယောင်ပြုရင်း တကယ်ပင်ဖြတ်မိသွားသည့်အတွက် သုဝဏ္ဏတိလကာ၏ကာမဂုဏ်ကွန်ယက်အတွင်း သက်ဆင်းမိရှာသော ထိုမင်းသည် အသက်နှင့်ခန္ဓာကိုယ် ကင်းကွာခဲ့ရရှာလေသည်။

သုဝဏ္ဏတိလကာသားအဖသည် ပဥ္စမခုရမြို့သို့မရောက်မီ မင်းနေပြည်တော်ငါးမြို့သို့ ဝင်ရောက်၍ နားကြ၊ ဖျော်ဖြေခဲ့ကြရ၏။ ထိုသို့ မင်းနေပြည်တစ်မြို့ရောက်၍ ဖျော်ဖြေတိုင်း သက်ဆိုင်ရာတိုင်းနိုင်ငံ၏ မင်းတို့သည် သုဝဏ္ဏတိလကာကို အလိုရှိကြသော်လည်း အမျိုးဇာတ်အားဖြင့် မဆက်စပ်နိုင်သောကြောင့် ပထမမင်းနည်းတူပင် ကိုယ့်ကိုယ်ကိုသတ်၍သာ သေကြကုန်လေသည်။

သတ္တဝါတို့မည်သည် ရွှေ,ငွေ,သား,မယား စည်းစိမ်တို့ကို ချစ်ခင်တွယ်တာပြီး ကာမဂုဏ်လိုက်စားကြသဖြင့် နောက်ဆုံးတွင် ပျက်စီးခြင်းသို့ရောက်ကြသည်ကို မြတ်စွာဘုရားရှင်က–

‘ချစ်ခင်ခြင်းကြောင့် စိုးရိမ်ခြင်းဖြစ်ရ၏။ ချစ်ခင်ခြင်းကြောင့် ဘေးဖြစ်ရ၏။ ချစ်ခင်ခြင်းမရှိလျှင် သောကမရှိနိုင်၊ ဘေးအန္တရာယ်ကား ရှိလိမ့်မည်မဟုတ်။

‘နှစ်သက်ခြင်းကြောင့် စိုးရိမ်ခြင်းဖြစ်ရ၏။ နှစ်သက်ခြင်းကြောင့် ဘေးဖြစ်ရ၏။ နှစ်သက်ခြင်းမရှိလျှင် သောကမရှိနိုင်၊ ဘေးအန္တရာယ်ကား ရှိလိမ့်မည်မဟုတ်။

‘အပျော်အပါးမက်ခြင်းကြောင့် စိုးရိမ်ခြင်းဖြစ်ရ၏။ အပျော်အပါးမက်ခြင်းကြောင့် ဘေးဖြစ်ရ၏။ အပျော်အပါးမက်ခြင်းမရှိလျှင် သောကမရှိနိုင်၊ ဘေးအန္တရာယ်ကား ရှိလိမ့်မည်မဟုတ်။

‘ကာမကြောင့် စိုးရိမ်ခြင်းဖြစ်ရ၏။ ကာမကြောင့်ဘေးဖြစ်ရ၏။ ကာမမရှိလျှင် သောကမရှိနိုင်၊ ဘေးအန္တရာယ်ကား ရှိလိမ့်မည်မဟုတ်။

'တဏှာကြောင့် စိုးရိမ်ခြင်းဖြစ်ရ၏။ တဏှာကြောင့် ဘေးဖြစ်ရ၏။ တဏှာမရှိလျှင် သောကမရှိနိုင်၊ ဘေးအန္တရာယ်ကား ရှိလိမ့်မည်မဟုတ်' ဟူ၍ ဟောတော်မူခဲ့၏။

သုဝဏ္ဏတိလကာသားအဖသည် ပဉ္စမစုရမြို့သို့ ဆိုက်ရောက်ခဲ့ကြ၏။ ပဉ္စမစုရမြို့သို့ဆိုက်ရောက်လျှင် ပဉ္စမစုရမင်းထံသို့ မိမိတို့သားအဖ ဖျော်ဖြေခွင့်ပြုပါရန် အခွင့်တောင်းခံခဲ့၏။ ပဉ္စမစုရမင်းက ခွင့်ပြုသည့်အတွက် နန်းရင်ပြင်၌ ဖြေဖျော်ကြသောအခါ ပဉ္စမစုရမင်း၏အနီးတွင် ဥဒ္ဒါလပုဏ္ဏားထိုင်နေလေ၏။ သုဝဏ္ဏတိလကာ၏ဖခင်သည် ရှေးဦးစွာစောင်းကိုတီး၍ သီချင်းကိုဆို၏။ သုဝဏ္ဏတိလကာသည် မိမိဖခင်၏နောက်ကျောမှနေ၍ ဥဒ္ဒါလပုဏ္ဏားကို လိုက်၍ရှာနေ၏။ ဖခင်ဖြစ်သူကို ခပ်တိုးတိုးကြိတ်၍မေးရာ ဖခင်က 'ဟိုမှာထိုင်နေတာ ဥဒ္ဒါလပဲ'ဟု အမူအရာနှင့် ညွှန်ပြလိုက်လေ၏။

သုဝဏ္ဏတိလကာသည် ဥဒ္ဒါလပုဏ္ဏားကိုတွေ့လိုက်လျှင် သားကောင်ကိုတွေ့သောမုဆိုးကဲ့သို့ ပြုံးယောင်ယောင်အမူအရာဖြစ်သွား၏။ သုဝဏ္ဏတိလကာသည် မိမိ၏ကာမဂုဏ်ကွန်ယက်ကို ဖြန့်ကြက်၍ ပုဏ္ဏားကို စွေစွေကလေးကြည့်ကာ ပြုံးရောင်ရောင်အရိပ် မခို့တယို့အမူအရာဖြင့် မိမိ၏ခြုံကမ္ဗလာကိုအသာလှစ်ဟကာ တင့်တယ်လှပနုနယ် ပျိုမျစ်သောကိုယ်အရောင်ကိုယ်အဆင်းကို ပြလိုက်လေ၏။ ဥဒ္ဒါလပုဏ္ဏားသည် သုဝဏ္ဏတိလကာ၏ကွန်ယက်၌ မိလေပြီ။ 'ဒီသူငယ်မ တကယ်သာ ငါမရရင် သေဖွယ်အခင်းကြုံရလေပြီ'ဟုဆိုရမလို ဖြစ်ရှာလေပြီ။ ဥဒ္ဒါလပုဏ္ဏားသည် တစ်ကိုယ်လုံး ရာဂမီးတရှိန်ရှိန်တောက်လောင်ကာ နှာခေါင်းက လေပူတွေမှုတ်ထုတ် မျက်စိက မျက်ရည်ပူတွေယိုစီး ဖောက်ပြန်ခြင်းအမျိုးမျိုးဖြင့် သမာဓိသံတိုင်ယိမ်းယိုင်၍ သတိပညာကင်းလွတ်ကာ ဣန္ဒြေမဆည်နိုင်တော့ပေ။ ဥဒ္ဒါလပုဏ္ဏားသည် 'ဒီနေရာမှာ ငါဆက်နေရင်သေမှာပဲ'တွေးမိပြီး သုဝဏ္ဏတိလကာ သားအဖဖျော်ဖြေသည်ကို ဆုံးအောင်

နားမထောင်နိုင်တော့ဘဲ နေမကောင်းချင်ယောင်ဆောင်ပြီး ချက်ချင်းပင် မိမိအိမ်သို့ထ၍ပြန်ခဲ့၏။

ဥဒ္ဒါလပုဏ္ဏားသည် အိမ်သို့ရောက်သော် မိတ်ဆွေများကို ဖိတ်ခေါ်ပြီး 'မိတ်ဆွေတို့ ဘေးရန်ရှိလာသည့်အခါ မိတ်ဆွေကောင်းတို့မည်သည် အနီး၌ကပ်၍နေလေ့ရှိ၏။ ဆင်းရဲချမ်းသာမှုတစ္စာခံယူကြ၏။ ကိုယ့်ရဲ့ဂုဏ် ကျေးဇူးရှိသည်ကိုသာ ပြောကြားပြီး ဂုဏ်သိက္ခာကျဆင်းစေမည့် ကျေးဇူးမဲ့ စကားကို မပြောကြားကြပေ။ မပြုသင့်သောအရာမျိုးတို့ကိုလည်း တားမြစ်တတ်၏။ ဤကား မိတ်ဆွေကောင်းတို့၏ကျင့်ဝတ် မဟုတ်ပါလော။

'တင့်တယ်စိုပြည် ကျက်သရေနှင့်ပြည့်စုံသော မိမိအဆင်းဖြင့် ကိလေသာရာဂအိုးကို နှိုးဆွတတ်သော ထိုသုဝဏ္ဏတိလကာအမည်ရှိသော သူငယ်မ သည် သူ၏ညိုသောမျက်လုံးကြီးတွေနှင့်ကြည့်ကာ ငါ့နှလုံးသားကို ကြမ်းတမ်းရက်စက်လှစွာ အချစ်မြားတစ်စင်းပစ်လွှတ်လိုက်လေပြီ။ သုဝဏ္ဏတိလကာ၏ပဒုမ္မာကြာပမာ သူ့မျက်နှာကလေးသည် ငါ၏မျက်စိပျားပိတုန်းကို ညှို့ယူဖမ်းစားထားရာ ငါသည် ရုန်းမထွက်နိုင်တော့ပေ။ ထိုသုဝဏ္ဏတိလကာမျက်နှာပဒုမ္မာ၌ တွယ်ငြိနေသောပျားပိတုန်းကောင်နှယ် ငါ၏စိတ်သည်လည်း အရှက်ဟူသောကျိုးကိုဖြတ်၊ ပညာဟူသော တံတိုင်းကျော်၍ သုဝဏ္ဏတိလကာ၏အချစ်ယင်ပြင်၌ ကျွမ်းသမားကျွမ်းထိုးသလို ဣန္ဒြေမရ ဖြစ်ရပါပြီ။

'ထိုသုဝဏ္ဏတိလကာသူငယ်မ အချောဆုံးအလှဆုံးကလေးကြောင့် ငါ့အဖို့ ဘာမျှမသိနိုင်အောင် ဖြစ်ခဲ့ရပါပြီ။ အရာရာမှာ တွေဝေနေခဲ့ပါပြီ။ အရှေ့အနောက်တောင်မြောက်ဆိုတဲ့ အရပ်လေးမျက်နှာကိုတောင် မှန်အောင်မပြောနိုင်လောက်အောင် ဖြစ်ခဲ့ရပါပြီ။ မိတ်ဆွေတို့၊ ငါ့ကို ကယ်ယူစောင့်ရှောက်ကြပါ'ဟု ရာဂမီးလောင်မြိုက်နေသော မိမိ၏အဖြစ်ကို သနားစဖွယ် ငိုယိုမြည်တမ်းဖွင့်ဟပြောဆိုရှာလေသည်။

ဥဒ္ဒါလပုဏ္ဏား၏မိတ်ဆွေတို့ကလည်း ဥဒ္ဒါလပုဏ္ဏားကို 'ဆရာ

ဥဒ္ဒါလ၊ သင်က အဲဒီမိန်းမကို လိုလားတောင့်တနေသော်လည်း အဲဒီမိန်းမဟာ သင့်နဲ့ ဇာတ်တူအဆင့်တူထဲကမဟုတ်၊ အင်မတန်မှ ဇာတ်အားဖြင့် နိမ့်ကျတဲ့ ဒွန်းစဏ္ဍားမဖြစ်ပါတယ်၊ စန္ဒကူးနံ့သာဟာ မစင်နဲ့ပေါင်းစပ်လို့ ရပါ့မလား။ သတိထားပါဦး ဆရာဥဒ္ဒါလ။ လူတွေဟာ မရောက်သင့်မရောက်ထိုက်တဲ့နေရာကို အသွားမတော်မိလို့ ရောက်ရှိသွားကြတဲ့အတွက် ကျက်သရေအပေါင်းဟာ ကိုယ်နဲ့ကင်းကွာသွားတတ်ပါတယ်။ ကျော်စောတဲ့ ဂုဏ်သတင်း၊ အသက်ရှည်ခြင်း၊ ခွန်အားဗလရှိခြင်း၊ ပညာဗုဒ္ဓိစတာတွေဟာလဲ ယုတ်လျော့သွားတတ်ပါတယ်။ ဒီနည်းအတိုင်းပါပဲ။ မလုပ်သင့်တဲ့အလုပ်ကို လုပ်မိတဲ့အတွက် မိမိရဲ့ဂုဏ်သတင်းဟာ မိမိကိုယ်မှ ကင်းကွာသွားတတ်ပါတယ်'ဟု ဖျောင်းဖျပြောဆိုကြ၏။

မိတ်ဆွေများက မည်သို့ဖျောင်းဖျတရားချကြစေကာမူ နားမဝင်နိုင်တော့သော ဥဒ္ဒါလပုဏ္ဏားသည် မိမိ၏မိတ်ဆွေများကို 'မိတ်ဆွေတို့၊ ဤလောက၌ အဖိုးတန်ပတ္တမြားကို မစင်ကြယ်သောအရပ်ကနေ ရခဲ့ပါတယ်။ ဒါနဲ့အတူ မိန်းမရတနာကိုလဲ မကောင်းတဲ့အမျိုးဇာတ်ကဖြစ်ပေမယ့် ယူသင့်လျှင်ယူရပါမယ်'ဟူ၍ မိမိဖြစ်လိုသည်သာ ဇွတ်အတင်းပြောဆိုနေတော့၏။ ထိုသို့ပြောကြဆိုကြပြီးနောက် ဥဒ္ဒါလပုဏ္ဏားက 'မိတ်ဆွေတို့၊ ထိုသုဝဏ္ဏတိလကာကိုသာ ကာမပိုင်ရှိမရှိမေးပြီး လျှင် မရှိပါက ငါ့ထံသို့ ခေါ်ခဲ့ကြပါတော့'ဟုဆိုလေ၏။ ဥဒ္ဒါလပုဏ္ဏား၏ မိတ်ဆွေများလည်း ဖျောင်းဖျ၍မရသည့်အဆုံး၌ သုဝဏ္ဏတိလကာသည် ကာမပိုင်မရှိသည့်အတွက် ဥဒ္ဒါလအိမ်သို့ခေါ်ခဲ့ကြ၏။ ဥဒ္ဒါလပုဏ္ဏားသည် သုဝဏ္ဏတိလကာ အိမ်သို့ရောက်သည့်နေ့မှစ၍ လေးလလုံးလုံးအိမ်ထဲက အိမ်ပြင်သို့ မထွက်တော့၊ မင်းထံပါးလည်း အခစားမဝင်တော့။ သုဝဏ္ဏတိလကာ၏ အနားမှာသာ တွယ်ကပ်နေလေတော့သည်။

ဥဒ္ဒါလပုဏ္ဏားထံ၌ ပညာသင်ယူနေကြသော တပည့်မင်းသားငါးရာတို့သည် မိမိတို့၏ဆရာဥဒ္ဒါလသည် သုဝဏ္ဏတိလကာ၏ကာမဂုဏ်

ကွန်ယက်အတွင်း နှောင်တဲမိနေသည်ကိုသိကြသော် သုဝဏ္ဏတိလကာကို အလွန်မကျေနပ်ကြပေ။ ဤဒွန်းစဏ္ဍားမကို သတ်မှကောင်းတော့မည်ဟု ကြံစည်တိုင်ပင်ခဲ့ကြသည်။ ထိုမင်းသားငယ်တို့သည် ဆင်ထိန်းတစ်ဦးထံသွားပြီး လက်ဆောင်ပဏ္ဏာပေးကာ ဆင်ဆိုးဆိုးတစ်ကောင်ကို အရက်မူးအောင်တိုက်ပြီး သုဝဏ္ဏတိလကာကိုနင်း၍ အသတ်ခိုင်းကြ၏။ ဆင်ထိန်းကလည်း လက်ဆောင်ပဏ္ဏာရမည်ဖြစ်၍ ထိုအလုပ်ကိုလုပ်ဆောင်ရန် တာဝန်ယူလိုက်သည်။ မင်းသားတို့သည် ဆင်ထိန်းနှင့် တိုင်ပင်စီမံကြပြီးနောက် ဆရာဉဒ္ဒါလထံသို့သွား၍ 'ဆရာ့ကိုတွေ့လိုပါသည်၊ ဆရာကြွခဲ့ပါ'ဟု ဖိတ်မန္တကပြုကြ၏။

ဆရာဉဒ္ဒါလကြွလာသော် ဆရာနှင့်ပဋိသန္ထာရစကားပြောဆိုကြပြီး 'ဆရာတစ်ပါးတည်း ကြွလာလေတယ်၊ ဆရာကတော်ကိုလည်း ပင့်ပါဦး'ဆို၍ သုဝဏ္ဏတိလကာကို အခေါ်လွှတ်စေ၏။ ဉဒ္ဒါလပုဏ္ဏားက မိမိတပည့်များ သုဝဏ္ဏတိလကာကို မြင်ဖူးလို၍ အခေါ်ခိုင်းသည်ဟု သဘောရိုးဖြင့် ထင်မြင်ကာ အစေအပါးတို့အား သုဝဏ္ဏတိလကာကိုခေါ်စေ၏။ သုဝဏ္ဏတိလကာသည် အိမ်စေများလာခေါ်၍ အိမ်အပြင်သို့ထွက်လမ်းမပေါ်သို့အရောက်တွင် အရက်သေစာ ယစ်မူးနေအောင်တိုက်ထားသည့် ဆင်ဆိုးကြီးကို သုဝဏ္ဏတိလကာထံ လွှတ်လိုက်၏။ ထိုဆင်ဆိုးဆင်ကြမ်းကြီးသည် နှာမောင်းကြီးဖြင့် မြေကိုပုတ်ခတ်၍ သုဝဏ္ဏတိလကာရှိရာသို့ပြေးသွားပြီး သုဝဏ္ဏတိလကာ၏ အနားသို့ရောက်လျှင် သုဝဏ္ဏတိလကာကို နှာမောင်းနှင့်ပွေ့ကာ မိမိ၏ဦးကင်းပေါ်သို့တင်၍ထားလေ၏။ နင်း၍ကားမသတ်ခဲ့။ ထိုအခါ ဆင်ထိန်းရော မင်းသားတို့ပါ သုဝဏ္ဏတိလကာသေစေရန် ဘာမျှမတတ်နိုင်တော့ပေ။

မင်းသားတို့သည် သုဝဏ္ဏတိလကာ သေမှသာ မိမိတို့၏ဆရာ ဉဒ္ဒါလကို ထိုကာမဂုဏ်ကွန်ယက်မှ ကယ်ထုတ်နိုင်မည်ဟုအယူရှိကြသဖြင့် သုဝဏ္ဏတိလကာသေစေရန် အမျိုးမျိုးကြံစည်ကြပြန်သည်။ နောက်ဆုံးညဘက်တွင် သုဝဏ္ဏတိလကာအိပ်ပျော်နေစဉ် လူသတ်သမားကိုစေလွှတ်

၍ အသတ်ခိုင်းခဲ့၏။ သုဝဏ္ဏတိလကာသေလျှင်ဆရာဥဒ္ဒါလသည် ငိုကြွေး ပူဆွေး၍ မဆုံးတော့ပေ။ အလွန့်အလွန်ပူဆွေးသောကရောက်လျက် ‘ငါ သည် ထိုမိန်းမမရှိလျှင် ဤလောက၌ မနေလိုပြီ’ဟုဆိုကာ မင်းရင်ပြင်၌ မီးပုံကြီးပြု၍ ထိုမီးပုံထဲသို့တိုးဝင်ခုန်ဆင်းကာ မိမိကိုယ်ကို အဆုံးစီရင် လိုက်တော့သည်။

တံလျှပ်ကဲ့သို့ လှည့်စားတတ်သောမိန်းမကြောင့် စိုးရိမ်ခြင်းဖြစ် ရ၏။ ရောဂါဝေဒနာဖြစ်ရ၏။ ဘေးဥပဒ်ဖြစ်ရ၏။ ကြမ်းတမ်းခက် ထရော်မှုတို့နှင့်လည်း ကြုံရ၏။ အနှောင်အဖွဲ့အတွင်းသို့လည်း ရောက် ရ၏။ ထိုမိန်းမသည် သေမင်း၏ကျော့ကွင်းဖြစ်သည်။ ကာမဂုဏ်ကွန် ယက်လည်း ဖြစ်ပေ၏။

ဤသုဝဏ္ဏတိလကာ၏ဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က ‘ထိုသုဝဏ္ဏတိလကာသည် ပန်းလှူခြင်းဟူသော ကောင်းမှုအတွက် သည့် ထက်ကောင်းမြတ်ဆုကိုမတောင်းခဲ့ဘဲ ဆင်ခြင်ဉာဏ်ကင်းကာမသင့်သော ဆုကိုတောင်းခဲ့၍ မသင့်တော်သောအမှုကိစ္စအကြောင်းများဖြစ်ပေါ်ခဲ့ရ၏။ သင်သူတော်ကောင်းသည်လည်း ပညာနှင့်ယှဉ်သော ကုသိုလ်ကောင်း မှုကိုပြုကြလျက် မသင့်သောဆုမျိုးကိုမတောင်းကြဘဲ နိဗ္ဗာန်ကိုသာရှေးရှု၍ ဆုမွန်ကောင်းတောင်းကြပါ’ဟု မှာကြားခဲ့၏။



# အဝတ်ဟောင်းလှူ၍နတ်ဖြစ်ခဲ့ရသူ

---

[၃၃။ ကပဏ္ဏာဝတ္ထု]

ဂေါတမမြတ်စွာဘုရားရှင် မဟာပရိနိဗ္ဗာန်ပြုတော်မူပြီးနောက် ဗုဒ္ဓဘာသာဝင်သူတော်စင်အပေါင်းတို့သည် ဗုဒ္ဓပွင့်တော်မူရာ ဗုဒ္ဓဂယာသို့ သွားရောက်ကြ၍ မဟာဗောဓိပင်ကို ရှိခိုးပူဇော်လေ့ရှိကြသည်။

တစ်ချိန်သောအခါ မဟာဗောဓိပင်ကို ဖူးမြော်ရန် ကြွလာသော ရဟန်းတော်အချို့သည် လမ်းခရီးရွာငယ်တစ်ရွာသို့အရောက်တွင် ဆွမ်းအလို့ငှာ ရွာတွင်း၌ဆွမ်းခံတော်မူကြပြီး ရွာဦးဇရပ်သို့ ဆွမ်းဘုဉ်းပေးရန် ကြွတော်မူခဲ့ကြသည်။ ထိုရဟန်းတော်တို့သည် ဆွမ်းဘုဉ်းပေးပြီးကြသောအခါ ဆွမ်းယစ်ခြင်းကိုပယ်ဖျောက်ရန် ခေတ္တနားနေတော်မူကြ၏။ ထိုစဉ် ဆင်းရဲနွမ်းပါးဟန်ရှိသောမိန်းမတစ်ဦးသည် ရဟန်းတော်များနားနေရာ ထိုဇရပ်အနီးသို့ ရောက်ရှိလာခဲ့သည်။

သူဆင်းရဲမသည် ဇရပ်ပေါ်၌ ရဟန်းတော်များသီတင်းသုံးနေသည်ကို ဖူးမြင်ရသောအခါ ဇရပ်အောက်မှနေ၍ရှိခိုးပြီး 'အရှင်မြတ်တို့ဘုရား၊ အဘယ်အရပ်မှကြွတော်မူလာကြပြီး အဘယ်အရပ်သို့ကြွတော်မူကြပါမည်နည်းဘုရား' ဟုမေးလျှောက်လေသည်။ ရဟန်းတော်တို့က 'ဒါယိကာမကြီး၊ ငါတို့ ဤမည်သောအရပ်ဒေသမှ မြတ်စွာဘုရားရှင်ပွင့်တော်မူရာ မဟာဗောဓိပင်အရပ်ကို ကြွကြမှာဖြစ်ပေတယ်' ဟု မိန့်ဆိုတော်မူကြသည်။ ထို့ပြင် ရဟန်းတော်အရှင်သူမြတ်တို့က မြတ်စွာဘုရားရှင်ပွင့်တော်မူရာ မဟာဗောဓိပင်ကို ဂုဏ်တင်၍ မိန့်ဆိုကြသည်မှာ–

'ထိုမဟာဗောဓိပင်ရင်း၌ စံနေတော်မူသောမြတ်စွာဘုရားသည် မာရ်နတ်မင်းနှင့်တကွစစ်သည်အပေါင်းတို့ကို အောင်တော်မူခဲ့လေပြီ။ ထို့ပြင် အတွင်းသန္တာန်ဆိုးညစ်သော ကိလေသာမာရ်စစ်ကိုလည်း အောင်တော်မူ၍ သံသရာတည်းဟူသော ရေအယဉ်မှကူးမြောက်၍ ဘုရားစင်စစ်ဖြစ်တော်မူခဲ့လေပြီ။

'ကြီးစွာသောလုံ့လရှိတော်မူသော မြတ်စွာဘုရားသည် မရွေ့မလျားရပ်တော်မူလျက်သာ နေ့ညမပျက် ခုနစ်ရက်ကာလပတ်လုံး ထိုမဟာဗောဓိပင်ကို စူးစူးစိုက်စိုက်ရှုကြည့်၍ ပူဇော်တော်မူခဲ့လေပြီ။ ဥဒေါင်းမင်း၏အတောင်သည် မည်းညိုစိမ်းမှောင် ပြောင်လက်သောအရောင်ဖြင့် ထွန်းပသကဲ့သို့ မြတ်စွာဘုရားသည်လည်း ခြောက်သွယ်သောရောင်ခြည်တော်တို့ဖြင့် တင့်တယ်ထွန်းပတော်မူခဲ့၏။ သတ္တဝါတို့အား ဤပစ္စုပ္ပန်ဘဝ၌လည်းကောင်း၊ တမလွန်ဘဝ၌လည်းကောင်း အလိုရှိရာဝတ္ထုတို့ကို ပေးတတ်သော နတ်သစ်ပင်ပဒေသာကြီးကဲ့သို့ အကြင်မဟာဗောဓိပင်သည် ဤကမ္ဘာမြေအပြင်၌ တည်ရှိနေပေ၏။

'ဤလောက၌ အကြင်သူသည် မဟာဗောဓိပင်မှ ကြွေကျသော ဗောဓိရွက်ကို ကောက်ယူ၍ ပူဇော်ထားကြသည်။ ဗောဓိပင်သည် ထိုသူတို့အား ဘဝစည်းစိမ်ဥစ္စာကို ပေးတတ်လေသည်။

'အခါခပ်သိမ်း ပန်းနံ့သာရည်,ရေတို့ဖြင့် ဗောဓိပင်ကို ပူဇော်ကြ၏။ ထိုသူတို့သည် မကောင်းသောရန်အပေါင်းကို ဖြိုဖျက်နိုင်၏။

'အကြင်ဗောဓိပင်သည် ပစ္စုပ္ပန်အကျိုးကိုလည်းပေး၏။ တမလွန်ဘဝကိုလည်း ပြည့်စုံစေ၏။ ထိုမဟာဗောဓိပင်ကို ငါတို့သည် ပူဇော်ရန်သွားကြတော့မည်' ဟူ၍ဖြစ်၏။

သူဆင်းရဲမသည် ရဟန်းတော်အရှင်သူမြတ်၏ ကြည်ညိုနှစ်သက်ဖွယ်စကားတို့ကိုကြားနာရသောအခါ ဝမ်းမြောက်ဝမ်းသာဖြစ်ပြီး 'အရှင်တို့ဘုရား၊ ကျွန်တော်မဟာ သူတစ်ပါးရဲ့အိမ်မှာ အခစားအလုပ်ကို ပင်ပန်း

ကြီးစွာလုပ်ကိုင်ပြီး အသက်မွေးရသူဖြစ်ပါတယ်။ မနက်ဖြန်စားဖို့ရန် ဆန်တစ်ခွက်စာမှလွဲလို့ တခြားဘာပစ္စည်းဥစ္စာမှမရှိပါ။ ယခုဝတ်ထားသော အဝတ်အစားမှတစ်ပါး အပိုဆို၍ အဝတ်လေးတစ်စတောင်မရှိပါ။ အဲဒါကြောင့် အရှင်ဘုရားတို့သည် တပည့်တော်မကို ချီးမြှောက်သောအားဖြင့် အခုရုံထားတဲ့ ဟောဒီအပေါ်ရုံအဝတ်ကလေးကို မဟာဗောဓိပင်မှာ တံခွန်အလံအဖြစ်စိုက်ထူ၍ လှူပေးတော်မူကြပါ'ဟု တောင်းပန်စကားဆိုပြီးလျှင် မိမိ၏ခြုံစကလေးကို ဖြူစင်အောင်အထပ်ထပ်လျှော်ဖွပ်၍ ရဟန်းတော်ထံ လှူဒါန်းခဲ့လေသည်။

ရဟန်းတော်တို့လည်း ထိုသူဆင်းရဲမကိုချီးမြှောက်လို၍ ထိုအထည်စကလေးကို မဟာဗောဓိပင်သို့ယူဆောင်၍သွားခဲ့ကြ၏။ ထိုသူဆင်းမသည် အပေါ်ရုံအထည်စကိုလှူပြီးသည့်နောက် ထိုညသန်းခေါင်ယံမှာပင် လေသင်ဓုန်းဖြတ်၍ ကွယ်လွန်ရှာလေသည်။ ကွယ်လွန်လျှင် အထည်စလှူသောဒါနကောင်းမှုကြောင့် တောအုပ်တစ်အုပ်တွင် ဘုမ္မစိုးနတ်သမီးဖြစ်ခဲ့၏။ ထိုဘုမ္မစိုးနတ်သမီးသည် ရှေးကုသိုလ်ကောင်းမှု၏အကျိုးကြောင့် ဘုံဗိမာန်မှ သုံးယူဇနာအရပ်အတွင်းမှာပင် နတ်ပဒေသာပင်များ တင့်တင့်တယ်တယ် ပေါက်ရောက်ခဲ့၏။ အထူးဆန်းကြယ်သော တံခွန်ကုက္ကားစသည်တို့သည်လည်း တွဲလွဲဆွဲ၍တည်နေ၏။ နတ်သားနတ်သမီးတို့သည် ထိုတံခွန်ကုက္ကားတို့ကိုယူ၍ ကစားကြကုန်၏။

နောက်တစ်နေ့မိုးသောက်သောအခါ ရဟန်းတော်များသည် မဟာဗောဓိပင်သို့ ခရီးဆက်တော်မူခဲ့ကြရာ ထိုဘုမ္မစိုးနတ်သမီး၏ဗိမာန်ရှိရာ တောအုပ်အတွင်းသို့ရောက်ရှိလာကြ၏။ တောကြီးအတွင်း အဆင်အရောင်အသွေးအမျိုးမျိုးဖြင့် အလွန်လှပသော တံခွန်ကုက္ကားတို့ကို တွေ့မြင်တော်မူကြ၏။ ရဟန်းတော်အရှင်မြတ်တို့က ဤဗိမာန်နတ်နန်းသည် ဤတော၌နေသော ဘုမ္မစိုးနတ်သမီး၏ ကုသိုလ်အစွမ်းဟု သိရှိတော်မူကြသဖြင့် ဘုမ္မစိုးနတ်သမီးကိုခေါ်ပြီး 'သင်ဟာ အတိတ်ဘဝက ဘယ်လို

ကောင်းမှုကိုပြုခဲ့လို့ ယခုဘဝမှာ ဒီလိုအကျိုးကိုရခဲ့ပါသလဲ’ဟုမေးတော်မူကြ၏။

ထိုအခါ ဘုမ္မစိုးနတ်သမီးက ရဟန်းတို့ကို လက်အုပ်ချီ၍ရပ်လျက် ‘အရှင်ဘုရားတို့၊ တပည့်တော်ကိုမမှတ်မိကြဘူးလားဘုရား’ဟု ဆို၏။ ရဟန်းတော်တို့က ‘သင့်ကို ငါတို့မမှတ်မိပါ၊ သင်ဘယ်သူလဲ’ဟုမေးလျှင် မိမိ၏အဖြစ်အပျက်ကို ပြန်၍ပြောပြလေသည်။

‘အရှင်တို့ဘုရား၊ အဝတ်ကလေးတစ်ထည်ကို မဟာဗောဓိပင်မှာ တံခွန်အလို့ငှာ အရှင်ဘုရားထံလှူခဲ့သောသူဆင်းရဲမသည် တပည့်တော်ပင် ဖြစ်ပါသည်ဘုရား။ တပည့်တော်သည် ယမန်နေ့ညက ကွယ်လွန်ခဲ့ပြီး ထိုခြုံစအလှူကလေး၏ ကုသိုလ်ကောင်းမှုကြောင့် ဤတောအရပ်၌ ရတနာဗိမာန်ပိုင်ရှင် ဘုမ္မစိုးနတ်သမီး ဖြစ်ခဲ့ရပါပြီ။

‘အရှင်တို့ဘုရား၊ ယမန်နေ့က တပည့်တော်သည် ဖုန်မှုန့်တို့ဖြင့် လိမ်းကျံထားသောကိုယ်ရှိခဲ့ပါသည်။ ယနေ့မှာမူ တပည့်တော်သည် အရောင်အဆင်း ပြိုးပြိုးပြက်ပြက်လင်းလက်တောက်ပသောကိုယ်ရှိခဲ့ပါပြီ။ ရှုတော်မူကြပါဘုရား။

‘အရှင်တို့ဘုရား၊ ယမန်နေ့က တပည့်တော်၏တစ်ထည်တည်းသော အဝတ်အစားတို့သည် အညစ်အကျေးတို့ဖြင့် လိမ်းကျံရှိခဲ့ပါသည်။ ယနေ့ တပည့်တော်၏ကိုယ်၌ နတ်ဝတ်တန်ဆာဖြင့် ပြည့်စုံနေပါပြီ။ ရှုတော်မူကြပါဘုရား။

‘အရှင်တို့ဘုရား၊ ယမန်နေ့က တပည့်တော်၏သန်းချေးတို့ဖြင့် ဖရိုဖရဲညစ်ပေနေသောဆံပင်တို့သည်လည်း ယခုအခါ၌ ညိုမောင်းနူးညံ့၍ လှပပြီး နတ်ပန်းတန်ဆာတို့ဆင်ယင်ကာ ရှုချင့်စဖွယ်ဖြစ်ခဲ့ရပါပြီ။ ရှုတော်မူကြပါဘုရား’

‘အရှင်တို့ဘုရား၊ ယမန်နေ့က တပည့်တော်၏ဦးခေါင်းထက်၌ ထင်းစည်း ရေပုံးစသည်တို့ကို ထမ်းရွက်နေခဲ့ရပါသည်။ ယနေ့ တပည့်

တော်၏ဆံပင်ထက်၌ ပန်းနံ့သာရတနာတည်းဟူသော အဆင်းတန်ဆာသာ ရှိပါတော့သည်ဘုရား။

'အရှင်တို့ဘုရား၊ ယမန်နေ့က တပည့်တော်သည် တံခွန်အလှူကို ပေးလှူခဲ့၍ ဤနတ်စည်းစိမ်ကိုရခဲ့ပါသဖြင့် သူတော်ကောင်းတို့သည်လည်း နတ်လူချမ်းသာကိုပေးတတ်သော မြတ်သောဒါနကောင်းမှုကို ပြုကြပါ'ဟု လျှောက်ထားခဲ့၏။

ဘုမ္မစိုးနတ်သမီး၏စကားကို ရဟန်းတော်တို့ကြားတော်မူကြလျှင် မဖြစ်ဖူးမြဲ ထူးကဲလှပေ၏ဟု အံ့သြခြင်းဖြစ်ခဲ့ကြ၏။ ထိုဘုမ္မစိုးနတ်သမီးသည် နောက်တစ်နေ့၌ နတ်တို့၏ခဲဖွယ်ဘောဇဉ်ဖြင့် ရဟန်းတော်တို့ကို သဟတ္ထိကမြောက် ဆက်ကပ်လှူဒါန်း၏။ ထိုဘုမ္မစိုးနတ်သမီးသည် ရဟန်းတော်တို့နှင့်အတူ ဗုဒ္ဓဂယာသို့လိုက်သွားပါခဲ့ပြီး မဟာဗောဓိစေတီတော်မြတ်ကို ပန်း,နံ့သာ,ဆီမီး,တံခွန်,ကုက္ကားတို့ကို ဆက်ကပ်လှူဒါန်းခဲ့၏။ ထိုအခါ ဘုမ္မစိုးနတ်သမီးအဖြစ်မှ တစ်ဖန်တစ်ဆင့်တက်၍ တာဝတိံသာနတ်ပြည်၌ ဖြစ်ရလေတော့သည်။

ဤအထီးကျန်သူဆင်းရဲမကပဏ္ဏာ၏ဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'ဤသို့လျှင် အထီးကျန်သောသူဆင်းမသည်ပင် မြတ်စွာဘုရား၏သာသနာတော်၌ ကြည်ညိုသောကြောင့် မိမိ၏တစ်ထည်တည်းသော ထူထဲကြမ်းတမ်းညစ်နွမ်းစုတ်ပဲ့သော အပေါ်ရုံကိုယ်ဝတ်ကလေးကို မဟာဗောဓိပင်၌လှူခဲ့၏။ ထိုမဖြစ်စလောက် ဒါနကုသိုလ်၏အစွမ်းကြောင့် နတ်၌ဖြစ်သောစည်းစိမ်ကိုရလေပြီ။ သင် သူတော်ကောင်းသည်လည်း ဤအဖြစ်ရပ်ကိုကြည့်၍ ရတနာသုံးပါးအား ပူဇော်ခြင်းပြုကြပါ လော့'ဟု တိုက်တွန်းထား၏။



## အသောကမင်းနှင့်ဣန္ဒဂုတ္တမထေရ်

### [၃၄။ ဣန္ဒဂုတ္တတ္ထေရဝတ္ထု]

ဂေါတမမြတ်စွာဘုရားရှင် မဟာပရိနိဗ္ဗာန်ပြုတော်မူပြီးနောက် ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ ပါဋလိပုတ်မြို့၌ ဘုန်းတန်ခိုးအာနုဘော်နှင့်ပြည့်စုံသော အသောကမင်းကြီး ထီးနန်းအုပ်ချုပ်မင်းလုပ်နေခဲ့၏။ ထိုအသောကမင်းကြီးသည် အထက်ကောင်းကင်၌တစ်ယူဇနာ၊ အောက်မြေတစ်ခွင်၌တစ်ယူဇနာ အာဏာစက်ပျံ့နှံ့ခဲ့၏။ ထိုစဉ်အခါက ဇမ္ဗူဒိပ်ကျွန်း၌ရှိကြသော မြို့ပေါင်းရှစ်သောင်းလေးထောင်တို့မှမင်းတို့သည် မှူးမတ်ပရိသတ်တို့နှင့်အတူ ဓမ္မာသောကမင်းကြီးထံသို့ ဝင်ရောက်ခစားခဲ့ကြရ၏။

ထိုစဉ်အခါ ဒေဝပုတ္တမြို့၌ နန်းစံနေသော ဒေဝပုတ္တမင်းသည်လည်း မိမိ၏မှူးမတ်ခြွေရံ ပရိသတ်နှင့်အတူ ဓမ္မာသောကမင်းကြီးထံသို့ဝင်ရောက်ခစားရာ ဓမ္မာသောကမင်းကြီးက ဒေဝပုတ္တမင်းကို 'သင်တို့တိုင်းနိုင်ငံ၌ အကြားအမြင်များ၍ ပိဋကတ်သုံးပုံကို ကောင်းစွာနှုတ်ငုံဆောင်နိုင်သော၊ သီလစသောဂုဏ်နှင့် ပြည့်စုံသော အရှင်ကောင်းတို့ရှိပါကုန်သလော'ဟု မေးတော်မူသည်။ ဒေဝပုတ္တမင်းက 'အရှင်မင်းကြီး၊ ဒေဝပုတ္တမြို့၌ သီဟကုမ္ဘကကျောင်းတိုက်ကြီး တည်ရှိပါသည်။ ထိုကျောင်းတိုက်၌ သံဃာတော်အပါးတစ်ထောင်ကျော် သီတင်းသုံးနေတော်မူကြပါသည်။ ထိုသံဃာတော်အရှင်မြတ်တို့သည် သီလနှင့်ပြည့်စုံတော်မူကြပါ၏။ ရောင့်ရဲမှုလည်းရှိကြ၏။ ဆိတ်ငြိမ်ရာသို့လည်း ချဉ်းကပ်နေတော်မူကြပါ၏။ ထိုရဟန်းတော်တို့တွင် သံဃမဟာနာယကအကြီးအမှူးဖြစ်တော်မူသော အရှင်ဣန္ဒဂုတ္တမဟာ

ထေရ်မြတ်သည် ပိဋကတ်သုံးပုံကို အဋ္ဌကထာနှင့်တကွဆောင်တော်မူပါ၏။ ထိုအရှင်ကုလ္လဒ္ဓဂုတ္တမထေရ်သည် လူနတ်နှင့်တကွ သံဃာတော်တို့အား တရားဓမ္မကွန်တို့ကို အကျယ်တဝင့်ရှင်းလင်းဟောကြားတော်မူလေ့ရှိပါသည်။' ဟုဖြေကြားလေသည်။ ဒေဝပုတ္တမင်း၏စကားကိုကြားရလျှင် ဓမ္မာသောကမင်းကြီးသည် ထိုသံဃာအကြီးအမှူး ဦးစီးဥက္ကဋ္ဌ အရှင်ကုလ္လဒ္ဓဂုတ္တမထေရ်မြတ်အား ကြည်ညိုသည်ဖြစ်၍'အဆွေဒေဝပုတ္တ၊ ငါသည် ကုလ္လဒ္ဓဂုတ္တမထေရ်မြတ်ကို ဖူးမြင်လိုတယ်၊ ကြံဆောင်ပေးပါ'ဟု အမိန့်ရှိတော်မူခဲ့၏။

ဓမ္မာသောကမင်းကြီးဆိုသည့်အတိုင်း ဒေဝပုတ္တမင်းသည် အရှင်ကုလ္လဒ္ဓဂုတ္တမထေရ်အား ပါဋလိပုတ်ပြည်သို့ပင့်ဆောင်ရန် စစ်သည်ဗိုလ်ခြေများစွာဖြင့် ဒေဝပုတ္တမြို့သို့သွားလေသည်။ အရှင်ကုလ္လဒ္ဓဂုတ္တမထေရ်ထံမှောက်ရောက်သည်ရှိသော် 'အရှင်မြတ်ဘုရား၊ ဓမ္မာသောကမင်းကြီးသည် အရှင်မြတ်ကို ဖူးမြင်လိုပါ၏'ဟု လျှောက်ထားခဲ့၏။ အရှင်ကုလ္လဒ္ဓဂုတ္တမထေရ်ကလည်း'ကောင်းပြီ'ဟုဝန်ခံတော်မူ၏။ ဒေဝပုတ္တမင်းသည် အရှင်ကုလ္လဒ္ဓဂုတ္တမထေရ်ထံမှ ဝန်ခံစကားကိုရလျှင် ဓမ္မာသောကမင်းကြီးထံသို့ 'အရှင်မင်းကြီးဆန္ဒရှိတော်မူသည့်အတိုင်း အရှင်ကုလ္လဒ္ဓဂုတ္တမထေရ်သည် ပါဋလိပုတ်ပြည်သို့ ကြွလာတော်မူပါလိမ့်မည်'ဟု စာသဝဏ်စေလိုက်၏။

ဓမ္မာသောကမင်းကြီးလည်း နှစ်သက်ဝမ်းမြောက်တော်မူပြီးလျှင် မိမိအာဏာစက်ပျံ့နှံ့ရာ ရှစ်သောင်းလေးထောင်သောမင်းတို့ထံ ကုလ္လဒ္ဓဂုတ္တမထေရ်မြတ်ကြွလာသောလမ်းခရီးကို ပြုပြင်ပြီးတန်ဆာဆင်ကြရန် အမိန့်ပေးခဲ့၏။ ထိုမင်းအပေါင်းတို့သည်လည်း ဒေဝပုတ္တမြို့မှ ပါဋလိပုတ်မြို့တိုင်အောင် ခရီးလမ်းငါးဆယ့်ငါးယူဇနာအတွင်း မညီမညွတ်သောလမ်းတို့ကို ပြင်ဆင်၍ နတ်လမ်းကဲ့သို့ တင့်တယ်စွာတန်ဆာဆင်ကြပြီးလျှင် မင်းကြီးဆန္ဒရှိသည့်အတိုင်း စီမံပြီးစီးကြောင်းကို ဓမ္မာသောကမင်းကြီးထံသို့ သတင်းပို့ဆောင်ခဲ့ကြ၏။ ဓမ္မာသောကမင်းကြီးသည် ပါဋလိပုတ်နေပြည်တော်နှင့် ဒေဝပုတ္တမြို့အကြား၌ ဂင်္ဂါမြစ်တည်ရှိနေသည်ဖြစ်၍ ဂင်္ဂါမြစ်ကို

လည်း တန်ဆာဆင်ဦးမည်ဟုကြံစည်တော်မူပြီး ဘီလူး တစ်ဆယ့်ခြောက်ဦးတို့ကို ထိုတာဝန်ပေး၍ စေခိုင်းခဲ့၏။

ဘီလူးတစ်ဆယ့်ခြောက်ဦးတို့သည် မိမိတို့အခြွေအရံများနှင့်တကွ ဂင်္ဂါမြစ်သို့သွားပြီး ဂင်္ဂါမြစ်၏အတွင်း ကျောက်ဖျာတို့ကို တန်ခိုးဖြင့် ခင်းကြ၏။ ထိုကျောက်ဖျာတို့ပေါ်တွင် သီတိုင်များစိုက်ကာ ထုတ်လျှောက်ဒိုင်းတို့သွင်း၍ ဟိမဝန္တာမှ စန္ဒကူးနီအနှစ်ပျဉ်ချပ်တို့ကိုခင်းကြ၏။ ရေပြည့်အိုးနှင့် ရတနာမျိုးစုံ ထီးတံခွန်စသည်တို့ကို တံတားဘေးနှစ်ဖက်၌ ချိတ်ဆွဲ၍ ထားကြ၏။ ပြိုးပြိုးပြက်ပြက်အရောင်ထွက်နေသော ပုလဲတို့ကို သဲပမာ ကြဲဖြန့်ကြ၏။ တံတား၏အထက်၌ ထူးခြားဆန်းကြယ်သော မျက်နှာကြက်များကို ဆင်ယင်ထားပြန်၏။ ထိုမျက်နှာကြက်တို့တွင် နတ်ပန်းများ ချိတ်ဆွဲထား၏။ ထိုသို့ဂင်္ဂါမြစ်၌ မွမ်းမံပြင်ဆင်၍ ပြီးဆုံးသောအခါ ဓမ္မာသောကမင်းကြီးထံသို့ အကြောင်းကြားစာပို့ခဲ့ကြ၏။

အရှင်ဏ္ဍဂုတ္တမထေရ်ကို ပင့်ဆောင်လာမည့်ခရီးလမ်းတစ်လျှောက် ပြုပြင်တန်ဆာဆင်မှုကိစ္စများပြည့်စုံသောအခါ ဓမ္မာသောကမင်းကြီးက ဒေဝပုတ္တမင်းနှင့်အခြားသောမင်းတို့ထံသို့ 'ဏ္ဍဂုတ္တအရှင်မြတ်ကို ပါဋလိပုတ်ပြည်သို့ ပင့်ဆောင်လာကြ'ဟု အမိန့်တော်စေလိုက်၏။ ထိုမင်းတို့ကလည်း အရှင်ဏ္ဍဂုတ္တမထေရ်ကို 'အရှင်မြတ်ဘုရား၊ ပါဋလိပုတ်ပြည်သို့ ကြွတော်မူရန် အချိန်တန်ပါပြီဘုရား'ဟု လျှောက်ထားခဲ့ကြ၏။ အရှင်ဏ္ဍဂုတ္တမထေရ်သည် သံဃာတော်ခြောက်သောင်းခြံရံပြီး ငါးဆယ့်ငါးယူဇနာရှိသော ပါဋလိပုတ်ပြည်သို့ ကြွတော်မူခဲ့လေသည်။ ဒေဝပုတ္တမြို့သူမြို့သားတို့ကလည်း ပန်းနံ့သာ ထီးတံခွန်ကုက္ကားစသည် အတီးအမှုတ်အကအခုန်စသည်တို့ဖြင့် ပူဇော်ကြကာ မထေရ်မြတ်ကို ဒေဝပုတ္တမြို့အထွက်အထိ ရောက်အောင် ပို့ဆောင်ခဲ့ကြသည်။

အရှင်ဏ္ဍဂုတ္တမထေရ်သည် အထူးထူးသောပူဇော်ဖွယ်တို့ဖြင့်ပူဇော်ခြင်းကိုခံယူတော်မူပြီး ကြွချီတော်မူခဲ့ရာ စန္ဒဘာဂါမြစ်(ခေါ်)ဂင်္ဂါမြစ်ထိပ်

တံတားသို့ရောက်တော်မူသောအခါ ဘီလူးတို့၏တန်ခိုးဖြင့် အထူးကြီးကျယ် ပြင်ဆင်မွမ်းမံပူဇော်ထားသည်ကို ရှုမြင်ရလျှင် အရှင်မြတ်၏စိတ်တွင်း၌ 'ယခုအခါ ဤဇမ္ဗူဒိပ်တွင် ငါမှတစ်ပါးမည်သည့်အရှင်မှ ဤသို့သောပူဇော်မှုကို ခံယူရလိမ့်မည်မဟုတ်။ ငါသည် တုဖက်မရှိ အမြတ်ဆုံးပုဂ္ဂိုလ်ဖြစ်ပေသည်တကား'ဟု သေယျမာန်တက်ကာ တံတားထိပ်၌ ခက်ထန်သောစိတ်ဖြင့် ရပ်တန့်၍နေမိလေသည်။ ထိုအခါ ရဟန္တာအရှင်မြတ်တစ်ပါးသည် မာန်တက်နေသည့် အရှင်ကုန္ဒဂုတ္တမထေရ်ကို ဒိဗ္ဗစက္ခုဖြင့်မြင်၍ အရှင်ကုန္ဒဂုတ္တမထေရ်၏ထံပါးသို့ ချဉ်းကပ်ပြီး မထေရ်အား

'အရှင်ဘုရား၊ အရှင်ဘုရားတို့သည် မာန၏အလိုသို့မလိုက်ကြပါလင့်။ မာန၏အလိုကိုလိုက်ကြပါမူ သံသရာတည်းဟူသော လှောင်ချိုင့်တွင်းသို့ကျရောက်ကာ အခါခပ်သိမ်း အကျိုးမဲ့ကိုသာ ဖြစ်စေတတ်ပါသည်။ မာနဖြင့် မွေနှောက်ထားသည့် စိတ်ရှိသော၊ တဏှာလောဘ,ပဋိဃဒေါသနှင့် ယှဉ်တွဲမိသောသတ္တဝါ၏ဘဝ၌ မျောက်ပမာ,မြွေပမာ,ခွေးပမာစသည်ဖြင့် ဖြစ်ကြရ၏။

'အရှင်သည် မာနကိုတိုးပွားအောင်မလုပ်ပါနှင့်။ မိမိကိုယ်ကို သန့်ရှင်းအောင်သုတ်သင်လိုက်ပါ၊ မစင်ကြယ်သော အလိုဆိုးကို နှလုံးသွင်းမိသည့် ရဟန်းသည် ဒါယကာတို့၏ နှစ်သက်မှုကို ဆောင်ရွက်နိုင်လိမ့်မည် မဟုတ်ပေ။

'အရှင်သည် မိမိကိုပေးလှူကြသော,မိမိ၏ဂုဏ်ကို နှလုံးသွင်းပူဇော်ကြသော ဒါယကာတို့၏အကျိုးကို တကယ်အလိုရှိပါက ဝါန-ဟုဆိုအပ်သောတဏှာမှ ထွက်မြောက်အောင်(ဝါ)နိဗ္ဗာန်သို့ မျက်မှောက်ပြုနိုင်ရန်အားထုတ်ပါလော့'ဟု ဆုံးမတော်မူလိုက်၏။

ထိုရဟန္တာအရှင်မြတ်၏စကားကို ကြားသောအခါ အရှင်ကုန္ဒဂုတ္တမထေရ်သည် သံသရာ၌ငြီးငွေ့သည်ဖြစ်၍ ထိုစန္ဒဘာဂါတံတားထိပ်၌ရပ်လျက်နေစဉ် လက္ခဏာယဉ်သုံးပါးဖြင့် ကာရဇကာယကို သုံးသပ်သည်

ရှိသော် ပဋိသမ္ဘိဒါမဂ်လေးပါးနှင့်တကွ ရဟန္တာဖြစ်တော်မူပြီး ထိုစန္ဒာဘာဂါ တံတားပေါ်မှ ကြွတော်မူခဲ့လေသည်။ ထို့နောက် ဓမ္မာသောကမင်းသည် ဆင်မြင်းစသော စစ်သည်ဗိုလ်ပါကြီးစွာခြံရံလျက် ရှိခိုးပူဇော်ပြီး အရှင်ဣန္ဒဂုတ္တအရှင်မြတ်ကို ပါဋလိပုတ်မြို့တော်တွင်းသို့ ပင့်ဆောင်ခဲ့လေသည်။

ပါဋလိပုတ်နေပြည်တော်သို့ရောက်သောအခါ၌ အရှင်ဣန္ဒဂုတ္တမထေရ် ဟောကြားအပ်သော တရားတော်မြတ်ကို ဓမ္မာသောကမင်းကြီး နာကြားရသည်ရှိသော် ကြည်ညိုသောစိတ်ဖြစ်လျက် ငါးပါးသီလကို ဆောက်တည်ကာ စတုပစ္စယဒါယကာအဖြစ် ခံယူခဲ့လေသည်။ အရှင်ဣန္ဒဂုတ္တမထေရ်နှင့်တကွ ခြောက်သောင်းသောသံဃာတော်တို့ကို ပစ္စည်းလေးပါးတို့ဖြင့် နေ့စဉ်လုပ်ကျွေးခဲ့၏။ အရှင်ဣန္ဒဂုတ္တသည် အဋ္ဌကထာနှင့်တကွ ပိဋကတ်သုံးပုံပါဠိတော်တို့ကို သံဃာတော်တို့အား သင်ကြားပြသတော်မူပြီးလျှင် ထိုပါဋလိပုတ်ပြည်ရှိ ကျောင်းတော်မှာပင် ပရိနိဗ္ဗာန်ပြုတော်မူခဲ့၏။ ဓမ္မာသောကမင်းသည် အရှင်ဣန္ဒဂုတ္တမထေရ်၏ ရုပ်ကလာပ်တော်ကို ကြီးကျယ်ခမ်းနားစွာ သာဓုကီဠနသဘင်ဆင်ယင်တော်မူပြီးနောက် ကြွင်းကျန်သော ဓာတ်တော်တို့ကို ဌာပနာ၍ စေတီတော်ကြီးတစ်ဆူတည်ခဲ့၏။

ဤဓမ္မာသောကမင်းနှင့်အရှင်ဣန္ဒဂုတ္တမထေရ်တို့၏ အဖြစ်အပျက်ကို အကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'ရှေး၌ပြုအပ်သော ကောင်းမှုကံရှိသူတို့၏ ဂုဏ်ရှိန်တေဇော်အာနုဘော်ကို နတ်နှင့်တကွ လူတို့သည် ပူဇော်ကြကုန်၏။ ထို့ကြောင့် အကြင်သီလနှင့်ပြည့်စုံသူတို့ကို အခါခပ်သိမ်းရှိသေကြလျက် သံဃာတော်တည်းဟူသော လယ်ယာမြေကောင်း၌ ကောင်းမှုကိုပြုကြပါ'ဟု တိုက်တွန်းရေးသားခဲ့ကြ၏။



# သစ်ခွပန်းသုံးပွင့်

[ ၃၅။ သာခမာလပူဇ်ကာဝတ္ထု ]

ဂေါတမမြတ်စွာဘုရားရှင်သည် လေးသင်္ချေနှင့်ကမ္ဘာတစ်သိန်း ပါရမီဆယ်ပါးကို ပြည့်စုံစွာဖြည့်ကျင့်ဆည်းပူးပြီး တုသိတာနတ်ပြည်၌ စံနေတော်မူခဲ့သည်။ ထိုတုသိတာနတ်ပြည်၌ မွေ့လျော်တော်မူပြီးနောက် ဤဇမ္ဗူဒိပ်ကျွန်း ကပိလဝတ်ပြည် သကျသာကီဝင်မင်းမျိုး၌ ပဋိသန္ဓေနေခဲ့၏။ ဖွားမြင်မြောက်သည်ရှိသော် ဘုရားဖြစ်တော်မူခဲ့ပြီး လေးဆယ့် ငါးဝါကာလပတ်လုံး သတ္တဝါတို့၏ လူနတ်နိဗ္ဗာန်သုံးတန်သောချမ်းသာကို ရည်၍ ရှစ်သောင်းလေးထောင်သော ဓမ္မက္ခန္ဓာတို့ကိုဟောကြားတော်မူခဲ့၏။ များလှစွာသောသတ္တဝါတို့ကို သံသရာခရီးကြမ်းမှ ထုတ်ဆောင်ကယ်ယူတော်မူ၍ ဘုရားတို့၏ပြုဖွယ်ကိစ္စ ပြီးဆုံးစေတော်မူပြီးသော် ကုသိနာရုံပြည်၏ အကွေ့မလ္လာမင်းတို့၏အင်ကြင်းဥယျာဉ်တောအတွင်း အသင့်ခင်းထားသော ညောင်စောင်းထက်၌ လက်ျာနံတောင်းလျောင်းစက်တော်မူခဲ့လေပြီ။ ပစ္ဆိမယာမ်တွင် ရဟန်းတော်တို့ကိုဆုံးမ၍ နံနက်မိုးသောက်သောအခါ၌ မဟာပထဝီမြေကြီးကိုတုန်လှုပ်စေလျက် ဝိပါက်နာမက္ခန္ဓာ ကဋတ္တာရုပ်အကြွင်းမရှိသော အနုပါဒိသေသနိဗ္ဗာနဓာတ်ဖြင့် ပရိနိဗ္ဗာန်ပြုတော်မူခဲ့၏။

လူသုံးပါးတို့၏ကိုးကွယ်ရာဖြစ်တော်မူသော မြတ်စွာဘုရားသခင် မဟာပရိနိဗ္ဗာန်ပြုသည်ရှိသော် အရှင်အာနန္ဒာမထေရ်သည် မလ္လာမင်းတို့ထံ ထိုအကြောင်းကို ပြောကြားစေ၏။ ကုသိနာရုံပြည်သူပြည်သားများနှင့် နတ်ဗြဟ္မာများအပေါင်းတို့သည် သံဝေဂရဖွယ်သီဆိုခြင်း ကခုန်ခြင်း တီးမှုတ်

ခြင်းတို့ဖြင့်လည်းကောင်း၊ ပန်းနံ့သာတို့ဖြင့်လည်းကောင်း ပူဇော်ကြကာ မြတ်စွာဘုရားရှင်၏ရုပ်ကလာပ်တော်ကို မြို့အလယ် မကုဋဗန္ဓနမည်သော မလ္လာမင်းတို့၏စေတီတည်ရာဌာနသို့ဆောင်ယူခဲ့ကြ၏။ ထိုမကုဋဗန္ဓန စေတီသို့ရောက်သော် မြတ်စွာဘုရားရှင်၏ရုပ်ကလာပ်တော်ကို စကြဝတေး မင်း၏ကိုယ်ကဲ့သို့ ပုဆိုးသစ်ဖြင့်ရစ်ပတ်၏။ ထို့နောက် ဝါဂွမ်းအထပ်ငါးရာ တို့ဖြင့် အထပ်ထပ်ရစ်ပတ်၍ သံဆီစကျည်ခွက်၌ထည့်ပြီး အခြားဆီစ ကျည်ခွက်ကိုဖုံးအုပ်ကာ နံ့သာထင်းပုံထက်၌ တင်ထားကြ၏။ အလုံးစုံစီစဉ် ပြုပြီးသောအခါ ရှင်မဟာကဿပမထေရ်သည် မြတ်စွာဘုရား၏ ခြေတော် ကို ရှိခိုးသည်ရှိသော် နတ်တို့၏အာနုဘော်ကြောင့် နံ့သာထင်းပုံသည် တေဇောဓာတ်လောင်မြိုက်ခဲ့လေသည်။ တေဇောဓာတ်တစ်ပြိုင်နက် လောင်မြိုက်သည်ရှိသော် မြတ်လေးပန်းနှင့်တူသောဓာတ်တော်တို့သည် ကြွင်းကုန်၏။

ထိုအခါကာလ၌ ကောသလတိုင်း ကောသလမင်းနေပြည်တော် အတွင်းရှိ ရွာကလေးတစ်ရွာ၌နေထိုင်သော အလွန်ဆင်းရဲလှသည့် မိန်းမ တစ်ယောက်သည် မြတ်စွာဘုရားရှင် ပရိနိဗ္ဗာန်ပြုတော်မူ၍ကျင်းပသော သာဓုကီဠနပွဲသဘင်သို့လာခဲ့၏။ သို့ပါသော် ထိုသူဆင်းရဲမသည် လမ်းခရီး မှာပင် လေရောဂါဖိစီးနှိပ်စက်သောကြောင့် သာဓုကီဠနသဘင်ကျင်းပရာ ပွဲခင်းအတွင်းသို့ မသွားနိုင်တော့ဘဲ တေဇောဓာတ်လောင်ရာ မကုဋဗန္ဓန စေတီတည်ရာသို့သွား၍ မြတ်စွာဘုရားရှင်၏သရီရဓာတ်တော်တို့ကို သစ်ခွ ပန်းသုံးပွင့်ဖြင့် ပူဇော်ခဲ့လေသည်။

ထိုအမျိုးသမီးသည် ထိုညသန်းခေါင်ယံမှာပင် လေရောဂါဖြင့် ကွယ် လွန်ခဲ့ပြီး တာဝတိံသာနတ်ပြည်တွင် ယူဇနာသုံးဆယ်ရှိသော ရွှေဗိမာန် ကြီးပိုင်ရှင် နတ်သမီးဖြစ်ခဲ့သည်။ မြတ်စွာဘုရားရှင်၏သရီရဓာတ်တော် တို့ကို သစ်ခွပန်းသုံးပွင့်ပူဇော်သော ကုသိုလ်ကံ၏အစွမ်းကြောင့် ရထား လှည်းဘီးအဝန်းပမာဏရှိသော သစ်ခွပန်းပွင့်ကြီးတို့သည် ထိုနတ်သမီး၏

ဗိမာန်အတွင်း၌ တွဲရရွဲဆွဲ၍ တည်နေကြ၏။ ထိုသစ်ခွပန်းတို့၏အရောင်ဖြင့်ပင် ဗိမာန်ကြီးတစ်ခုလုံး လင်းလက်တောက်ပနေ၏။ ထိုနတ်သမီးသည် မိမိ၏ရှေးကုသိုလ်ကံကောင်းမှုကိုဆင်ခြင်သောအခါ လွန်ခဲ့သောဘဝက ဂေါတမမြတ်စွာဘုရားရှင်၏သရီရဓာတ်တော်တို့ကို သစ်ခွပန်းသုံးပွင့်ဖြင့် ပူဇော်ရသော ကုသိုလ်ကောင်းမှုကြောင့် ဖြစ်ကြောင်းကို သိရှိခဲ့လေသည်။ သို့ဖြစ်၍ လှည်းဘီးအဝန်းပမာဏရှိသော နတ်သစ်ခွပန်းတို့ကို ဆောင်ယူခဲ့၍ လူ့ပြည်သို့သက်ဆင်းကာ ဂေါတမမြတ်စွာဘုရားရှင်၏သရီရဓာတ်တော် ပူဇော်နေရာဌာနသို့ လာရောက်၍ ပူဇော်နေခဲ့၏။ ထိုနေရာသို့ရောက်နေသော လူထုပရိသတ်က နတ်သမီး၏အဆင်းသဏ္ဌာန်နှင့် ကြီးမားလှသော သစ်ခွပန်းတို့ကို မြင်ကြသောအခါ 'သင် ဘယ်အရပ်က လာပါသလဲ၊ ဒီပန်းပွင့်ကြီးကို ဘယ်အရပ်က ရခဲ့ပါသလဲ' မေးမြန်းကြလေသည်။

ထိုအခါ သစ်ခွပန်းရှင်နတ်သမီးက မိမိသည် လွန်ခဲ့သောဘဝက ဂေါတမမြတ်စွာဘုရား၏ သရီရဓာတ်တော်တို့ကို သစ်ခွပန်းကလေးသုံးပွင့်ဖြင့် ပူဇော်ခဲ့သောကုသိုလ်၏အစွမ်းကြောင့် ယခုဘဝတွင် ဤသို့သော စည်းစိမ်ကို ရခဲ့ကြောင်း ပြောပြလေ၏။ ထို့ပြင် နားထောင်နေကြသော သူတော်ကောင်းတို့အား တရားရစိမ့်သောငှာ–

'အို လူများအပေါင်းတို့...၊ ငါ၏ကိုယ်ကိုရှုကြပါလော့။ သတ္တဝါတို့မည်သည် မြွေကဲ့သို့ အရေဟောင်းကိုပစ် အရေသစ်ကို ယူထားပေ၏။ သတ္တဝါတို့မည်သည် မောဟတည်းဟူသော ကွန်ယက်ကဖုံးအုပ်ထားသောကြောင့် မနေ့ကသေ၍ ပုပ်တတ်သော ဤကိုယ်အကောင်ကို ပယ်စွန့်ပြီး ယခု နတ်တို့၏ကိုယ်ခန္ဓာကဲ့သို့ ဖြစ်ရခြင်းကို မသိနိုင်ကြကုန်။

'ပိုးလောက်တို့နှင့်ရောပြွမ်းကာ ယင်အပေါင်းတို့ဝန်းရံလျက် ကျီးကန်း,ငှက်ခွေးစသောသတ္တဝါတို့၏အစာ၊ ပိုးမျိုးရှစ်ဆယ်တို့၏နေရာလည်းဖြစ်သော ဤကိုယ်ကောင်ပုပ်ကို ယခင်အခါက ယောကျ်ားတို့သည် အကြောင်းများစွာဖြင့် တောင့်တောင့်တတကြည့်ရှုခဲ့ကြကုန်၏။ သေလွန်

သည့်အခါ ကြည့်ရှုမည့်သူ မရှိတော့ပါတကား။ တဏှာ၏မသိတတ်ပုံကား အလွန်ဆန်းကြယ်လေစွတကား။

'ငါသည် လောကကို ထွန်းလင်းတောက်ပစေတတ်သော အညစ်အကြေးကင်းသော အခြံအရံအကျော်အစောရှိတော်မူသော မြတ်စွာဘုရား၏ သရီရဓာတ်တော်ကို ယမန်နေ့က ကောင်းစွာပူဇော်ခဲ့ပြီး ယနေ့နတ်ပြည်၌ တည်ခဲ့ရလေပြီ။

'ငါ၏အကောင်ပုပ်ကို မနေ့ကစွန့်ခဲ့၍ ယနေ့ ငါသည် နတ်၏ အတ္တဘောကိုယ်ကိုရခဲ့၏။ တင့်တယ်ခြင်းတို့ဖြင့် ပြည့်စုံနေသော ငါ့ကို ကြည့်ရှုနိုင်ပေသည်။ ငါ၏စကားကို ကောင်းစွာနာယူတော်မူကြပါ။ ကုသိုလ်မပြုသောသူအား ကောင်းကျိုးချမ်းသာ မြူမျှမရှိနိုင်။ အကြင်သူသည် သာသနာတော်၌ ရေစက်ရေပေါက်ကလေးမျှ ကောင်းမှုမျိုးစေ့ကို စိုက်ပျိုးပါက နိဗ္ဗာန်ရောက်သည့်တိုင်အောင် မဆုံးနိုင်သော အကျိုးများစွာကို ရရှိမည်ဖြစ်သည်'ဟူ၍ ပြောကြားခဲ့သည်။

ဤသို့လျှင် သစ်ခွပန်းအလှူရှင်နတ်သမီးက မိမိရရှိသောစည်းစိမ်ကို သက်သေပြ၍ လူအပေါင်းတို့ကို ဆုံးမ၍ နတ်၌ဖြစ်သောသစ်ခွပန်းတို့ဖြင့် မြတ်စွာဘုရားရှင်၏ ဓာတ်တော်ကို ပူဇော်ပြီး မိမိ၏အရပ်ဌာန နတ်ရွာသို့ ပြန်သွားလေတော့သည်။

ဤသစ်ခွပန်းသုံးပွင့်ကိုလှူ၍ နတ်ဖြစ်ရသော သူဆင်းရဲမ၏ဝတ္ထုကို အကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'သင်သူတော်ကောင်းတို့သည်လည်း နတ်စည်းစိမ်ချမ်းသာကို နှစ်သက်သည်ဆိုပါက ကောင်းမှုကိုပြုကြပါလော့'ဟု တိုက်တွန်းခဲ့ပေသည်။



# ဆင်းရဲသော်လည်းမလှူဘဲမနေနိုင်သူ

[၃၆။ မောရိယဗြာဟ္မဏဝတ္ထု]

ဂေါတမမြတ်စွာဘုရားရှင် ပရိနိဗ္ဗာန်ပြုပြီးသောအခါက ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ မဂဓတိုင်းအတွင်း မစလအမည်ရှိသောရွာကြီးတစ်ရွာတွင် မောရိယအမည်ရှိသော ပုဏ္ဏားတစ်ဦးနေထိုင် လျက်ရှိပြီး၊ ထိုမောရိယပုဏ္ဏားသည် ရတနာသုံးပါး၌ ယုံကြည်လေးမြတ်သော သဒ္ဓါတရားရှိ၏။ ထိုမောရိယပုဏ္ဏား၏ဇနီးဖြစ်သူ သေနာပုဏ္ဏေးမသည်လည်း လင်ယောကျ်ားနည်းတူ သဒ္ဓါတရားနှင့်ပြည့်စုံပြီး ရတနာသုံးပါး၌ ကြည်ညိုတတ်သူဖြစ်လေသည်။

ထိုသူတော်ကောင်းပုဏ္ဏားလင်မယားသည် သဒ္ဓါသီလတို့၌ စိတ်တူကိုယ်မျှရှိကြ၍ ရဟန်းသံဃာတော်တို့အား ပင့်ဖိတ်ပြီး ဆွမ်းကပ်လှူခြင်း၊ သင်္ကန်းစသော ပစ္စည်းလေးပါးတို့ကိုလှူဒါန်းခြင်း၊ ဥပုသ်သီလစောင့်ထိန်းခြင်းတို့ဖြင့် အချိန်ကာလကို ကုန်လွန်စေပါသည်။ ဤသို့ မောရိယပုဏ္ဏားလင်မယားသည် နေ့စဉ်သာသနာတော်၌ လှူဒါန်းထောက်ပံ့နေမှုကြောင့် ဥစ္စာစီးပွားတို့သည် လျော့နည်း ကုန်ခန်းခြင်းသို့ ရောက်ရှိခဲ့လေသည်။

ထိုအခါ မောရိယပုဏ္ဏားကြီး၏မယား သေနာပုဏ္ဏေးမက အလှူဒါန၌ မရောင့်ရဲနိုင်သောစိတ်ဖြင့် လင်ဖြစ်သူမောရိယပုဏ္ဏားကို 'ပုဏ္ဏားကြီး၊ ကျွန်မတို့အိမ်မှာရှိတဲ့ ဥစ္စာဓနတွေတော့ ကုန်တော့မယ်၊ ရှေ့ဆက်ပြီး ဘယ်လိုနည်းနဲ့လှူမယ်လို့ ကြံစည်ထားသတုံး'ဟုမေးလေရာ မောရိယပုဏ္ဏားက 'ရှင်မ ဘာမှပူမနေပါနဲ့။ တို့ ခုလိုပဲ ဆက်ပြီး လှူဒါန်းသွားနိုင်မယ့်

နည်းလမ်းရှိပါတယ်။ ငါကြံပါ့မယ်'ဟု ဝမ်းမြောက်ဝမ်းသာပြန်၍ပြော လေသည်။ ပုဏ္ဏားကြီးက 'ယခုဘဝ၌ ဥစ္စာရတနာရွှေငွေတို့ပြည့်စုံခြင်း သည် ရှေးရှေးဘဝကပြုခဲ့သော ဒါန၏အကျိုးဆက်ဖြစ်၏။ ဤသို့လျှင် အလှူဒါန၏အကျိုးကို သိထားသောသူသည် သီလရှိသောပုဂ္ဂိုလ်တို့ကို နေ့တိုင်းနေ့တိုင်း နည်းနည်းကလေးတော့ဖြင့်ဖြစ်စေ လှူနေမည်သာဖြစ်၏။ လောကမှာ အလှူဒါနသည် နတ်ပြည်တက်ရာ စောင်းတန်းလှေကားဖြစ်ပေ ၏။ ကျိုးကြောင်းမျှော်သိ ပညာရှိသောပုဂ္ဂိုလ်တို့သည် မည်သည့်အကြောင်း ကိစ္စပေါ်နေစေကာမူ မလှူဘဲမနေ လှူမြဲလှူနေဦးမည်သာဖြစ်ပေသည်'ဟု ပြောလေသည်။

ထိုသို့ အလှူဒါနနှင့်စပ်သောစကားများကို ပြောဆိုကြပြီးလျှင် မောရိယပုဏ္ဏားကြီးက 'ရှင်မ၊ ငါ တောထဲသွားပြီး သစ်သီးသစ်ရွက် တွေ ခူးချည်ခုတ်ချည်ပါ့မယ်၊ အဲဒါတွေရောင်းချပြီး ရလာတဲ့ဥစ္စာကို လှူကြတာပေါ့၊ ဘယ်လောက်ပဲ ဆင်းရဲနေပါစေ၊ ပြုနေကျအလှူဝတ် တွေကိုတော့ မဖြတ်ချင်ပါနဲ့'ဟုဆိုပြီး တောတွင်းသို့ဝင်ကာ သစ်သီး သစ်ရွက်တို့ကို ခူးယူပြီးလျှင် ဈေးသို့သွားရောက်ရောင်းချ ရလာသော အသပြာတို့ဖြင့် အလှူပေးမြဲပေးခဲ့ကြသည်။

တစ်နေ့သော် မောရိယပုဏ္ဏားသည် တောကြီးအတွင်းသို့ဝင်၍ သစ်သီးသစ်ရွက်တို့ကို ခြင်းတောင်းတစ်လုံးနှင့်အပြည့်ခူးယူခဲ့ပြီး ခေါင်း ထက်ရွက်ကာ အိမ်သို့ပြန်လာခဲ့၏။ တောလမ်းခရီးတွင် ကြည်လင်အေးမြ စီးဆင်းနေသော စမ်းချောင်းကလေးတစ်ခုကိုတွေ့မြင်ရလေရာ ပုဏ္ဏားကြီး လည်း သစ်သီးခူးခဲ့ရသဖြင့် မောပန်းလှသောကြောင့် ထိုစမ်းချောင်းကလေး အတွင်း ရေဆင်းချိုးရလျှင် လန်းဆန်းသွားလိမ့်မည်ဟု မိမိရွက်လာသော သစ်သီးတောင်းကို တောင်ကမ်းပါးယံတစ်နေရာ၌ ချိတ်ဆွဲထားပြီး စမ်းချောင်းအတွင်းသို့ ရေဆင်းချိုးခဲ့၏။

ထိုခဏမှာပင် စမ်းချောင်းအနီးရှိ သစ်ပင်ဟာစ်ပင်၌ စောင့်ရှောက်နေ

သော ရက္ခစိုးနတ်သည် ရေချိုးနေသည့် ပုဏ္ဏားကြီးကိုမြင်လျှင် ထိုပုဏ္ဏား၏ အကြောင်းဖြစ်စဉ်ကို ဒိဗ္ဗစက္ခုနတ်မျက်စိဖြင့် ရှုကြည့်ဆင်ခြင်ခဲ့သည်။ 'ဤပုဏ္ဏားကား ကောင်းသောအလိုအဇ္ဈာသယရှိသော သူတော်ကောင်းကြီးပါတကား၊ ဤမျှ ဆင်းရဲမွဲတေကာ ဥစ္စာလက်မဲ့အဖြစ်သို့ ရောက်နေသည့်တိုင်အောင် တောအတွင်းသို့ အဆင်းရဲခံ ဝင်ရောက်၍ သစ်သီးသစ်ရွက်ကိုရှာယူ ရောင်းချပြီး ရသမျှငွေကလေးဖြင့် အလှူဝတ်ကို ဆက်နေသော သူတော်ကောင်းကြီးပါတကား'ဟု သိမြင်ခဲ့၏။

ရက္ခစိုးနတ်သည် တောင်ကမ်းပါးယံ၌ ချိတ်ဆွဲထားသော ပုဏ္ဏားကြီး၏ သစ်သီးခြင်းကိုကြည့်ပြီး 'ဤသစ်သီးခြင်းတောင်းအတွင်းရှိ သစ်သီးသစ်ရွက်တို့သည် ရွှေသားပကတိ ဖြစ်စေသတည်း'ဟု အဓိဋ္ဌာန်လိုက်ရာ ထိုသစ်သီးခြင်းတစ်တောင်းလုံး ရွှေချည်းသက်သက်ဖြစ်ကုန်၏။ ရွှေသစ်သီး, ရွှေသစ်ရွက်စသည်ဖြင့်ဖြစ်ကုန်၏။ ရက္ခစိုးနတ်သည် ထိုခြင်းတောင်းအတွင်း၌ ပတ္တမြားလုံးကြီးများကိုလည်း ထည့်ထားခဲ့၏။ ပုဏ္ဏားကြီး ရေချိုးပြီး၍ စမ်းချောင်းမှပြန်တက်လာကာ မိမိ၏သစ်သီးခြင်းချိတ်ဆွဲရာသို့ ရောက်လျှင် ရွှေရောင်ပြိုးပြိုးပြက်ပြက်ဝင်းလက်တောက်ပနေသော သစ်သီးခြင်းကို တွေ့လိုက်ရ၏။ ထိုအခါ သစ်သီးခြင်းတောင်းနားသို့ မကပ်ဝံ့ဘဲ ခပ်လှမ်းလှမ်းမှ ကြည့်နေ၏။ မည်သူ့ပစ္စည်းပါလိမ့်ဟု တွေဝေနေသော ပုဏ္ဏားကြီး၏ မဝံ့မရဲခပ်တွန့်တွန့်ရွံ့ရွံ့အမူအရာကိုတွေ့ရသော ရက္ခစိုးနတ်က မိမိ၏အသွင်ကို ကိုယ်ထင်ပြပြီး 'ပုဏ္ဏားကြီး၊ ဘာမှစိုးရိမ်ပြီး ကြောက်မနေပါနဲ့။ ငါဖန်တီးထားတဲ့ ရွှေတွေပါ။ သင် စိတ်ချလက်ချယူ သာသွားပါ'ဟု တိုက်တွန်းစကားပြောကြားပြီး ပုဏ္ဏားကြီးလက်သို့ ပေးအပ်လိုက်၏။

ထိုအခါ ပုဏ္ဏားကြီးက ရက္ခစိုးနတ်ကို မိမိအားဤသို့ ဥစ္စာပစ္စည်း ပေးအပ်သောအကြောင်းကို သိလိုသဖြင့် 'အသင်ရက္ခစိုး၊ သင်နဲ့ငါသည် ဆွေမျိုးလဲ မဟုတ်၊ ကျေးဇူးရှိသူချင်းလဲ မဟုတ်၊ဘာမျှဆက်စပ်မှုမရှိပါဘဲ

လျက် ဘယ်လိုအကျိုးကိုမြင်လို့ ဒီဥစ္စာရတနာတွေကို ပေးရတာပါလဲ။ သင် ရက္ခစိုးရဲ့ အစွမ်းကိုပြချင်လို့ ဒီရွှေတွေကို ပေးတာလား၊ ဒါမှမဟုတ် ငါ့ရဲ့အကျင့်သီလကုသိုလ်ကို အကြောင်းပြု၍ ပေးတာလား၊ အကယ်၍ ရှေးအတိတ်ကုသိုလ်ကံကြောင့်ဆိုလျှင်လဲ ထိုအတိတ်ဘဝကအကြောင်းကို သိပါရစေ'ဟု မေးမြန်းခဲ့လေသည်။ ထိုအခါ ရက္ခစိုးနတ်မင်းက အောက်ပါအတိုင်း ပြောကြားလေသည်။

'သင်သည် ကဿပမြတ်စွာဘုရားသာသနာတော်တည်စဉ်အခါက ရွာကလေးတစ်ရွာတွင် အလှူဒါနဥ္စမွေ့လျော်သောအမျိုးသားတစ်ဦးဖြစ်ခဲ့၏။ တစ်ချိန်တွင် ခရီးသွားနေဆဲရဟန်းတော်တစ်ပါးထံမှ သပိတ်သင်္ကန်းကို သူခိုးဓားပြတို့က လုယက်ခဲ့ကြ၏။ ထိုရဟန်းတော်သည် ဝတ်ရုံစရာသင်္ကန်းမရှိသည့်အတွက် သစ်ရွက်သစ်ခက်များကို အရှက်လုံအောင်ဖုံးကွယ်ပြီး အနီးဆုံးရွာတစ်ရွာသို့ကြွသွားကာ ဝတ်ရုံစရာ သင်္ကန်းကို အလှူခံတော်မူခဲ့ရပါသည်။ ထိုခရီးသွားရဟန်းတော်ဝတ်ရုံစရာ သင်္ကန်းမရှိဘဲ ဒုက္ခတွေ့နေစဉ် သင်ကလည်း ခရီးလှည့်လည်သွားလာရင်း ထိုနေရာသို့ရောက်ရှိလာပြီး ထိုရဟန်းတော်ကို ပုဆိုးတစ်စုံပေးလှူခဲ့၏။ ထို့ပြင် တစ်နပ်စာဆွမ်းကိုလည်း ပေးလှူခဲ့၏။ ဤကောင်းမှုတို့၏အကျိုးကြောင့် သင့်ကို ရွှေငွေပတ္တမြားများကို ပေးခြင်းဖြစ်သည်'ဟု ပြောဆိုခဲ့၏။

ထိုသို့ပြောကြားပြီးနောက် ရက္ခစိုးနတ်က ပုဏ္ဏားကြီးကို 'ဒီဥစ္စာရတနာများကို စိတ်ချလက်ချယူဆောင်၍သွားပါ၊ သင်အလိုရှိတဲ့အတိုင်းလှူတန်းသုံးစွဲပါ။ ဒီခြင်းမှာပါတဲ့ ပတ္တမြားကြီးတစ်လုံးဟာ အလိုရှိရာကိုတောင့်တရင် ဖြည့်စွမ်းပေးနိုင်တဲ့ လိုတရပတ္တမြားကြီးဖြစ်ပါတယ်။ ဒီပတ္တမြားကြီးကို အရင်းတည်ပြီး သင့်ရဲ့ဒါနဝတ်ကိုမပျက်အောင် ဆက်လက်ဆောက်တည်သွားပါလေ၊ သားမယားတို့ကိုလဲ လုပ်ကျွေးပါလေ'ဟုပြောဆိုမှာကြားလိုက်၏။

မောရိယပုဏ္ဏားကြီးလည်း ရက္ခစိုးနတ်မင်းပြောဆိုသည့်အတိုင်း

ထိုငွေရတနာတို့ဖြင့် ရတနာသုံးပါးကို မပြတ်ပြုစုလုပ်ကျွေး သီလဆောက်တည်လျက် ထိုဘဝမှသေလွန်သော် နတ်ပြည်၌ဖြစ်ခဲ့ရလေသည်။

ဤမောရိယပုဏ္ဏားဏ်ဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'သူတော်ကောင်းတို့သည် ဥစ္စာစီးပွားဆုတ်ယုတ်သော်လည်း ဒါနကိုမစွန့်။ ထို့ကြောင့် သင်သူတော်ကောင်းတို့သည် ဒါန၌ မမေ့မလျော့ကြပါနှင့်'ဟု တိုက်တွန်းမိန့်ကြားခဲ့လေသည်။



# သားကိုသတ်၍အလှူပေးမည့်မိဘ

[၃၇။ ပုတ္တဝတ္ထု]

တစ်ချိန်သောအခါက သီရိလင်္ကာကျွန်းတွင် သီတင်းသုံးနေတော်မူသော ရဟန်းတော်အပါးခြောက်ဆယ်တို့သည် မြတ်စွာဘုရားပွင့်တော်မူရာ မဟာဗောဓိပင်ကို ဖူးမြင်လိုကြသောကြောင့် သီရိလင်္ကာကျွန်း မဟာတိတ္ထလှေဆိပ်မှနေ၍ ဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ တာမလိတ္တပတ္တနဆိပ်သို့ လှေသင်္ဘောဖြင့် ကြွတော်မူခဲ့ကြသည်။ ထိုအရှင်မြတ်တို့သည် တာမလိတ္တပတ္တနဆိပ်ကမ်းမြို့မှတစ်ဖန် ပါဋလိပုတ်မြို့တော်သို့ ကြွတော်မူခဲ့ကြပြန်၏။ ပါဋလိပုတ်မြို့သို့ရောက်သော် ဆွမ်းအလို့ငှာ မြို့တွင်း၌ လှည့်လည်တော်မူခဲ့ကြ၏။

ဤသို့ ပါဋလိပုတ်မြို့အတွင်း ဆွမ်းခံလှည့်လည်တော်မူကြစဉ် ပါဋလိပုတ်မြို့သား သူဆင်းရဲတစ်ဦးသည် ထိုအရှင်တို့ကိုဖူးမြင်ရ၍ လွန်စွာကြည်ညိုခြင်းဖြစ်ခဲ့လေသည်။ ထိုသူဆင်းရဲသည် ဘုရားသားတော်ရှင်ရဟန်းတို့မည်သည် ဖူးမြင်ရခဲ၏။ ဖူးမြင်ရသည့်အခါ တစ်စုံတစ်ခုကိုလှူမှသင့်မည်ဟု ကြံစည်ခဲ့၏။ ထိုသို့ကြံပြီးနောက် မိမိ၏မယားကို 'ရှင်မ...၊ ငါလမ်းမှာ ရဟန်းတော်တွေကို ဖူးမြင်ခဲ့ရတယ်၊ ဒီအရှင်မြတ်တွေကို တစ်ခုခုလှူချင်လိုက်တာ၊ ငါတို့မှာလဲ ရှေးက ကောင်းမှုကံနည်းခဲ့ကြလို့ ဒီဘဝမှာ ဆင်းရဲလိုက်တာ လွန်ပါရော၊ နောက်ဘဝတွေမှာ ဒီလိုဆင်းရဲချို့တဲ့မှုဘေးကလွတ်ရအောင် လယ်ယာမြေကောင်းနဲ့တူတဲ့ သံဃာတော်

အရှင်မြတ်တွေကို လှူဒါန်းပြီး ဒါနမျိုးစေ့ကို စိုက်ပျိုးကြရအောင်၊ ဒီလိုမှ မဟုတ်ရင်တော့ နောင်ဘဝတွေမှာလဲ ခုလိုပဲ ဆင်းရဲတာရှည်နေပါဦးမယ်။ ဒီတော့ တို့မှာ လှူစရာဘာများရှိပါလိမ့်'ဟု ပြောဆိုတိုင်ပင်၏။ သူဆင်းရဲမကလည်း 'ကျုပ်တို့အိမ်မယ် လှူစရာဆိုလို့ ဘာပစ္စည်းမှမရှိပါဘူး။ တစ်ခုတော့ရှိတယ်။ အဲဒါက ကျုပ်တို့ရဲ့သားကလေးပဲ။ ကျုပ်တို့ ဒီသားကလေးကို သတ်ပြီးလှူရမှာပဲ'ဟု ကြောက်ဖွယ်လန့်ရာစကားကို ပြောဆိုလိုက်၏။

ထိုစကားကိုကြားသောဆင်းရဲသားက 'ဟာ ဒီမိန်းမ ဘာတွေပြောနေတာလဲ၊ သားကိုသတ်လှူလို့ ဘယ်သူက အလှူခံမှာလဲဟ၊ မတော်တရော်တွေပြောနေတယ်'ဟု အပြစ်တင်စကား ပြောကြား၏။ ဆင်းရဲသူမက 'အို ရှင်ကလဲ ဘာတွေတွေးနေတာလဲ၊ သားကိုသတ်ပြီး အသားကိုလှူဖို့ ပြောတာမဟုတ်ဘူး၊ သားကိုသတ်လိုက်လို့ သားကလေးသေပြီဆိုပါတော့၊ အဲဒီအခါမှာ ဒီအနီးအနားကလူတွေက အသုဘသတင်း လာမေးကြမှာပေါ့၊ ကူသင့်တာ ကူကြမှာပေါ့၊ အဲဒီက လာကူတဲ့ပစ္စည်းတွေနဲ့ လှူရင် ဖြစ်နိုင်တာကိုပြောတာပါ'ဟု ရှင်းပြလေသည်။ ထိုအခါ လင်ဖြစ်သူက 'ဒီလိုဆိုလဲ ဟုတ်တာပဲ။ ကဲ မင်းပေးတဲ့အကြံ မင်းပဲအကောင်အထည်ဖော်ပေတော့။ သားကို မင်းပဲသတ်'ဟုစေခိုင်းခဲ့၏။ မိခင်ဖြစ်သူက နှုတ်ကလွယ်လွယ်ပြောထွက်ခဲ့သော်လည်း လက်တွေ့တွင် သားကလေးကို ဘယ်မှာသတ်ရက်ပါမည်နည်း။ မိခင်ဖြစ်သူက စဉ်းစားသည်မှာ 'အမေ...အမေ'ဟု ချစ်စဖွယ်ခေါ်နေသော ညိုတိုတိုမျက်လုံးကလေးနှင့် မျက်လုံးမျက်ခုံးကောင်းလှသော ထိုသားကလေးကို မိခင်သည် ဘယ်မှာသတ်ရက်ပါအံ့နည်း။ မိမိကရိုက်လျှင်ပင် 'အမေ...အမေ'ဟုငိုကြွေးပြီး မိမိကိုယ်ပေါ်သို့ ပြန်၍ ဖက်တွယ်တက်လာတတ်သော မိမိကိုအလွန်အားကိုးရှာသော ထိုသားကလေးကို ဘယ်ပုံဘယ်နည်းနှင့်မှ သတ်ရက်နိုင်လိမ့်မည်မဟုတ်ပါ၊ စဉ်းစားလိုက်ရုံမျှနှင့်ပင် မိမိ၏နှလုံးသားသည် တဆွေ့ဆွေ့ခုန် တုန်လှုပ်လှုပါတော့သည်။

သို့ဖြစ်၍ မိခင်ဖြစ်သူက ဖခင်ဖြစ်သူကို 'ကျွန်မတော့ သားကိုမသတ်ရက်နိုင်ဘူး၊ ရှင်ပဲသတ်ပါ၊ ရှင်က လူချင်နေတဲ့သူပဲ'ဟုဆိုပြန်လေ၏။ ထိုအခါ ဖခင်ဖြစ်သူကလည်း ဤသို့စဉ်းစားမိပြန်၏။ သားဆိုသည်မှာ မိဘ၏အမွေခံပင်။ 'သား...သား'ဟုခေါ်အပ်သော ထိုသားသည် ဖခင်မိခင်တို့၏ သုခအမွေခံ,ဒုက္ခအမွေခံဖြစ်၏။ ငါလည်း သူ့မိခင်နှယ် သာယာချိုကြည်သောစကားကို ပြောတတ်သည့် ဤသားကလေးကို သတ်ဖို့ရာမှာ ဖြစ်နိုင်လိမ့်မည်မဟုတ်။ သားကိုသတ်သူသည် အရှိန်အစော်ကင်းမဲ့ခြင်း၊ မကောင်းသတင်းကျော်စောခြင်းဟူသော လက်ငင်းအပြစ်ဖြစ်နိုင်၏။ စင်စစ်ပါဏာတိပါတကံကြီးထိုက်နေပေ၏။ သို့ဖြစ်၍ ဖခင်ဖြစ်သူက မိခင်ဖြစ်သူကိုပင်'ကဲပါကွာ...၊ မင်းပဲ ကြည့်ရှုပြီး သတ်လိုက်ပါ'ဟု ဆိုပြန်လေသည်။

ဤသို့ဖြင့် အဖက အမိကို 'မင်း သတ်လိုက်'၊ အမိက အဖကိုတစ်ဖန်ပြန်၍ 'တော် သတ်လိုက်'ဟု အပြန်ပြန်အလှန်လှန်တာဝန်ပေးနေခြင်းဖြင့် ကာလအတန်ကုန်သွားလေသည်။ နောက်ဆုံးတွင် ဖခင်ဖြစ်သူက 'ကဲ မင်းလဲမသတ်ရက်၊ ငါလဲမသတ်နိုင်၊ ကိစ္စကမပြီးစီးဘူး။ ဒီတော့ သူ့အလိုလိုသေအောင်ကြံဦးမှပဲ။ ငါတို့အိမ်နောက်ဖေးမှာ တောင်ပို့ကြီးတစ်ခုရှိလေရဲ့။ အဲဒီတောင်ပို့နားက တွင်းကြီးတစ်တွင်းထဲမှာ မြွေနဂါးကြီးတစ်ကောင်နေလေရဲ့။ ဒီကလေးကို အဲဒီတောင်ပို့နားမှာ သွားကစားပါစေ၊ မြွေနဂါးကတွေ့လို့ ပေါက်သတ်လိုက်ရင် တို့ကိစ္စအောင်ပြီ'ဟုကြံစည်ပြောဆိုပြန်၏။ ထိုအကြံအစည်အတိုင်း သားငယ်ကိုခေါ်၍ ပန်းနံ့သာ လိမ်းကျံတန်ဆာဆင်ယင်ပေးပြီး ဘောလုံးကလေးတစ်လုံးဖြင့် တောင်ပို့အနား၌ကစားနေစေ၏။

ကလေးငယ်သည် တောင်ပို့နား၌ကစားရင်း မိဘတို့မျှော်မှန်းသလိုပင် တောင်ပို့ဘေးကတွင်းထဲသို့ ဘောလုံးကျသွားလေသည်။ ထိုအခါ ကလေးငယ်သည် ဘောလုံးကိုကောက်ရန်ဟု မြွေနဂါးရှိသောတွင်းကြီး

အတွင်းသို့ လက်ကိုသွင်းပြီး ဘောလုံးကိုစမ်းလေသည်။ နဂါးမင်းလည်း သူ၏တွင်းထဲ နိုက်လာသောလက်ကိုမြင်လျှင် ဒေါသအမျက် ပြင်းစွာ ထွက်ပြီး 'ရှူး...ရှူး'ဟုအသံပေးကာ ပါးပျဉ်းကြီးထောင်လျက် ကလေး၏ လက်ကိုကြည့်နေ၏။ ကလေးငယ်သည် တွင်းထဲ၌ ဟိုစမ်းသည်စမ်း လျှောက်စမ်းရင်း နဂါး၏လည်ကိုစမ်းမိကာ ဘောလုံးထင်ပြီး မလွှတ်တမ်း ခပ်တင်းတင်းဆုပ်ကိုင်ထားလိုက်၏။ နဂါးသည် တွင်းထဲ၌ မလှုပ်နိုင် မယှက်နိုင်ဖြစ်သွား၏။

ကလေး၏မိဘတို့သည် တစ်နေရာမှနေ၍ ထိုအဖြစ်အပျက်တို့ကို ချောင်းကြည့်နေကြသည်။ ကလေးငယ်သည် နဂါးမင်း၏လည်ကို ချုပ်ကိုင် ထားစဉ် နဂါးမင်းသည် မိမိ၏အသက်ကို အသေမခံနိုင်သည့်အဆုံး ကလေး၏လက်ထဲသို့ လိုတရရှစ်မြှောင့်သဏ္ဌာန် ပတ္တမြားရတနာကြီးကို လည်ချောင်းတွင်းမှ အန်၍ချပေးလိုက်၏။ ကလေးငယ်၏မိဘများသည် တွင်းပေါက်ဝသို့ ကျလာသော လိုတရပတ္တမြားရတနာကြီးကိုမြင်လျှင် အပြေးလာကြပြီး ကလေးငယ်ကိုရော ပတ္တမြားရတနာကိုပါယူဆောင်၍ ဘေးလွတ်ရာသို့ ပြေးကြလေသည်။

ထို့နောက် ကလေး၏မိဘနှစ်ဦးသည် ထိုပတ္တမြားအကြောင်းကို ကြားဖူးကြသည့်အတိုင်း ရေနှင့်စင်ကြယ်စွာဆေးကြောပြီး မြတ်သော နေရာ၌ထားကာ မိမိတို့အလိုရှိရာကို တောင်းဆိုကြသည်။ တောင့်တသော ပစ္စည်းကိုလည်း ရရှိခဲ့ကြသည်။ ထိုအခါမှစ၍ ကလေး၏မိဘတို့သည် မိမိတို့၏ နဂိုရည်ရွယ်ရင်းရှိသည့်အတိုင်း အိမ်တံခါးဝ၌ မဏ္ဍပ်ကြီး တစ်ဆောင် ကြီးကျယ်ခမ်းနားစွာ ဆောက်လုပ်၍ သီရိလင်္ကာကျွန်းမှ ကြွလာတော်မူကြသော ရဟန်းအပါးခြောက်ဆယ်ကို ပင့်ဖိတ်၍ အလှူကြီး ပေးလေ၏။

ထိုအခါမှစ၍ ပတ္တမြား၏အာနုဘော်ကိုသိရှိကြလေရာ ထိုလင် မယားနှစ်ဦးက မိမိတို့အိမ်သို့ လူအများကို ဖိတ်ခေါ်ကျွေးမွေးပြီး ပတ္တမြား ကြီးရရှိလာပုံကို ရှင်းပြကြ၏။ ထို့နောက် လိုတရပတ္တမြားကြီး၏အစွမ်း

ဖြင့်ပင် အသက်ထက်ဆုံးအလှူကိုပေး၍ သီလကိုစောင့်ရှောက်ကာ အသက်ဆုံးလျှင် နတ်ပြည်သို့ရောက်ကြလေသည်။

ထိုသူဆင်းရဲလင်မယားဝတ္ထုကို အကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'မိမိ၏ရင်၌ဖြစ်သော သားကိုပင် သတ်၍ ဒါနကုသိုလ်ပြုလိုသော မိဘမျိုးပင် ရှိသေး၏။ ဒါန၏အကျိုးကို သိသူသည် ထိုဒါနကုသိုလ်ကိုမပြုဘဲ နေလိမ့်မည်မဟုတ်၊ ပေးလှူမည်သာဖြစ်သတည်း' ဟု ရေးသားခဲ့ကြ၏။



## သီရိမဗွာသောကမင်းကြီးဝတ္ထု

[၃၈။ တေဘာတိကမဓုဝါဏိဇဝတ္ထု]

ရှေးလွန်လေပြီးသောအခါက ဗာရာဏသီပြည်တွင် ပျားရည်ရောင်း၍ အသက်မွေးနေသော ညီနောင်သုံးဦးတို့ အတူတကွနေထိုင်ခဲ့ကြ၏။ ထို ညီနောင်သုံးဦးတို့တွင် တစ်ဦးက မလယအမည်ရှိသော ရွာစွန်ရွာဖျား ပစ္စန္တ ရစ် အရပ်သို့သွား၍ ပျားရည်တို့ကို စုဆောင်းဝယ်ယူရ၏။ တစ်ဦးကမူထို စုဆောင်းရလာသော ပျားရည်တို့ကိုတစ်မြို့ပြီးတစ်မြို့ လှည့်လည်ကာရောင်းချ ရ၏။ တစ်ဦးမှာမူကား ဤဗာရာဏသီမြို့မှာပင် ပျားရည်တို့ကို ရောင်းချနေ လေသည်။

ထိုစဉ်အခါ ဂန္ဓမာဒနတောင်၌ သီတင်းသုံးနေတော်မူသော ပစ္စေက ဗုဒ္ဓါအရှင်မြတ်တစ်ပါးသည် အနာပေါက်တော်မူ၍ သီတင်းသုံးဖော် ပစ္စေကဗုဒ္ဓါအရှင်မြတ်တစ်ပါးက ထိုအိုင်းအနာသည် ပျားရည်ဖြင့် သက်သာစေနိုင်ကြောင်း သိတော်မူသဖြင့် ပျားရည်ကို ရှာဖွေရန် ဂန္ဓမာဒန တောင်မှ ကောင်းကင်ခရီးဖြင့်ကြွလာပြီး ဗာရာဏသီမြို့တံခါး၌ ဆင်းသက် တော်မူခဲ့၏။ ထိုအခါဗာရာဏသီမြို့ရှိ သူဌေးတစ်ဦး အိမ်မှအိမ်စေ အမျိုး သမီးကလေးတစ်ဦးသည်လည်း ရေအိုးကိုရွက်ပြီး ရေခပ်ရန်အလာ မြို့ တံခါးဝ၌ရပ်နေသော ပစ္စေကဗုဒ္ဓါအရှင်မြတ်ကိုဖူးမြင်လျှင် ရှိသေစွာရှိခိုး၏။ ပစ္စေကဗုဒ္ဓါအရှင်မြတ်က 'နှမ၊ ဒီအရပ်မှာ ပျားရည်ကို ရနိုင်ပါမည်လား' ဟုမေးတော်မူ၏။ သူဆင်းရဲမကလေးက ပျားရည်ကုန်သည် ညီနောင် သုံးဦး၏အိမ်ဘက်သို့ ညွှန်ပြပြီး 'ထိုအိမ်၌ ပျားရည်ရနိုင်ပါသည်ဘုရား' ဟု လျှောက်ထားခဲ့၏။

ပစ္စေကဗုဒ္ဓါအရှင်မြတ်သည် သူငယ်မ ညွှန်ပြသောအိမ်သို့ တန်းတန်းမတ်မတ်ကြွသွားတော်မူခဲ့၏။ ထိုသူငယ်မသည် မြို့တံခါးဝ၌ရပ်လျက်သာ ပစ္စေကဗုဒ္ဓါအရှင်မြတ်ကြွသွားသည်ကို ကြည့်နေ၏။ အကယ်၍ ထိုပျားရည်ကုန်သည်ညီနောင်အိမ်က အရှင်မြတ်ကို ပျားရည်မလှူခဲ့သော် မိမိပိုင်ကိုယ်ရံအဝတ်ကလေးကိုရောင်းချပြီး ပျားရည်ကိုဝယ်ယူ၍ ပစ္စေကဗုဒ္ဓါအရှင်မြတ်ကို ကပ်လှူလိုသောကြောင့် စောင့်ကြည့်နေခြင်းဖြစ်သည်။

ပစ္စေကဗုဒ္ဓါအရှင်မြတ်သည် ပျားရည်ကုန်သည်ညီနောင်သုံးဦး၏ အိမ်ရှေ့သို့ ရောက်တော်မူသောအခါ ပျားရည်ကုန်သည် ညီအငယ်ဆုံးက ပစ္စေကဗုဒ္ဓါအရှင်မြတ်ကို ဖူးမြင်ရပြီး သဒ္ဓါတရားဖြစ်ပေါ်လာကာ အရှင်မြတ်၏လက်မှသပိတ်ကိုယူ၍ ပျားရည်တစ်အိုးလုံးကို သပိတ်ထဲသို့ စောင်းငဲ့ပြီး လောင်းထည့်လေသည်။ ပျားရည်တို့ကို သပိတ်ပြည့်ရုံသာမက မြေကြီးသို့ ယိုစီးကျသွားသည်အထိ လောင်းထည့်ပြီး မိမိ၏အလှူကို နှစ်သက်ဝမ်းမြောက်လှသဖြင့်–

'အကျွန်ုပ်သည် ဤပျားရည်လှူရသော ကောင်းမှုကြောင့် ဇမ္ဗူဒိပ်၌ ဧကရာဇ်မင်းဖြစ်ရပါလို၏။ ကောင်းကင်၌ တစ်ယူဇနာ၊ မြေ၌တစ်ယူဇနာ အာဏာစက်ပျံ့နှံ့၍တည်သည် ဖြစ်ရပါလို၏'ဟုဆုတောင်းခဲ့၏။

ထိုသို့ဆုတောင်းပြီးနောက် ပျားရည်ထည့်ထားသောသပိတ်ကို ပစ္စေကဗုဒ္ဓါအရှင်မြတ်၏လက်သို့ ဆက်ကပ်ရာ ပစ္စေကဗုဒ္ဓါအရှင်မြတ်က သပိတ်ကိုယူ၍ အောက်ပါအတိုင်း ဆုပေးတော်မူလေသည်။

* ဣစ္ဆိတံ ပတ္ထိတံ တုယှံ၊ ခိပ္ပမေဝ သမိဇ္ဈတု။
   ပူရေန္တု စိတ္တသင်္ကပ္ပါ၊ စန္ဒောပန္နရသောယထာ။ ။

* ဣစ္ဆိတံ ပတ္ထိတံ တုယှံ၊ ခိပ္ပမေဝ သမိဇ္ဈတု။
   ပူရေန္တု စိတ္တသင်္ကပ္ပါ၊ မဏိဇောတိရသော ယထာ။ ။

တုယှံ=သင့်အား။ ဣစ္ဆိတံ=အလိုရှိတိုင်း။ ပတ္ထိတံ=တောင့်တတိုင်း။ ခိပ္ပမေဝ=လျင်စွာသာလျှင်။ သမိဇ္ဈတု=ပြည့်စုံပါစေသတည်း။ စိတ္တသင်္ကပ္ပါ=

ကောင်းသောစိတ်အကြံတို့သည်။ ပန္နရသော=တစ်ဆယ့်ငါးရက်မြောက်သောနေ့၌ဖြစ်သော။ စန္ဒောယထာ=လဝန်းကြီးကဲ့သို့။ ပူရေန္တု=ပြည့်စေကုန်သတည်း။

တုယှံ=သင့်အား။ ဣစ္ဆိတံ=အလိုရှိတိုင်း။ ပတ္ထိတံ=တောင့်တတိုင်း။ ခိပ္ပမေဝ=လျင်စွာသာလျှင်။သမိဇ္ဈတု=ပြည့်စုံပါစေသတည်း။ စိတ္တာသင်္ကပ္ပါ=ကောင်းသောစိတ်အကြံတို့သည်။ မဏိဇောတိရသောယထာ= ဇောတိရသ်ပတ္တမြားကြီးကဲ့သို့။ ပူရေန္တု=ပြည့်စေကုန်သတည်း။

ပစ္စေကဗုဒ္ဓါအရှင်မြတ်သည် ထိုသို့ဆုပေးပြီး မင်္ဂလာကိုပွားကာ ထိုအိမ်မှ ကြွသွားတော်မူခဲ့လေသည်။ မြို့တံခါးဝသို့ရောက်တော်မူလျှင် စောင့်နေသောသူဆင်းရဲမက လက်အုပ်ချီလျက် 'အရှင်ဘုရား၊ အရှင်ဘုရား အလိုရှိသော ပျားရည်ကိုရခဲ့ပါသလော'ဟု မေးလျှောက်၏။ ပစ္စေကဗုဒ္ဓါအရှင်မြတ်က 'နှမ ရအပ်၏'ဟုမိန့်ဆိုသည်ရှိသော် သူဆင်းရဲမက 'အရှင်ဘုရား၊ ထိုပျားကုန်သည်သည် ပျားရည်လှူရသော ဒါနအတွက် မည်သည့်ဆုကို တောင်းယူခဲ့ပါသနည်း'ဟုမေးလေ၏။ ထိုသူဆင်းရဲမသည် ပျားရည်ကုန်သည်တောင်းယူသောဆုကိုသိရလျှင် 'အရှင်ဘုရား၊ဤအရပ်၌ ခေတ္တမျှ စောင့်နေတော်မူပါ'ဟုဆိုပြီး ချက်ချင်းကဆုန်ချ အိမ်သို့ပြန်ကာ မိမိ၏ တစ်ထည်တည်းသောခြုံထည်ကို သန့်စင်အောင်ဖွပ်လျှော်ပြီး သပိတ်ခြေပြုလုပ်ရန် ပစ္စေကဗုဒ္ဓါအရှင်မြတ်အား လှူခဲ့၏။ လှူပြီးလျှင် 'အရှင်ဘုရား၊ ပျားရည်လှူ သောဒါယကာသည် ဤဇမ္ဗူဒိပ်မြေအပြင်ကို အုပ်ချုပ်မင်းလုပ်သော ဧကရာဇ်မင်းဖြစ်ပါက အကျွန်ုပ်သည် ထိုမင်း၏ချစ်ခင်မြတ်နိုးအပ်သော အဂ္ဂမဟေသီ မိဖုရားခေါင်ကြီးဖြစ်ရပါလို၏။ ထိုသို့ဖြစ်ရာတွင် အဆင်းလှပခြင်း၊ ချိုသာကောင်းမြတ်သောစကားကိုပြောဆိုရခြင်း၊ အခြွေအရံများပြားပြည့်စုံခြင်း၊ မိမိစိတ်ဆန္ဒ၌ဖြစ်ပေါ်လာသမျှ ပြည့်စုံခြင်းတို့သည်လည်းဖြစ်ရပါလို၏' ဟူသောဆုကိုတောင်းယူခဲ့လေသည်။ ထိုသူဆင်းရဲမအား ပစ္စေကဗုဒ္ဓါ အရှင်မြတ်က'သင်တောင့်တသည့်အတိုင်းပြည့်ပါစေ'ဟုဆုပေးပြီး မိမိနေရာ ဂန္ဓမာဒနတောင်သို့ ပြန်ကြွတော်မူခဲ့သည်။

ထိုသို့ ပစ္စေကဗုဒ္ဓါအရှင်မြတ်ကို ပျားရည်လှူပြီးနောက် ပျားရည်ကုန်သည် ညီနောင်သုံးဦးတို့ ပြန်လည်ဆုံစည်းမိကြသောအခါ ပျားရည်အိုးတစ်အိုး လျော့နေသည်ကို အစ်ကိုနှစ်ဦးကတွေ့ကြလျှင် ထိုပျားရည်အိုးကို ဘယ်သူဝယ်သွားသနည်းဟု ညီအငယ်ဆုံးကို မေးကြ၏။ ပျားရည်လှူလိုက်သူညီအငယ်ဆုံးက ဝမ်းပန်းတသာ မိမိပြုလိုက်သောကုသိုလ်ကောင်းမှုကိုပြောပြပြီး ထိုကုသိုလ်ကောင်းမှုအတွက် ဝမ်းမြောက်ကြပါ၊ ထိုလှူလိုက်သောပျားရည်၏အဖိုးကိုလည်း စိုက်၍ပေးပါမည်ဟုပြောဆို၏။ အစ်ကိုနှစ်ဦးက ပျားရည်ဖိုးလည်းမယူပါ၊ မည်သည့်ပုဂ္ဂိုလ်အား လှူလိုက်သည်ကိုသာ သိလိုသည်ဟု မေးကြပြန်၏။

ထိုအခါ ညီငယ်က အိမ်စဉ်လှည့်၍ဆွမ်းခံနေသောဂန္ဓမာဒနတောင်မှ ပစ္စေကဗုဒ္ဓါအရှင်မြတ်တစ်ပါးအား လှူလိုက်သည်ဟုပြောဆိုလေလျှင်၊ အစ်ကိုအကြီးဆုံးက 'အိမ်စဉ်ဆွမ်းလည်းခံတာများ ပုဏ္ဏားသူတောင်းစားတွေလဲ တစ်အိမ်ပြီးတစ်အိမ် အိမ်စဉ်လည်ကြတာပဲ။ အခုပျားရည်ကို အလှူလာခံတဲ့သူဟာပစ္စေကဗုဒ္ဓါတော့မဖြစ်နိုင်ဘူး၊ ပုဏ္ဏားသူတောင်းစားပဲဖြစ်မယ်'ဟုပြောဆို၏။ ကျန်အစ်ကိုတစ်ဦးကမူ 'ဘာပစ္စေကဗုဒ္ဓါလဲ၊ သမုဒ္ဒရာတစ်ဖက်ကို ပစ်လိုက်ရ'ဟု ကြမ်းကြမ်းတမ်းတမ်းပြောဆိုလိုက်ပြန်၏။

ညီအငယ်ဆုံးဖြစ်သူ ပျားရည်အလှူရှင်က 'အစ်ကိုတို့၊ သင်တို့ဟာ အရိယာဖြစ်တဲ့ ဘုန်းတန်ခိုးရှိတဲ့ ပစ္စေကဗုဒ္ဓါအရှင်မြတ်ကို ပြစ်မှားတဲ့စကားကြမ်းတမ်းတဲ့စကားကို မပြောကြပါနဲ့။ အပါယ်ဆင်းရဲကို မကြောက်ကြဘူးလား'ဟု ပြောဆို၍ တားမြစ်ခဲ့၏။ ပြီးလျှင် ပစ္စေကဗုဒ္ဓါအရှင်မြတ်၏ ဂုဏ်ကျေးဇူးကို ရှင်းလင်းပြောပြလေသည်။

ထိုအခါမှ နောင်တော်နှစ်ဦးလည်း ပစ္စေကဗုဒ္ဓါအရှင်မြတ်၌ ကြည်ညိုသောစိတ်ဖြစ်ပေါ်လာကြပြီး ညီငယ်၏ကောင်းမှုကို သာဓုအနုမောဒနာပြုခဲ့ကြ၏။ ထိုညီနောင်သုံးဦးတို့သည် ထိုဘဝမှစုတေခဲ့ကြပြီး လူ့ပြည်နတ်ပြည်

တို့၌ စုန်ဆန်ကျင်လည်၍ စည်းစိမ်ချမ်းသာအမျိုးမျိုးတို့ကို ခံစားခဲ့ကြ၏၊ ဂေါတမမြတ်စွာဘုရားရှင် မဟာပရိနိဗ္ဗာန်ပြုပြီး အနှစ်နှစ်ရာလွန်သောအခါ ဤဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ၌ ထိုညီနောင်သုံးဦးသည် လူ့အဖြစ်ကိုရကြပြန်သည်။

ပစ္စေကဗုဒ္ဓါအရှင်မြတ်ကို သဒ္ဓါတရားထက်သန်သောစိတ်ဖြင့် ပျားရည်လှူခဲ့သော ညီအငယ်ဆုံးသည် ဗိန္ဒုသာရမင်းကြီး၏သားတော် သီရိဓမ္မာသောကမင်းကြီးဖြစ်လာ၏။ ခြိုလွှာလှူသော သူဆင်းရဲမသည် သီရိဓမ္မာသောကမင်းကြီး၏မိဖုရား အသန္ဒိမိတ္တာဒေဝီဖြစ်လာ၏။ ပျားရည်အလှူခံသော ပစ္စေကဗုဒ္ဓါအရှင်ကို ဒွန်းစဏ္ဍားဟုပြောသူ ပျားရည်ကုန်သည်နောင်တော်ကြီးသည် သီရိဓမ္မာသောကမင်းကြီး၏နောင်တော်သုမနမင်းသားမှဖွားမြင်သော တူတော်နိဂြောဓသာမဏေဖြစ်လာ၏။ ပစ္စေကဗုဒ္ဓါကို သမုဒ္ဒရာတစ်ဖက်သို့ပစ်လိုက်မည်ဟုကြမ်းကြမ်းတမ်းတမ်းပြောဆိုသော ပျားကုန်သည်အလတ်သည် ဇမ္ဗူဒိပ်ကျွန်းမှ သမုဒ္ဒရာတစ်ဖက်ကမ်းရှိ သီရိလင်္ကာကျွန်း၏ဘုရင် ဒေဝါနံပိယတိဿမင်း ဖြစ်လာခဲ့၏။

ဗိန္ဒုသာရမင်းကြီးသည် ဤဇမ္ဗူဒိပ်ကျွန်း၌ဘုန်းတန်ခိုးနှင့်ပြည့်စုံသော ဧကရာဇ်ဘုရင်မင်းကြီးဖြစ်၏။ ထိုမင်းကြီး သက်တော်ထင်ရှားရှိစဉ်က သားတော်သီရိဓမ္မာသောကမင်းသည် ဥဇ္ဇေနီပြည်ကိုအုပ်ချုပ်ရသော ပဒေသရာဇ်မင်းငယ် တစ်ပါးဖြစ်၏။ ဗိန္ဒုသာရမင်းကြီး သက်တော်ရွယ်တော်ကြီးရင့်လာသောအခါ သီရိဓမ္မာသောကသည် မိမိမြို့၏အနီးအပါးရှိ မြို့ရွာများကို ကျူးကျော်တိုက်ခိုက်သိမ်းပိုက်လေသည်။ မိမိ၏နောင်တော်သုမနမင်းသား အုပ်ချုပ်သောမြို့ကိုလည်း တိုက်ခိုက်သိမ်းပိုက်၍ နောင်တော်ကိုဖမ်းဆီးချုပ်နှောင်ထားခဲ့၏။ နောင်တော်သုမနမင်းသား၏မိဖုရားကြီးသည် ပဋိသန္ဓေအရင့်အမာဖြင့် ထွက်ပြေးပြီး သူတောင်းစားရွာကလေးတစ်ရွာ၌ မထင်မရှားနေထိုင်ခဲ့ရရှာ၏။

ထိုသူတောင်းစားရွာ၏ထိပ်တွင် ပညောင်ပင်ကြီးတစ်ပင်ရှိပြီး ရက္ခစိုး

နတ်တစ်ပါး စောင့်ရှောက်နေခဲ့၏။ တစ်နေ့တွင် သုမနမိဖုရားကြီးသည် ထိုပဒေါင်ပင်အနီးသို့သွားရာ ပဒေါင်ပင်စောင့်ရုက္ခစိုးနတ်က 'သုမန လာခဲ့'ဟု အသံပေးလိုက်၏။ မိဖုရားကြီးသည် မိမိ၏အမည်ကို ခေါ်သံ ကြားသောအခါ 'အဘယ်သူသည် ငါ၏အမည်ကိုသိနေပါသနည်း၊ ငါသည် ဤအရပ်၌ တိတ်တဆိတ်နေထိုင်ပါလျက် ငါ့ကို မည်သို့သိနေ ပါသနည်း'စသည်ဖြင့် ကြောက်ရွံ့ထိတ်လန့်ပြီး ပဒေါင်ပင်ကြီး၏ အနီး သို့ ချဉ်းကပ်သွားလျှင် ရုက္ခစိုးနတ်က မိမိ၏တန်ခိုးဖြင့် ပဒေါင်ပင်အနီး တွင် ဇရပ်တစ်ဆောင်ကိုဖန်ဆင်းပေးပြီး ထိုဇရပ်၌နေစေ ၏။ မိဖုရားကြီး သည် ဇရပ်မှာပင် လွယ်ပိုက်ထားရသောကိုယ်ဝန်ကို မွေးဖွားရလေသည်။ ဖွားမြင်စ သတို့သားကလေးကို ပဒေါင်ပင်စောင့်နတ် ရုက္ခစိုးက စောင့် ရှောက်သောကြောင့် ထိုကလေး၏အမည်ကို နိဂြောဓဟု မှည့်ခေါ်ခဲ့ကြ၏။

ဤကား ပစ္စေဗုဒ္ဓါအရှင်မြတ်ကို ဒွန်းစဏ္ဍားဟုသမုတ်သည့် အကုသိုလ်ကံ၏ အကျိုးကြောင့် တိုင်းလုံးကျော်သည့် ဘုရင်ဇကရာဇ် မြေးပင်ဖြစ်လင့်ကစား ဒွန်းစဏ္ဍားရွာ၌ မွေးဖွားရခြင်းဖြစ်၏။ မိဖုရားကြီး သည် ထိုဇရပ်မှာပင် ခုနစ်နှစ်ကြာအောင် နေထိုင်ခဲ့၏။ နိဂြောဓသတို့သား ကလေးသည်လည်း အသက်ခုနစ်နှစ်သား သာမဏေပြုနိုင်သောအရွယ်သို့ ရောက်ရှိခဲ့လေသည်။

ထိုအခါ မဟာဝရုဏရဟန္တာမထေရ်မြတ်သည် သုမနဒေဝီမိဖုရား ထံ နိဂြောဓသတို့သားကို သာမဏေပြုရန် အချိန်ရောက်ပြီဟု ပြောကြား ပြီး မိခင်မိဖုရားကြီးကခွင့်ပြုလျှင် နိဂြောဓသတို့သားကို သာမဏေပြုပေး ခဲ့၏။ ဆံချသောအခါ ရဟန္တာအဖြစ်သို့ရောက်ရှိခဲ့လေသည်။ တစ်နေ့တွင် နိဂြောဓသာမဏေသည် နံနက်စောစောကပင် ကိုယ်လက်သုတ်သင်၍ မိမိဉပဇ္ဈာယ်ဆရာ၏ဝတ်ကြီးဝတ်ငယ်တို့ကိုပြုပြီး သပိတ်သင်္ကန်းကို ယူကာ မိခင်ကြီးထံသွားအံ့ဟု ထွက်ခဲ့၏။ နိဂြောဓသာမဏေ၏ မိခင် မိဖုရားကြီးသည် မြို့အရှေ့တံခါး၌ နေထိုင်သောကြောင့် နိဂြောဓသာမဏေ

သည် မြို့လယ်ကိုဖြတ်၍ အရှေ့တံခါးသို့ကြွသွားရာ အသောကမင်းကြီး သည်လည်း အရှေ့အရပ်သို့ လေသာပြတင်းမှ ရှုမျှော်နေစဉ်အခါနှင့် ကြုံကြိုက်ခဲ့လေသည်။

ဓမ္မာသောကမင်းကြီး ကြည့်နေစဉ်မှာပင် နိဂြောဓသာမဏေသည် မင်းရင်ပြင်အနီးသို့ရောက်ရှိလာ၏။ ငြိမ်သက်သောဣန္ဒြေ၊ ငြိမ်သက်သော စိတ်တို့ဖြင့် မျက်လွှာချထားပြီး ကြွသွားနေသောသာမဏေကို ဖူးမြင်ရသော ဓမ္မာသောကမင်းကြီး၏စိတ်အတွင်း၌ 'ဩ...တစ်နေ့တစ်နေ့တုန်လှုပ်သော စိတ်,ပျံ့လွင့်သောစိတ်တို့ဖြင့် ဣန္ဒြေမရသွားလာနေသောသူတို့ကိုကြည့်ရ သည်မှာ မျက်စိနောက်စရာကောင်းလှ၏။ ဣန္ဒြေရရကြွသွားနေသော ဤ သာမဏေလေးကိုကြည့်ရသည်မှာ ငြိမ်းအေးချမ်းမြေ့ရလေ၏'ဟုဖြစ်ခဲ့၏။ ထိုသာမဏေလေးကိုမြင်ရလျှင်ပင် ချစ်ခင်ရင်းနှီးသောစိတ်လည်း အလိုလို ဖြစ်ပေါ်လာ၏။ နိဂြောဓသာမဏေသည် သီရိဓမ္မာသောကမင်းကြီး၏ နောင်တော်ကြီးသုမနမင်းသားမှဖွားမြင်သော သားတော်ဖြစ်၍ တူရင်း ခေါက်ခေါက်ဖြစ်လေရာ သွေးသားသံယောဇဉ်ဟူသောအကြောင်းကြောင့် ချစ်ခင်သောစိတ်များ ပေါ်လာခြင်းဖြစ်ပေသည်။

ထိုအခါ ဓမ္မာသောကမင်းကြီးသည် မှူးမတ်တို့အား 'သာမဏေကို ပင့်ခဲ့ကြ'ဟု စေခိုင်းလိုက်၏။ သာမဏေကို အခေါ်လွှတ်လိုက်သော အမတ်သည် ချက်ချင်းပေါ်မလာသဖြင့် နောက်ထပ်အမတ်တစ်ဦးကို လွှတ် လိုက်ပြန်၏။ 'မြန်မြန်ပင့်လာစမ်း'ဟုလည်း မှာလိုက်၏။ ထိုအမတ်လည်း ချက်ချင်းပေါ်မလာပြန်ပေ။ သို့နှင့် အမတ်တစ်ယောက်ပြီးတစ်ယောက် သာမဏေကို 'မြန်မြန်ပင့်လာခဲ့'ဟုစေခိုင်းသည်။ အမတ်များက မည်သို့ပင် မြန်မြန်ကြွရန်ပင့်စေကာမူ သာမဏေသည် မိမိ၏တည်ငြိမ်အေးဆေးသော အမူအရာအတိုင်း ဣန္ဒြေရရ ငြိမ်ငြိမ်သက်သက် လေးလေးဆေးဆေးသာ နန်းတော်တွင်းသို့ကြွတော်မူခဲ့သည်။ နန်းရင်ပြင်သို့ရောက်သော် သီရိဓမ္မာ သောကမင်းကြီးက နိဂြောဓသာမဏေကို 'သင့်တင့်လျောက်ပတ်သော

နေရာမှာနေပါ'ဟုဆိုလေ၏။ သာမဏေသည် ပတ်ဝန်းကျင်ကို အကဲခတ်ကြည့်လိုက်၏။ မိမိထက်သိက္ခာဝါကြီးသော သံဃာတော်အရှင်မြတ်တို့ကို မတွေ့ရသဖြင့် ထီးဖြူမိုးထားသော ရာဇပလ္လင်ကြီးသို့ချဉ်းကပ်၍ မင်းကြီးအား သပိတ်ကိုယူစေခြင်းငှာ နိမိတ်အမူအရာပြလေသည်။ မင်းကြီးသည် သာမဏေ၏အရိပ်အကဲကို နားလည်သည့်အားလျော်စွာသပိတ်ကိုလှမ်းယူလိုက်၏။ သာမဏေသည် ရာဇပလ္လင်ထက်တက်၍ ထိုင်နေတော်မူခဲ့၏။

မင်းကြီးသည် သာမဏေအား ခဲဖွယ်ဘောဇဉ်တို့ကို ဆက်ကပ်လှူဒါန်းသောအခါ မျှတလောက်ရုံခံယူ၏။ ဆွမ်းကိစ္စပြီးသော် မင်းကြီးက 'ရှင်သာမဏေတို့၏ဆရာ မြတ်စွာဘုရားဟောကြားဆုံးမသော တရားတော်ကိုသိပါ၏လော၊ သိလျှင်ပြောပြပါ'ဟု ပန်ကြား၏။ နိဂြောဓသာမဏေက 'မြတ်သောမင်းကြီး၊ မြတ်စွာဘုရားဟောကြားအပ်သောတရားအားလုံးကိုတော့ မသိပါ၊ အနည်းငယ်သာသိပါသည်'ဟု ဖြေကြား၏။ မင်းကြီးက 'ထိုအနည်းငယ်မျှသိသော တရားကိုပင် ဟောကြားတော်မူပါ'ဟု လျှောက်ထားလျှင် 'အပ္ပမာဒေါ အမတံ ပဒံ။ ပမာဒေါ မစ္စုနောပဒံ'ဟူသော ဂါထာထက်ဝက်ကို ဟောကြားတော်မူခဲ့၏။ ဓမ္မာသောကမင်းကြီးသည် ထိုမျှသောတရားဖြင့် ကျေနပ်အားရကာ 'သိပါပြီ၊ သိပါပြီ'ဟုဆိုပြီး အနုမောဒနာပြုစေခဲ့၏။ 'နောက်တစ်နေ့တွင် သံဃာတော်သုံးဆယ့်နှစ်ပါးတို့နှင့်အတူ နန်းတော်သို့ကြွ၍ ဆွမ်းအလှူကို ခံယူတော်မူပါ'ဟု ဆွမ်းဝတ်ကို တောင်းခံခဲ့၏။

နိဂြောဓသာမဏေသည် နောက်တစ်နေ့တွင် ရဟန်းတော်သုံးဆယ့်နှစ်ပါးတို့နှင့်အတူ နန်းတော်သို့ကြွ၍ မင်းကြီး၏ဆွမ်းကို ခံယူတော်မူခဲ့သည်။ မင်းကြီးလည်း သံဃာတော်သုံးဆယ့်နှစ်ပါးမှ တစ်စတစ်စတိုးကာ ရဟန်းသံဃာခြောက်သောင်းတိုင်သည်အထိ ဆွမ်းဝတ်ပြု၍ လှူဒါန်းခဲ့လေသည်။ နိဂြောဓသာမဏေသည် သီရိဓမ္မာသောကမင်းအား သရဏဂုံသုံးပါးနှင့်တကွ ငါးပါးသောသီလကို တည်စေပြီး သာသနာ၌တုန်လှုပ်ခြင်း

မရှိ ကြည်ညိုစေခဲ့၏။ အသောကမင်းကြီးသည် အသောကာရုံကျောင်းတော်ကြီးကို ဆောက်လုပ်လှူဒါန်းကာ ဇမ္ဗူဒိပ်ကျွန်းရှိ ရှစ်သောင်းလေးထောင်သောမြို့တို့တွင်လည်း ကျောင်းပေါင်းရှစ်သောင်းလေးထောင်တို့ကို ဆောက်လုပ်လှူဒါန်းခဲ့၏။

ဗိန္ဒုသာရမင်းကြီး၌ သားတော်တစ်ရာ့တစ်ပါးရှိကုန်၏။ ထိုသားတို့တွင် အသောကမင်းသည် မိမိ၏အစ်ကိုတော်သူ တိဿမင်းသားကိုသတ်၍ လေးနှစ်တိုင် ဘိသိက်မခံဘဲ မင်းပြုနေ၏။ ရာဇဘိသိက်သွန်းပြီးသောအခါ ဇမ္ဗူဒိပ်၌တည်ရှိသော ရှစ်သောင်းလေးထောင်သောမင်းတို့က ခစားလာကြ၏။ အသောကမင်း၌ ဥတုသုံးပါးအလိုက် စံနေတော်မူသောပြာသာဒ်သုံးဆောင်ရှိ၏။ ထိုပြာသာဒ်သုံးဆောင်မှာ မဟာသပ္ပိက၊ မောရဂီဝနှင့် မင်္ဂလမည်ကုန်၏။ ထိုပြာသာဒ်တို့၌ ကချေသည်ပေါင်းမှာ အရာအထောင်မကရှိ၏။ အသောကမင်းကြီး၌ မိဖုရားပေါင်းခြောက်သောင်းရှိ၏။

ပစ္စေကဗုဒ္ဓါအရှင်မြတ်အား အဝတ်လှူခဲ့သော သူဆင်းရဲအမျိုးသမီးသည် အသောကမင်းကြီး၏ အသန္ဓိမိတ္တာမိဖုရားကြီးဖြစ်လာ၏။ ထိုမိဖုရားကြီးသည် နတ်သမီးနှင့်တူ၍ မိဖုရားခြောက်သောင်းတို့တွင် အကြီးဆုံးမိဖုရားကြီးဖြစ်၏။ ဓမ္မာသောကမင်းကြီးသည် မြေကြီးအောက်တစ်ယူဇနာ၊ အထက်ကိုတစ်ယူဇနာအရပ်အထိ အာဏာစက်ပျံ့နှံ့တော်မူရာ နတ်တို့က အနောတတ္တအိုင်မှ ရေအိုးတစ်ဆယ့်ခြောက်လုံးကိုဆောင်ယူ၍ မင်းကြီးအားပေးကြ၏။ ဓမ္မာသောကမင်းကြီးသည် သာသနာ၌ ကြည်ညိုသော စိတ်ရှိ၍ ရေအိုးရှစ်လုံးကို သံဃာတော်တို့အား ပေးလှူ၏။ နှစ်အိုးကို ပိဋကတ်သုံးပုံဆောင် သံဃာတို့အား ပေးလှူ၏။ နှစ်အိုးကို အသန္ဓိမိတ္တာမိဖုရားကြီးအား ပေးလေ၏။ ကျန်ရေအိုးလေးလုံးကို မင်းကြီးကိုယ်တိုင် သုံးဆောင်တော်မူခဲ့၏။

နတ်တို့က ဟိမဝန္တာ၌ဖြစ်သော နူးညံ့၍အရသာရှိသော ကွမ်းရိုးနွယ်ဒန်ပူတို့ကို နေ့တိုင်းဆောင်ယူ၍ပေးကြ၏။ ထို့ပြင် ဆီးဖြူသီး၊

ဖန်ခါးသီး၊ သရက်သီးစသည်ကိုလည်း နေ့စဉ်ယူ၍ပေးကြ၏။ ဆဒ္ဒန် အိုင်မှဖြစ်သော ပုဆိုးပဝါ၊ နတ်၌ဖြစ်သောအဖျော် စသည်တို့ကိုလည်း ယူလာပေးကြ၏။ မြတ်လေးနှင့်တူသောပုဆိုး၊ မြင့်မြတ်သူတို့နှင့်ထိုက်သော မျက်စဉ်ကြည်တို့ကိုလည်း နဂါးမင်းတို့က နဂါးပြည်မှယူဆောင်ပေးကြ၏။ ဆဒ္ဒန်အိုင်၌ပေါက်သော သလေးစပါးကို ကျေးသားတို့က ယူဆောင်၍ ပေးကြ၏။ ပျားတို့က ပျားရည်ကိုဖြစ်စေ၏။ ကရဝိက်ငှက်တို့က သာယာသောအသံပြု၍ မင်းကြီးကိုဖျော်ဖြေကြ၏။ ဤသို့ဆိုသည့်အတိုင်း ဓမ္မာသောကမင်းကြီးသည် ဘုန်းတန်ခိုးတော်နှင့်ပြည့်စုံတော်မူလေသည်။

တစ်နေ့သော် သီရိဓမ္မာသောကမင်းကြီးသည် ဤဘဒ္ဒကမ္ဘာ၌ ပွင့်တော်မူခဲ့သော လေးဆူသောမြတ်စွာဘုရားရှင်တို့ကို ဖူးမြင်လိုသော ကြောင့် တစ်ကမ္ဘာပတ်လုံး အသက်ရှည်သော ကာလနဂါးမင်းကို ရွှေခြေကျင်း ဖွဲ့နှောင်ခေါ်ယူပြီး မြတ်စွာဘုရား၏ရုပ်အဆင်းကို ဖန်ဆင်းခိုင်း၏။ ကာလ နဂါးမင်းသည် ရှစ်ဆယ်သောလက္ခဏာတော်ငယ်၊ သုံးဆယ့်နှစ်ပါးသော မဟာပုရိသလက္ခဏာတော်ကြီးတို့ဖြင့် ပြည့်စုံ၍ အသရေရှိတော်မူလှသော မြတ်စွာဘုရားရှင်၏ရုပ်အဆင်းတော်ကို ဖန်တီး၍ ပြသလေ၏။ ဓမ္မာသောကမင်းကြီးသည် ထိုနိမ္မိတမြတ်စွာဘုရားရုပ်ပွားတော်ကို ခုနစ်ရက်တာကာလပတ်လုံး မမှိတ်သောမျက်စိဖြင့် စေ့စေ့ကြည့်၍ ပူဇော်ပြီး နေခဲ့လေသည်။

ဓမ္မာသောကမင်းကြီးသည် နန်းစံပြီး သုံးနှစ်အတွင်း ခမည်းတော် ဗိန္ဒုသာရမင်းကြီးလက်ထက်တော်က ဆည်းကပ်ခဲ့သော သာသနာပဗာဟိရ ပါသဏ္ဍာအယူရှိသူတို့ကို ပြုစုလုပ်ကျွေးနေခဲ့၏။ ထိုပုဏ္ဏား၊ ပါသဏ္ဍာ ပဏ္ဍာရင်္ဂပရိဗိုဇ်ခြောက်သောင်းတို့ကို နိစ္စဘတ်ဆွမ်း လုပ်ကျွေးနေခဲ့သော်လည်း ထိုတိတ္ထိပရိဗိုဇ်တို့၏ ဣန္ဒြေကင်းမဲ့သော နေထိုင်စားသောက်မှုတို့ကိုမြင်ရလျှင် ထိုတိတ္ထိများထက် အကျင့်သီလမြင့်မြတ်သော ပုဂ္ဂိုလ်သို့ ရွှေ့ပြောင်းလှူဒါန်းရန် အကြံအစည် ဖြစ်ပေါ်လာခဲ့သည်။ ထို့ကြောင့်

ထို့ကြောင့် အမတ်တို့ကိုခေါ်ပြီး 'သင်မှူးမတ်တို့၊ သင်တို့ကိုးကွယ်နေတဲ့ ဘုရားတွေ ရဟန်းပုဏ္ဏားတွေဟာ မိမိကိုယ်ကိုဘုရားပါလို့ ပြောဆိုနေကြတယ်မဟုတ်လား၊ အဲဒီလို မိမိကိုယ်ကိုဘုရားပါလို့ပြောတဲ့ ပုဂ္ဂိုလ်တွေအားလုံးကိုစုရုံးပြီး နန်းတော်တွင်းကိုခေါ်ခဲ့ကြပါ'ဟု အမိန့်ပေးလိုက်သည်။ မှူးမတ်တို့ကလည်း ဝမ်းသာစွာဖြင့် မိမိတို့ကိုးကွယ်သော ပဏ္ဍုရင်္ဂပရိဗိုဇ်၊ အာဇီဝက၊ နိဂဏ္ဌ စသည်တို့ကို ခေါ်ဆောင်လာကြပြီး 'မြတ်သောမင်းကြီး၊ ဤသူတို့သည် ကျွန်ုပ်တို့၏ဘုရားရဟန္တာများဖြစ်ပါသည်'ဟု ပြောဆိုကြ၏။

ဓမ္မာသောကမင်းကြီးသည် နန်းတွင်း၌ အနိမ့်အမြင့် နေရာအမျိုးမျိုးကိုခင်းထားပြီး တိတ္ထိတို့ကို 'သင်တို့ နှစ်သက်ရာလျော်ကန်ရာမှာ ထိုင်ကြ'ဟုပြောသည့်အခါ အချို့သောတိတ္ထိတို့က ကောင်းသောခုံ၌၊ အချို့က နိမ့်သောခုံ၌၊ အချို့က ကြမ်း၌ထိုင်ကြ၏။ သူတို့၏အမူအရာကို ကြည့်လျှင်ပင် ဣန္ဒြေမရှိကြောင်း အကျင့်သီလမရှိကြောင်းသိရ၏။ ဓမ္မာသောကမင်းကြီးသည် နိဂြောဓသာမဏေကို ဖူးတွေ့ပြီးသည်မှစ၍ တိတ္ထိတို့အပေါ်၌ ယုံကြည်လေးမြတ်မှုကင်းခဲ့ပြီး၊ ဤသို့အနေအထိုင် ဣန္ဒြေကင်းမဲ့သည်ကို မြင်ရပြန်သောအခါ သဒ္ဓါတရားလုံးဝကင်းမဲ့ပြီဖြစ်ရာ ထိုတိတ္ထိခြောက်သောင်းကိုစွန့်ပယ်ကာ မြတ်စွာဘုရားသာသနာတော်၌ ကြည်ညိုလေးမြတ်ခြင်းဖြစ်ခဲ့လေသည်။

တစ်နေ့သောအခါ ဓမ္မာသောကမင်းကြီးသည် ခြောက်သောင်းသော သံဃာတော်အရှင်မြတ်တို့အား ဆွမ်းဆက်ကပ်လှူဒါန်းပြီးနောက် မဟာထေရ်ကြီးတို့အား 'အရှင်တို့ဘုရား၊ မြတ်စွာဘုရားသခင်ဟောတော်မူအပ်သောတရားတော်သည် အဘယ်မျှရှိပါသနည်း'ဟုမေးလျှောက်ခဲ့၏။ အရှင်မြတ်တို့က 'မြတ်သောမင်းကြီး၊ အင်္ဂါအားဖြင့်ကိုးပါး၊ ဓမ္မက္ခန္ဓာအားဖြင့် ရှစ်သောင်းလေးထောင်ရှိ၏'ဟုဖြေတော်မူလျှင် မင်းကြီးသည် တရားတော်၌ နှစ်သက်ကြည်ညိုလှသည်ဖြစ်၍ တရားတော်ဓမ္မက္ခန္ဓာတစ်ပါး

ကို ကျောင်းတစ်ကျောင်းဆောက်၍ ပူဇော်အံ့ဟု အကြံဖြစ်တော်မူ၏။ သို့ဖြစ်၍ ကိုးဆယ့်ခြောက်ကုဋေသော ဥစ္စာကိုစွန့်လျှကာ ဇမ္ဗူဒိပ်ကျွန်းရှိ ရှစ်သောင်းလေးထောင်သောမြို့တို့တွင် တစ်မြို့လျှင် တစ်ကျောင်းဆောက် လုပ်စေခဲ့၏။ မိမိကိုယ်တိုင်လည်း အသောကာရုံကျောင်းတော်ကြီးကို ဆောက်လုပ်ရန် တာဝန်ယူခဲ့လေသည်။

ဓမ္မာသောကမင်းကြီးသည် အသောကာရုံကျောင်းတော်ကြီးကို ဣန္ဒဂုတ္တမထေရ်ကြီး၏စောင့်ရှောက်မှုဖြင့် ဆောက်လုပ်ခဲ့၏။ ဣန္ဒဂုတ္တမထေရ်သည် အသောကာရုံကျောင်းတော်ဆောက်လုပ်ရာ၌ လိုအပ်သည် တို့ကို မိမိ၏တန်ခိုးအာနုဘော်ဖြင့် ပြီးစီးစေခဲ့၏။ အသောကာရုံကျောင်းတော်ကြီးကို သုံးနှစ်ကြာအောင် တည်ဆောက်ခဲ့ရသည်။ အသောကာရုံကျောင်းတော်ကြီးတည်ဆောက်၍ပြီးစီးသောနေ့မှာပင် ဇမ္ဗူဒိပ်ကျွန်းရှိ မြို့ပေါင်းရှစ်သောင်းလေးထောင်ရှိ မြို့ဝန်တို့ထံမှ မိမိတို့မြို့ရွာအသီးသီး၌ ကျောင်းတော် ရှစ်သောင်းလေးထောင်ကို ဆောက်လုပ်၍ ပြီးစီးအောင်မြင် ပါကြောင်း အစီရင်ခံသောစာသဝဏ်တို့ မင်းကြီးထံတော်သို့ ရောက်ရှိ လာ၏။

ဓမ္မာသောကမင်းကြီးသည် သံဃာတော်အရှင်မြတ်တို့ထံသွား၍ 'အရှင်တို့ဘုရား၊ တပည့်တော်သည် ရှစ်သောင်းလေးထောင်သော **ဓမ္မက္ခန္ဓာ** တရားတော်တို့ကို ပူဇော်သောအားဖြင့် မြို့ရွာပေါင်းရှစ်သောင်းလေးထောင် တို့တွင် ဝိဟာရကျောင်းပေါင်းရှစ်သောင်းလေးထောင်တို့ကိုဆောက်လုပ်ခဲ့ ပါပြီ။ ထိုကျောင်းတို့အတွက် မြတ်စွာဘုရားရှင်၏ဓာတ်တော်တို့ကို မည် သည့်နေရာမှ ရနိုင်ပါမည်နည်း'ဟု မေးလျှောက်ခဲ့၏။ 'မြတ်သောမင်းကြီး၊ ဓာတ်တော်တို့ကို သိမ်းဆည်းထားရာအရပ်ရှိသည်ဟုသာ ကြားဖူးပါ၏။ နေရာဒေသ အတိအကျကို ငါတို့မသိကြပါ'ဟု မိန့်တော်မူကြလေလျှင် ဓမ္မာသောကမင်းကြီးသည် ရဟန်းတော်တို့ကြားသိဖူးရာ အရပ်တို့၌ ဓာတ် တော်ကို တူးဖော်ရှာဖွေစေ၏။ မတွေ့သော် ရဟန်း,ရဟန်းမ(ဘိက္ခုနီ),

ဥပါသကာ,ဥပါသိကာပရိသတ်လေးပါးတို့ကိုပင့်ဖိတ်၍ ဝေသာ လီပြည်သို့ ဓာတ်တော်တောင်းရန် စေလွှတ်ခဲ့၏။ မရခဲ့။ ကပိလပြည်သို့ လည်း စေလွှတ်ခဲ့၏။ မရခဲ့။ ရာမရွာသို့ သွား၍တောင်းရာ ရာမရွာ၌ နေသော နဂါးတို့က ဓာတ်တော်ဌာပနာခဲ့သော စေတီကိုအဖျက်မခံကြ။ အတင်းအဓမ္မစေတီကိုတူးဖို့သောအခါ ပေါက်တူးတို့ အပိုင်းပိုင်းပြတ်ထွက် ကုန်၏။ ထိုသို့ရာမရွာမှမရသော် အလ္လကပ္ပ၊ပါဝါ၊ကုသိနာရုံ စသောအရပ် ဒေသတို့ရှိ စေတီများကို ဖျက်၍ ရှာသော်လည်း ဓာတ်တော်ကိုမရခဲ့ပေ။ တူးဖော်ခဲ့သောစေတီတို့ကိုသာ မူလအတိုင်း ပြန်လည်ပြင်ဆင်ထားခဲ့ရ၏။

သို့ဖြင့် ဓမ္မာသောကမင်းကြီးသည် ဘုရားရှင်သက်တော်ထင်ရှား ရှိစဉ်အခါက ကာလကြာမြင့်စွာ သီတင်းသုံးတော်မူခဲ့သော ရာဇဂြိုဟ်ပြည် သို့သွား၍ ပရိသတ်လေးပါးကို စည်းဝေးစေပြီး 'ဓာတ်တော်ထားရာ အရပ်ကို သိကြပါသလော၊ သိလျှင် ပြောပြကြပါ'ဟု မေးမြန်းစုံစမ်းရာ အသက်တစ်ရာ့နှစ်ဆယ်ရှည်တော်မူသော မထေရ်ကြီးတစ်ပါးက 'ဓာတ် တော်ထားရှိသောနေရာဟူ၍ အတိအကျမသိသော်လည်း တပည့်တော် ငယ်စဉ် ခုနစ်နှစ်သားအရွယ်က မိမိ၏အဘိုး မထေရ်ကြီးနှင့်အတူ ပန်းခြင်းကိုယူပြီး ချုံကြိုချုံကြား၌တည်ထားသော ကျောက်စေတီတစ်ဆူ ရှိရာသို့သွားကြ၏။ ထိုစေတီကိုပူဇော်ပြီး အဘိုးဖြစ်သူမထေရ်မြတ်က 'ဤအရပ်ကို မှတ်သားထားပါ'ဟု မိန့်ဆိုခဲ့ဖူးပါသည်။ ထိုအရပ်ကို ငါသိ သည်၊ ထိုအရပ်၌ ဓာတ်တော်များရှိမည်, မရှိမည်ကိုကား အတတ်မပြော နိုင်'ဟု မိန့်ကြားလေ၏။

ဓမ္မာသောကမင်းကြီးသည် သက်တော်ရှည်မထေရ်ကြီး မိန့်ဆိုသော အရပ်သို့သွားရောက်၍ ချုံနွယ်တို့ကိုရှင်းလင်းစေ၏။ ထိုအခါ ကျောက် စေတီကြီးတစ်ဆူပေါ်ထွက်လာ၏။ ဆက်လက်၍ ရှင်းလင်းတူးဖို့ကြရာ မြေမှုန့်များ၊ အုတ်အင်္ဂတေများကိုတွေ့ရလေ၏။ ထိုအုတ်အင်္ဂတေတို့ကို တူးဖော်ဖယ်ရှားသောအခါ မြေတိုက်တွင်းသို့ဆင်းသော မြေအောက်လမ်းကို

တွေ့ရှိကြလေသည်။ ထိုလမ်းအတိုင်း မြေအောက်လိုဏ်အတွင်းဝင်သွားသောအခါ ရတနာခုနစ်ပါးဖြင့်ပြီးသော သဲမြေပြင်ကိုတွေ့လိုက်ရ၏။ ထိုနေရာ၌ သန်လျက်,ဓား,လှံတို့စွဲကိုင်ထားသော သစ်သားစက်ရုပ်တို့ ဓားလှံကစားဟန် လှည့်လည်သွားလာလှုပ်ရှားနေကြလေသည်။

ထိုအခါ ဓမ္မာသောကမင်းကြီးသည် ဘီလူးတို့ကိုခေါ်၍ ဗလိနတ်စာပြု၊ နတ်တို့ကိုပူဇော်ပသ,ပြီး 'ငါသည် ဤဓာတ်တော်တိုက်အတွင်းရှိဓာတ်တော်တို့ကိုယူ၍ ရှစ်သောင်းလေးထောင်သောကျောင်းတို့၌ ဌာပနာ၍ ပူဇော်လိုပါသည်။ နတ်တို့သည် ငါ့ကို အန္တရာယ်မပြုကြပါလင့်'ဟု ဆိုလေ၏။ ထိုအခါ နတ်မင်းတို့၏အရှင် သိကြားမင်းသည် ဒေသစာရီလှည့်လည်နေစဉ် ဓမ္မာသောကမင်းကြီး၏ အဓိဋ္ဌာန်ပြုသောအသံကိုကြားသိလျှင် ဝိသုကြံနတ်သားကိုခေါ်ပြီး 'ချစ်သား၊ ဓမ္မာသောကမင်း တရားသည် ဓာတ်တော်တို့ကိုပူဇော်ရန် ဓာတ်တော်တို့ရှိရာ မြေတိုက်သို့ ဆင်းလိမ့်မည်၊ ထိုဓာတ်တော်တိုက်အတွင်းရှိ သစ်သားစက်ရုပ်တို့ကိုသွား၍ ဖျက်ဆီးပါ'ဟု စေခိုင်းလိုက်၏။

ဝိသုကြံနတ်သားလည်း သိကြားမင်း စေသည့်အတိုင်း ဆောင်ရွက်ရန်အတွက် ဆံပင်ကိုငါးစုထုံး၍ လေးကိုကိုင်စွဲပြီး သူငယ်တော်အသွင်ယူကာ မင်းကြီး၏ရှေ့၌ ရပ်နေလေသည်။ 'မြတ်သောမင်းကြီး၊ ဓာတ်တော်ရှိရာနေရာကို ကျွန်ုပ်ရှေ့ဆောင်၍သွားပါမည်'ဟုဆိုပြီး စွဲကိုင်ထားသောလေးဖြင့် လှုပ်ရှားသွားလာနေသောစက်ရုပ်တို့၏ အဆက်အစပ်ရှိရာနေရာတို့ကို ပစ်ခတ်ပြီးရှင်းလင်းလိုက်၏။ ဓားလှံကိုင်၍ လှည့်လည် သွားလာနေသောစက်ရုပ်များ တစ်စစီပြိုကွဲ ဖရိုဖရဲဖြစ်သွားတော့၏။

ထိုအခါ ဓမ္မာသောကမင်းကြီးသည် ဓာတ်တော်တိုက်အတွင်းသို့ လက်အုပ်ချီ၍ ရှေ့ဆုံးမှဝင်သည်။ ဓာတ်တော်ထားရာ ခန်းမဆောင်အဝတွင် ရေးအခေါ် သံကောက်၊ ယခုအခေါ် သော့ခလောက်ကြီးတစ်ခုကို ချိပ်ထား၏။ ဓမ္မာသောကမင်းကြီးသည် ထိုသံကောက်ကိုဖြုတ်လိုက်သော်

ပတ္တမြားကြီးတစ်လုံးနှင့်စာတစ်စောင်ကိုတွေ့ရ၏။ စာမှာ 'နောင်အနာဂတ်၌ ဉစ္စာမဲ့မွဲဆင်းရဲသောမင်းတို့သည် ဤပတ္တမြားကိုယူ၍ ဓာတ်တော်တို့အား ပူဇော်ကြကုန်လော့'ဟု ရေးသားထား၏။ ဓမ္မာသောကမင်းကြီးသည် ထို စာကိုဖတ်ပြီးလျှင် ဒေါသထွက်ကာ 'ငါကဲ့သို့သောမင်းကို ဆင်းရဲသော မင်းဟု ဆိုဖို့ရာ မသင့်'ဟု အထပ်ထပ်အခါခါ မကျေမနပ်ရေရွတ်နေလေ သည်။ ပြီးမှ ဓာတ်တော်တိုက်တံခါးကိုဖွင့်၍ အတွင်းသို့ ဝင်တော်မူ လေ၏။

ဓာတ်တော်ခန်းမကြီးအတွင်း၌ လွန်ခဲ့သောနှစ်ပေါင်း ၂၁၈–နှစ်က အရှင်မဟာကဿပမထေရ်ကြီးနှင့် အဇာတသတ်မင်းတို့ ထွန်းညှိထားခဲ့သောဆီမီးတို့သည် လတ်တလော ထွန်းထားသော ဆီမီးတိုင် ကဲ့သို့ ထွန်းလင်းတောက်ပနေသည်ကို တွေ့ကြရ၏။ ထိုစဉ်အခါက ပူဇော် ထားခဲ့သော ကြာညိုပန်းတို့လည်း လန်းလန်းစွင့်စွင့် သင်းသင်းပျံ့ပျံ့၊ ထိုဂန္ဓကုဋိတိုက်အတွင်း၌ ကြဲဖြန့်ခင်းထားသော ပန်းအခင်းတို့သည်လည်း လန်းဆတ်လျက်ပင်၊ ထုံထားအပ်သော နံ့သာတို့သည်လည်း ယနေ့ပင် ကြိတ်၍ ကြဲဖြန့်ထားဘိသို့ ရနံ့တလှိုင်လှိုင် တကြိုင်ကြိုင်တသင်းသင်းရှိ၏။ ထိုဓာတ်တော်တိုက်အတွင်း ရွှေပြားတစ်ချပ်ပေါ်တွင် 'နောင်အနာဂတ်၌ ပိယဒါသမည်သော မင်းသားသည် ထီးနန်းအုပ်ချုပ်မင်းလုပ်သောအခါ အသောကမည်သော တရားမင်းဖြစ်လတ္တံ့။ ထိုအသောကမင်းသည် ဓာတ်တော်တို့ကို ဖြန့်ဝေခြင်းပြုလတ္တံ့'ဟုရေးသားထား၏။ ဓမ္မာသောက မင်းသည် ထိုရွှေပေစာကို ဖတ်ရှုပြီးနောက် ဝမ်းမြောက်လှ၍ ရာဇဣန္ဒြေကို မဆည်နိုင်တော့ဘဲ ငါ့ကို ရှင်မဟာကဿပမထေရ်ကြီးမြင်တော်မူပေစွဟု လက်ဝဲလက်ကိုကွေးပြီး လက်ယာလက်ဖြင့် လက်ပန်းပေါက်(လက်ခမောင်း) ခတ်တော်မူလေ၏။

ဓမ္မာသောကမင်းကြီးသည် ဓာတ်တော်တိုက်အတွင်း၌ သင့်လျော်ရုံမျှ ဓာတ်တော်အနည်းငယ်ကိုသာထားရစ်၍ ဓာတ်တော်များစွာကိုယူတော်

မူခဲ့၏။ လိုအပ်သမျှ ဓာတ်တော်တို့ကိုယူဆောင်ပြီးသော် ဓာတ်တော်တိုက်အိမ်ကို မူလလက်ရာမပျက်စေဘဲ ရှေးအခါက ပိတ်ဆို့ထားခဲ့သည့်အတိုင်း ပိတ်ဆို့ထားရှိခဲ့၏။ အလုံးစုံသောကိစ္စတို့ပြီးသောအခါ ဓာတ်တော်တိုက်အထက်၌ ကျောက်စေတီကြီးတစ်ဆူကို တည်တော်မူခဲ့၏။ ထိုဓာတ်တော်တို့ကို ဇမ္ဗူဒိပ်ကျွန်းရှိ ရှစ်သောင်းလေးထောင်သောမြို့တို့တွင် ဌာပနာ၍ ရှစ်သောင်းလေးထောင်သောစေတီများကို တည်ထားခဲ့လေသည်။

တစ်နေ့သောအခါ ဓမ္မာသောကမင်းကြီးသည် အသောကာရုံကျောင်းတော်သို့သွား၍ ရဟန်းတော်အရှင်တော်မြတ်တို့အား ရှိခိုးပြီးလျှင် 'အရှင်တို့ဘုရား၊ တပည့်တော်သည် ကိုးဆယ့်ခြောက်ကုဋေမျှသောဥစ္စာတို့ကို စွန့်လွှတ်လှူဒါန်းပြီး ရှစ်သောင်းလေးထောင်သောကျောင်းတို့ကို စေတီတော်တစ်ဆူစီနှင့်တကွ ဤဇမ္ဗူဒိပ်ကျွန်း၌ တည်ဆောက်ပြီးစီးခဲ့ပါပြီ။ အကျွန်ုပ်ကို သာသနာ့အမွေခံဟုဆိုထိုက်ပါပြီလော၊ ကျွန်ုပ်ကဲ့သို့သောပုဂ္ဂိုလ်မျိုးသည် သာသနာ့အမွေခံမထိုက်ခဲ့သော် မည်သို့သောသူသည် သာသနာ့အမွေခံဖြစ်ထိုက်ပါသနည်း'ဟု မေးလျှောက်၏။ 'မြတ်သောမင်းကြီး၊ သင်မင်းကြီးသည် သာသနာတော်၌ ပစ္စည်းလေးပါးတို့ကို လှူဒါန်းခဲ့သည် ဖြစ်၍ စတုပစ္စယဒါယကာ (ပစ္စည်းလေးပါးအလှူရှင်)သာမည်၏။ အကြင်သူသည် မိမိ၏သားကိုလည်းကောင်း၊ သမီးကိုလည်းကောင်း သာသနာတော်၌ ရဟန်းပြုစေမှသာ ထိုသူကို သာသနာ့အမွေခံထိုက်ပေ၏'ဟု ဆိုတော်မူကြ၏။ ဤသို့ မဟာထေရ်မြတ်မိန့်ဆိုသည်ရှိသော် ဓမ္မာသောကမင်းကြီးသည် သာသနာ့အမွေခံအဖြစ်ကိုတောင့်တတော်မူသည်ဖြစ်၍ မိမိ၏မနီးမဝေး၌ရပ်နေသော မဟိန္ဒမင်းသားကို 'ချစ်သား၊ သင်သည် ရှင်ရဟန်းပြုနိုင်ပါမည်လော'ဟုမေး၏။ မဟိန္ဒမင်းသားသည်လည်း ရဟန်းပြုလိုစိတ်ပြင်းပြနေရကား ဝမ်းသာအားရပင် 'အရှင်မင်းကြီး၊ ရဟန်းပြုပါအံ့၊ အကျွန်ုပ်ကို ရဟန်းပြု၍ သာသနာ့အမွေကို ခံယူတော်မူပါ'ဟုဆိုလေ၏။ ပြီးနောက် သံဃမိတ္တာ မင်းသမီးကိုလည်း 'ချစ်သမီး၊

သင်သည်လည်း ရဟန်းပြုခြင်းငှာ စွမ်းပါသလော’ဟုမေးပြန်ရာ ‘ခမည်း တော်မင်းကြီး၊ ကောင်းလှပါပြီ’ဟု ဝန်ခံကတိပြုလေသည်။

ဓမ္မာသောကမင်းကြီးသည် မိမိ၏သားသမီးတို့၏စိတ်ဆန္ဒကို သိရ၍ အလွန်ရွှင်လန်းဝမ်းမြောက်လျက် ရဟန်းတော်အရှင်သူမြတ်တို့ထံချဉ်းကပ် ကာ ‘အရှင်တို့ဘုရား၊ ဤသူငယ်တို့ကို ရှင်ရဟန်းပြုပေး၍ တပည့်တော်ကို သာသနာအမွေခံထိုက်အောင် ပြုပေးတော်မူကြပါကုန်’ဟုဆိုလေ၏။ သံဃာ တော်တို့လည်း မဟိန္ဒမင်းသားငယ်ကို အရှင်မဟာမောဂ္ဂလိပုတ္တတိဿ မထေရ်က ဥပဇ္ဈာယ်ဆရာ၊ အရှင်မဟာဒေဝမထေရ်က သရဏဂုံဆရာ အဖြစ်ယူတော်မူကြ၍ ရှင်သာမဏေပြုစေ၏။ ထို့နောက် မဇ္ဈန္တိကမထေရ်က ကမ္မဝါဆရာအဖြစ်ပြုကာ ရဟန်းအဖြစ်ကိုခံယူစေခဲ့၏။ ထိုမဟိန္ဒထေရ် သည် ရဟန်းခံရာ သိမ်တန်ဆောင်းအတွင်းမှာပင် ပဋိသမ္ဘိဒါမဂ်နှင့်တကွ ရဟန္တာအဖြစ်သို့ ရောက်တော်မူခဲ့၏။ သံဃမိတ္တာမင်းသမီးသည်လည်း အာယုပါလထေရီက ကမ္မဝါဆရာ၊ ဓမ္မပါလထေရီက ဥပဇ္ဈာယ်ဆရာပြု၍ ရဟန်းမိန်းမပြုလုပ်ပေးခဲ့၏။

ဓမ္မာသောကမင်းကြီးသည် သာသနာတော်၌ အရာမကများစွာသော ကုသိုလ်ကောင်းမှုတို့ဖြင့် ချီးမြှောက်ထောက်ပံ့လှူဒါန်းပူဇော်တော်မူခဲ့၏။ ထိုမှတစ်ဖန် သာသနာတော်သန့်စင်စေရန် အရှင်မဟာမောဂ္ဂလိပုတ္တတိဿ မထေရ်နှင့်တိုင်ပင်ပြီး ခြောက်သောင်းသော ဒုဿီလတိတ္ထိတို့ကို သာသနာ တော်အတွင်းမှ နှင်ထုတ်ခဲ့ပြီး တတိယသံဂါယနာကို တင်တော်မူခဲ့၏။ ထိုတတိယသံဂါယနာတင်ပွဲသို့ ကြွရောက်တော်မူကြသော ရဟန်းအရေ အတွက်မှာ‘အသီတိဘိက္ခုကောဋိယော’ ကုဋေရှစ်ဆယ်ရှိကြကုန်၏။ ထို ကုဋေရှစ်ဆယ်သော ရဟန်းတို့တွင် ခီဏာသဝါအာသဝေါကုန်ပြီးသော ရဟန္တာအရှင်မြတ်တို့အရေအတွက်မှာ တစ်သိန်းဖြစ်၏။ ထိုပြင် သံဂါယနာ တင်ပွဲ၌ ဘိက္ခုနီရဟန်းမိန်းမအရေအတွက်ကား နဝုတိသတသဟဿာနိ= ကိုးသန်းဖြစ်၏။ ထိုကိုးသန်းသော ရဟန်းမိန်းမဘိက္ခုနီတို့တွင် ရဟန္တာ

ရှင်မတို့ကား အပါးတစ်ထောင်ပါရှိ၏။ ဤကား ဓမ္မာသောကမင်းကြီး ဇမ္ဗူဒိပ်ကျွန်း၌ မင်းဖြစ်၍ ဘုရားသာသနာကို တင့်တယ်စေပုံအကျဉ်းမျှသာ ဖြစ်၏။ အကျယ်ကို မဟာဝင်(မဟာဝံသ)၌ ရှုကြည့်နိုင်၏။

ဆက်၍ လွန်လေပြီးသောအခါ ပျားရည်ကုန်သည်ညီနောင်တို့သုံးဦး တို့တွင် ပစ္စေကဗုဒ္ဓါအရှင်မြတ်အား သမုဒ္ဒရာတစ်ဖက်ကမ်းသို့ ပစ်လိုက်မည်ဟုဆိုသော အစ်ကိုအလတ်၏အကြောင်းကို ပြဆိုဦးမည်။ ထိုသို့ ပစ္စေကဗုဒ္ဓါအရှင်မြတ်ကို ပြစ်မှားမိသောစကားကြောင့် ထိုပျားရည်ကုန်သည် အလတ်ဖြစ်သူသည် သမုဒ္ဒရာတစ်ဖက်ကမ်း သီရိလင်္ကာကျွန်း၌ လူဖြစ်ခဲ့ရ၏။ ထိုသီရိလင်္ကာကျွန်း၌ မုဋသိဝမင်းသည် အနှစ်ခြောက်ဆယ် မင်းပြုခဲ့၏။ ထိုမင်းတွင် ဘုန်းပညာဂုဏ်တို့နှင့်ပြည့်စုံသော သားတော် ဆယ်ပါး၊ သမီးတော်နှစ်ပါးရှိခဲ့သည်။ ထိုသားတော်သမီးတော် ညီနောင်မောင်မယ်တို့သည် တစ်ဦးနှင့်တစ်ဦး အလွန်ချစ်ခင်ကြ၏။ မုဋသိဝမင်းနတ်ရွာစံသော် ဒုတိယမြောက်သားတော် ဒေဝါနံပိယတိဿမင်းသည် နန်းတက်လာခဲ့၏။ ထိုဒေဝါနံပိယတိဿမင်း၏ အဘိသိက်သွန်းလောင်းစဉ်အခါ အံ့ဖွယ်သရဲဖြစ်ပေါ်ပုံများကို မဟာဝံသကျမ်း၌ ဂါထာများစွာဖြင့် ပြဆိုထား၏။

ထိုသီရိလင်္ကာကျွန်းရှင် ဒေဝါနံပိယတိဿနှင့် ဇမ္ဗူဒိပ်ကျွန်းကြီးရှင် ဓမ္မာသောကမင်းတို့သည် တစ်ဦးနှင့်တစ်ဦးမမြင်ဖူးကြပါဘဲ အဆွေခင်ပွန်းဖြစ်နေကြ၏။ ထို့ကြောင့် ဒေဝါနံပိယတိဿမင်းသည် မိမိနိုင်ငံမှထွက်သော ထူးမြတ်သော ရတနာနှင့်လက်ဆောင်ပဏ္ဏာတို့ကို ငါ၏အဆွေထံ ပို့ကြကုန်ဟုဆိုပြီး ဓမ္မာသောကမင်းထံပို့ဆောင်စေခဲ့၏။ ထိုလက်ဆောင်တို့ကို မြင်၍ ဓမ္မာသောကမင်းကလည်း မင်းမြောက်တန်ဆာငါးပါးနှင့် လက်ဆောင်ပစ္စည်းများတို့ကို ဒေဝါနံပိယတိဿ၏ နန်းသိမ်းဘိသိက်ခံပွဲ၌ သုံးစွဲရန် ပို့ဆောင်စေခဲ့၏။

ထိုအခါက သီရိလင်္ကာကျွန်းနေ ဒေဝါနံပိယတိဿမင်းထံ ဓမ္မာ

သောကမင်းကြီးပို့သော လက်ဆောင်တို့တွင် ဓမ္မက္ခန္ဓာတရားတော်များကို ရွှေပေလွှာထက်ရေးသားပြီး ဓမ္မလက်ဆောင်အဖြစ် ထည့်သွင်းပေးပို့ခဲ့၏။ ထိုဓမ္မသဝဏ်တွင်–

* အဟံ ဗုဒ္ဓဉ္စ ဓမ္မဉ္စ၊ သံဃဉ္စ သရဏံ ဂတော။
ဥပါသကတ္တံ ဝေဒေသိံ၊ သကျပုတ္တဿ သာသနေ။
* ဣမေသု တီသု ဝတ္ထူသု၊ ဥတ္တမေသု နရုတ္တမ။
စိတ္တံ ပသာဒယိတွာန၊ သဒ္ဓါယ သရဏံ ဝဇ။ ။

အဟံ=ငါသည်။ ဗုဒ္ဓဉ္စ=မြတ်စွာဘုရားကိုလည်းကောင်း။ ဓမ္မဉ္စ=တရားတော်မြတ်ကိုလည်းကောင်း။ သံဃဉ္စ=သံဃာတော်မြတ်ကိုလည်းကောင်း။ သရဏံ=ကိုးကွယ်ခြင်းသို့။ ဂတော=ရောက်၏။ သကျပုတ္တဿ=သာကီဝင်မင်းသားမြတ်စွာဘုရား၏။ သာသနေ=သာသနာတော်၌။ ဥပါသကတ္တံ=ရတနာသုံးပါးကိုဆည်းကပ်မြတ်နိုးသော ဥပါသကာ၏အဖြစ်ကို။ ဝေဒေသိံ=သိစေရန်ပြောကြား၏။

နရုတ္တမ=မင်းမြတ်။ ဥတ္တမေသု=မြတ်ကုန်သော။ တီသု=သုံးပါးကုန်သော။ ဣမေသုဝတ္ထူသု=ဤရတနာသုံးရပ်တို့၌။ စိတ္တံ=စိတ်ကို။ ပသာဒယိတွာန=ကြည်ညိုစေ၍။ သဒ္ဓါယ=သဒ္ဓါတရားဖြင့်။ သရဏံ=ကိုးကွယ်ဆည်းကပ်ခြင်းသို့။ ဝဇ=ရောက်တော်မူပါလော့’ဟု ပါရှိလေ၏။

ဓမ္မာသောကမင်းစေသည့်အတိုင်း အမတ်တို့သည် ထိုလက်ဆောင်ပဏ္ဏာတို့နှင့်တကွ ဓမ္မာသဝဏ်ကို သီရိလင်္ကာကျွန်းသို့ ယူဆောင်သွားကြ၍ ဒေဝါနံပိယတိဿမင်းကို ဆက်သကာ အဘိသိက်သွန်းခဲ့ကြ၏။ ထိုစဉ်အခါ အရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်သည် အနာဂတ်ကာလ၌ အဘယ်အရပ်၌ သာသနာ ကောင်းစွာတည်မည်နည်းဟု စူးစမ်းဆင်ခြင်တော်မူရာ နှောင်သောအခါ မြတ်စွာဘုရားရှင်၏ အင်္ဂါကိုးတန်နှင့်ပြည့်စုံသော သာသနာတော်သည် ပစ္စန္တရစ်အရပ်တို့၌သာ ကောင်းစွာတည်လိမ့်

မည်ဟုသိတော်မူ၍ ထိုပစ္စန္တရစ်အရပ်ရပ်သို့ မထေရ်မြတ်တို့ကို စေလွှတ်ပြီး သာသနာတော် တည်စေခြင်းငှာ စောင့်ရှောက်တော်မူခဲ့၏။

ရှင်မဟာမဟိန္ဒမထေရ်မြတ်ကိုလည်း သီရိလင်္ကာကျွန်းသို့ သာသနာတည်စေရန် တာဝန်ပေး၍စေလွှတ်တော်မူခဲ့၏။ ထိုအခါ သိကြားမင်းသည် ရှင်မဟာမဟိန္ဒထံသို့ချဉ်းကပ်ပြီး 'အရှင်ဘုရား၊ မုဋသိဝမင်းသည် နတ်ရွာစံခဲ့လေပြီ၊ ယခုအခါ ဒေဝါနံပိယတိဿမင်းသည် မင်းပြုနေတော်မူပါ၏။ မြတ်စွာဘုရားရှင် သက်တော်ထင်ရှားရှိတော်မူစဉ်အခါက နောင်အနာဂတ်ကာလ၌ မဟိန္ဒမည်သောရဟန်းသည် သီရိလင်္ကာကျွန်းသူကျွန်းသားတို့ကို သာသနာတော်၌ ကြည်ညိုစေလတ္တံ့'ဟု ဗျာဒိတ်ကြားတော်မူခဲ့ပါ၏။ ထို့ကြောင့် အရှင်ဘုရားသည် သီရိလင်္ကာကျွန်းသို့ကြွတော်မူရန် အချိန်တန်ပါပြီ။ အကျွန်ုပ်သည်လည်း အရှင့်ကိုစောင့်ရှောက်ရန် တစ်ပါတည်းလိုက်ပါခဲ့ပါမည်'ဟုဝန်ခံစကားဆိုပြီး ရှင်မဟာမဟိန္ဒနှင့်အတူ စေတိယ**တ**ပဗ္ဗတကျောင်းမှ ကောင်းကင်ခရီးဖြင့် သီရိလင်္ကာကျွန်းသို့ သာသနာပြုရန် ကြွတော်မူခဲ့ကြ၏။

အရှင်မဟာမဟိန္ဒနှင့်အဖွဲ့ဝင်များသည် သီရိလင်္ကာကျွန်း၏အရှေ့မျက်နှာ၌တည်ရှိသော မိဿကတောင်(ယခုစေတိယတောင် ခေါ် မဟိန္ဒလေတောင်)၌ ဆင်းသက်တော်မူခဲ့ကြ၏။ ထိုအချိန်သည် သီရိလင်္ကာကျွန်းတွင် တောင်ထိပ်ပွဲသဘင် ဆင်ယင်ကျင်းပနေသောအချိန်အခါဖြစ်၏။ ဒေဝါနံပိယတိဿမင်းသည်ပွဲတော်ကို အမတ်တို့နှင့်လွှဲအပ်ထားပြီး ကိုယ်တော်တိုင်မှ လေးသောင်းသော မင်းချင်းတို့ကိုခြံရံကာ မိဿကတောင်သို့ သမင်ဖမ်းရန် ထွက်ခဲ့၏။ ထိုမိဿကတောင်ကိုအစိုးရသော တောင်စောင့်နတ်သည် ရွှေသမင်အသွင်ဖြင့် မင်း၏အနီး၌ မြက်သစ်ရွက်စားသကဲ့သို့ သွားလာနေ၏။ မင်းသည် ထိုရွှေသမင်ကိုမြင်လျှင် ဤသမင်သည် အစာစားနေဆဲအခါဖြစ်၍ ပစ်ရန်မသင့်။ အစာစားပြီး၍ သမင်ပြေးမှသာလျှင် ပစ်မည်ဟူ၍စောင့်ဆိုင်းနေခဲ့၏။ သမင်ပြေးလွှားစေရန် ခြောက်လှန့်ကြရာ

သမင်သည် အမ္ဗတ္ထလကုန်းဘက်သို့ပြေးလေ၏။ မင်းလည်း သမင်နောက်သို့ ထက်ကြပ်မကွာလိုက်ခဲ့ရာ အမ္ဗလတ္ထလကုန်းသို့ရောက်သွား၏။ ထိုကုန်း ပေါ်သို့တက်သောအခါ ရှင်မဟာမဟိန္ဒ၏အနီးသို့ရောက်ရှိသွားလေသည်။ ရှင်မဟာမဟိန္ဒသည် ဒေဝါနံပိယတိဿ မင်းကြီးကိုမြင်လိုက်လျှင် 'မင်းကြီး တစ်ပါးတည်းသာ ငါ့ကိုမြင်စေသတည်း၊ မင်းကြီးမှတစ်ပါး အခြားမင်းချင်း ရွေရံတို့ မတွေ့ကြစေသတည်း'ဟု အဓိဋ္ဌာန်တော်မူခဲ့သည်။

ထို့နောက် အရှင်မဟာမဟိန္ဒသည် မင်းကြီးကိုလှမ်း၍ 'အို တိဿ၊ ဒီကိုလာလော့'ဟုခေါ်လိုက်၏။ မင်းကြီးက ဤသီရိလင်္ကာတစ်ကျွန်းလုံး တွင် တိဿဟူ၍ ငါ၏ယေအမည်ကိုခေါ်ဝံ့သူမရှိ၊ မည်သူခေါ်ပါလိမ့်ဟု ရှာဖွေရာ ရှင်မဟာမဟိန္ဒကိုမြင်လျှင် ဤသူကား ဆံပင်ရိတ်ပယ်ပြီး ဖန်ရည် ဆိုးထားသော သင်္ကန်းကိုဝတ်ရုံထား၏။ လူလောနတ်လောဟု တွေးတော စဉ်းစားနေ၏။ ထိုအခါ မထေရ်မြတ်က 'မြတ်သောမင်းကြီး၊ ငါသည် မြတ်စွာဘုရား၏တပည့်သားသမဏရဟန်းတော်ပါတည်း။ သင်မင်းမြတ် ကို ချီးမြှောက်လို၍ ဇမ္ဗူဒိပ်ကျွန်းမှ ဤသီရိလင်္ကာကျွန်းသို့ကြွလာခဲ့ခြင်း ဖြစ်၏'ဟု မိန့်ကြားတော်မူလေသည်။

ထိုအခါမှဒေဝါနံပိယတိဿမင်းသည် မိမိ၏မိတ်ဆွေ ဓမ္မာသောက မင်းကြီးပေးပို့ခဲ့သော ဓမ္မစာသဝဏ်ကို အမှတ်သတိရပြီး 'သြော်–ဆရာတော် တို့ လာကြကုန်သလော'ဟုဆိုကာ လက်၌စွဲကိုင်လာသောလေးကို အသာ ချ၍ နှစ်သက်ဖွယ်သောစကားတို့ကိုပြောဆိုကာ နှုတ်ဆက်လေသည်။ ထိုအခါတွင် တိဿမင်းကို မင်းချင်းလေးသောင်းတို့က ခြံရံထားကြ၏။ မထေရ်မြတ်သည်လည်း မိမိနှင့်အတူကြွလာသူတို့ကိုခေါ်၍ ပြပေ၏။ ဒေဝါနံပိယတိဿမင်းက ထိုသူမြတ်တို့ကို 'အရှင်ဘုရားတို့ ဘယ်အခါက ကြွလာခဲ့ပါသနည်း'ဟု မေးလေရာ'မြတ်သောမင်းကြီး၊ ငါနှင့်အတူတကွ လာကြ၏'ဟု အရှင်မဟာမဟိန္ဒထေရ်မြတ်က မိန့်ဆိုလေ၏။ မင်းကြီးက 'ယခုအခါဇမ္ဗူဒိပ်ကျွန်း၌ ရဟန်းသံဃာတော်တို့များပါသလော'ဟုမေး

လျှောက်ရာ 'မြတ်သောမင်းကြီး၊ ယခုအခါ ဇမ္ဗူဒိပ်ကျွန်း၌ သက်န်းရောင်တို့ တောက်ပကာ ရဟန္တာတို့၏ သင်္ကန်းဝတ်ခြင်းရှိခြင်းတို့ကြောင့်ဖြစ်သောဇလေသည် တစ်တိုင်းပြည်လုံး၌ လှိုင်နေ၏'ဟု မိန့်ဆိုတော်မူ၏။

ဒေဝါနံပိယတိဿမင်းသည် ထိုစကားကိုကြား၍ ကြည်ညိုနှစ်သက်ခြင်းဖြစ်တော်မူ၏။ ထိုအခါ မထေရ်မြတ်သည် သစ်ပင်၏ဥပမာစသည်ဖြင့် မေး၍ ထိုမင်း၏ပညာထက်မြက်ပုံကိုသိတော်မူခဲ့၏။ အရှင်မဟာမဟိန္ဒမထေရ်သည် စူဠဟတ္ထိပဒေါပမသုတ္တန်တရားတော်ကို ဟောကြားတော်မူရာ ထိုဒေသနာ၏အဆုံး၌ ဒေဝါနံပိယတိဿမင်းသည် သရဏဂုံ၌တည်ခဲ့လေသည်။

ဒေဝါနံပိယတိဿမင်းသည် အရှင်မဟာမဟိန္ဒမထေရ်အား 'အရှင်ဘုရား၊ မနက်ဖြန် တပည့်တော်၏နန်းတော်၌ ဆွမ်းခံယူတော်မူပါ'ဟု ဖိတ်မန္တကပြုပြီး ပြန်သွား၏။ မြို့ကိုလည်းကောင်း၊ နန်းတော်ကိုလည်းကောင်း တန်ဆာဆင်ထားပြီး မဟာထေရ်မြတ်ကြွလာတော်မူလျှင် မွန်မြတ်သောနေရာ၌တည်ထားကာ ဆွမ်းဘောဇဉ်အာဟာရတို့ကို ပြုစုလုပ်ကျွေး၏။ အနုလာဒေဝီအမှူးရှိသော ငါးရာသောမင်းမိဖုရား မိန်းမတို့သည်လည်း သင့်တင့်ရာ၌နေကြ၏။ မထေရ်မြတ်သည် တရားတော်တည်းဟူသော မိုးကိုရွာစေ၏။ ထိုအခါ မင်းမိန်းမငါးရာသည် သောတာပတ္တိဖိုလ်၌ တည်ကြလေ၏။ ထို့နောက် ဆင်တင်းကုပ်၌ တရားဟောလေရာ လူပေါင်းတစ်ထောင်၊ နန္ဒဝန်ဥယျာဉ်၌တရားဟောလေရာ လူပေါင်းတစ်ထောင် သောတာပတ္တိဖိုလ်၌တည်ကြကုန်၏။ ဒုတိယနေ့တွင် မထေရ်မြတ် တရားဟောကြားတော်မူလျှင် လူနှစ်ထောင့်ငါးရာတို့ သောတာပတ္တိဖိုလ်၌ တည်ကြကုန်၏။ တတိယနေ့၌ ရှစ်ထောင့်ငါးရာသောလူတို့သည် သောတာပတ္တိဖိုလ်၌ တည်ကြကုန်၏။

ထိုအခါ ဒေဝါနံပိယတိဿမင်းသည် ဓမ္မာသောကမင်း၏ထံတော်မှ မြတ်စွာဘုရားရှင်သုံးဆောင်တော်မူသော သပိတ်တော်နှင့်အပြည့် ဓာတ်

တော်များ၊ သိကြားမင်းထံမှ လက်ယာညှပ်ရိုးတော်တို့ကို သုမနသာမဏေကို ဆောင်စေပြီး သီရိလင်္ကာကျွန်းရှိ စေတိယတောင်၌ ဌာပနာ၍ စေတီတော်ကို တည်တော်မူခဲ့၏။ ထိုစေတီတော်သည် သီရိလင်္ကာကျွန်း၌ စဦးဆုံးတည်ခဲ့သော စေတီတော်ဖြစ်ပြီး၊ သီရိလင်္ကာကျွန်း၌ တစ်ယူဇနာအကွာတိုင်းမှာ စေတီတော်တစ်ဆူစီတည်ထားခဲ့၏။ လက်ယာညှပ်ရိုးတော်ကို ဌာပနာ၍ ထူပါရာမစေတီတော်ကြီးကိုလည်း တည်ထားခဲ့၏။ ထို့နောက် သင်္ဃမိတ္တာထေရီပင့်ဆောင်လာသော မဟာဗောဓိပင်မှ ဒက္ခိဏသာခါတောင်ကိုင်းကိုလည်း စိုက်ပျိုးထားခဲ့၏။ သီရိလင်္ကာကျွန်းရှင် ဒေဝါနံပိယတိဿမင်း၏ဝတ္ထုအကျယ်ကို မဟာဝံသကျမ်း၌ ဖော်ပြထားပေသည်။

ပျားရည်ရောင်းသော ကုန်သည်ညီနောင်သုံးဦးတို့၏ဝတ္ထုကို အကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'ကောင်းမှုကံမှသာမဟုတ် မကောင်းမှုကံသည်လည်း အကျိုးကိုဖြစ်စေ၏။ ထိုသဘောကိုသိသော သူတော်ကောင်းတို့သည် ကောင်းမှုကိုသာပြုကြပါကုန်လော့။ သင် သူတော်ကောင်းတို့သည် စိုးရိမ်ကြောင့်ကြမှုမှကင်းသောအရပ်သို့ ရောက်ရှိကြစေရန် အလို့ငှာ ကုသိုလ်ကောင်းမှုကို ပြုကြပါကုန်'ဟု တိုက်တွန်းထားခဲ့ကြသည်။



## မြင်းပျံရှင်မင်းသမီး

[ ၃၉။ ဗောဓိရာဇမိတုဝတ္ထု ]

ဂေါတမမြတ်စွာဘုရားရှင် ပရိနိဗ္ဗာန်စံဝင်တော်မူပြီးနောက် သီရိလင်္ကာကျွန်း၌ ဟကုရေဠိအမည်ရှိသော ရွာကလေးတစ်ရွာရှိခဲ့၏။ ထိုရွာကလေးတွင်နေထိုင်လျက်ရှိသော ရွာသူမိန်းကလေးတစ်ဦးသည် ကျက်သရေအပေါင်းနှင့် ပြည့်စုံ၍ နူးညံ့သိမ်မွေ့သောစိတ်နှလုံးရှိသူဖြစ်သည်။ ရတနာသုံးပါး၌လည်း ကြည်ညိုလေးမြတ်သူလည်းဖြစ်၏။

ထိုမိန်းကလေးသည် မိမိ၏အဖော်များနှင့်အတူ ရွာအနီးရှိ ထုံးအိုင်ကြီးအနား၌ ကစားနေလေ့ရှိ၏။ ထိုထုံးအိုင်ကြီး၏တစ်ဖက်တွင် ပျဉ်းမပင်ကြီးတစ်ပင်တည်ရှိပြီး ထိုပျဉ်းမပင်ကြီးသည် အရင်းမှအဖျားတိုင် ပင်လုံးကျွတ် ပန်းများအစဉ်ဖူးပွင့်လျက်ရှိသည်။ ဟကုရေဠိရွာသူရွာသားတို့သည် ထိုပျဉ်းမပင်ကြီးမှ ပန်းပွင့်ပန်းခိုင်ပန်းခက်တို့ကိုခူး၍ ဘုရားပန်းပူဇော်တင်လှူလေ့ရှိ၏။ သို့ရာတွင် ရွာသူရွာသားများသည် ပန်းခူးရန်အတွက် ထုံးအိုင်အတွင်းဆင်းသက်ဖြတ်ကျော်ပြီးမှ ပျဉ်းမပင်ပေါ်သို့တက်၍ ပန်းခူးကြရ၏။ ထိုရွာသူမိန်းကလေးသည် ထိုမြင်ကွင်းကိုတွေ့မြင်ရလျှင် ရွာသူရွာသားအပေါင်း ချမ်းသာလွယ်ကူစွာ ပန်းခူးကြပါစေဟု တောင်ကသစ်ကိုင်းကြီးတစ်ကိုင်းကို တစ်နေရာမှ အပန်းတကြီးသယ်ဆောင်လာပြီး ထုံးအိုင်ကိုဖြတ်၍ ပျဉ်းမပင်အရင်းသို့ရောက်အောင် တံတားထိုးပေးထားခဲ့၏။ ထိုအခါမှစ၍ ဟကုရေဠိရွာသားများသည် ထိုသူငယ်မခင်းထားသော ထိုတောင်ကသစ်ကိုင်းတံတားကို ကျော်ဖြတ်ပြီး ပျဉ်းမပင်ကြီးပေါ်မှ ပန်းတို့ကို သက်သာလွယ်ကူစွာ ခူးယူခဲ့ကြရသည်။

ထိုဟာကုရေဠိရွာသူမိန်းကလေးသည် ထိုဘဝမှသေလွန်သောအခါ ထိုပြုခဲ့သောကုသိုလ်ကံကြောင့် ဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ ပါဋလိပုတ်မြို့၌ သောမဒတ္တမင်း၏သမီးတော်ကလေးဖြစ်ခဲ့ရ၏။ မြတ်သောအဆင်းနှင့် ပြည့်စုံပြီး နတ်သမီးအလား ချောမွေ့လှပသောကြောင့် မိဘတို့က 'ဗောဓိ ရာဇဓီတု'(ဗောဓိမင်းသမီး)ဟုခေါ်ဝေါ်ခဲ့ကြ၏။ ထိုဗောဓိမင်းသမီးသည် ရှေးဘဝကပြုခဲ့သော တောင်ကသစ်တုံးတံတားလှူခြင်းကုသိုလ်ကောင်းမှု ကြောင့် ယခုဘဝ၌ ကောင်းကင်၌သွားလာနိုင်သော သုဝိရကအမည်ရှိ သိန္ဓော မြင်းကို ပိုင်ဆိုင်ခဲ့လေသည်။

ထိုဗောဓိမင်းသမီး၏ခမည်းတော် သောမဒတ္တမင်းကြီးသည် ရတနာသုံးပါး၌ မြတ်နိုးပြီး ကုသိုလ်ကောင်းမှုကို တိုးပွားအောင် ရွက်ဆောင်နေသော ဗုဒ္ဓဥပါသကာမင်းတစ်ပါးဖြစ်၏။ ထိုသောမဒတ္တ မင်းကြီးသည် သုဝိရကသိန္ဓောမြင်းရောက်ရှိသည့်အချိန်မှစ၍ ထိုသိန္ဓော မြင်းကိုစီးနင်းပြီး မြတ်စွာဘုရားပွင့်တော်မူရာ မဟာဗောဓိပင်သို့ တစ်နေ့ လျှင် သုံးကြိမ်သွား၍ မဟာဗောဓိပင်ကိုရှိခိုးလေ့ရှိသည်။ ဗောဓိမင်းသမီး သည် နေ့စဉ်သုံးကြိမ် သိန္ဓောမြင်းစီး၍ အပြင်သို့သွားနေသောခမည်းတော် ကို တွေ့မြင်ရဖန်များသောအခါ ခမည်းတော်ကြွရာအရပ်ကိုသိလို၍ ခမည်း တော်မင်းကြီးထံ ချဉ်းကပ်ပြီး 'အဘယ်အရပ်သို့ သွားနေပါသနည်း' ဟု မေးခဲ့၏။ ခမည်းတော်သည် မင်းသမီး၏အမေးကိုအဖြေမပေးဘဲ စကားကို ရှောင်လွှဲကာပြောဆိုခဲ့၏။ ဗောဓိမင်းသမီးကလည်း မိမိသိလိုသည်ကို ထပ်ကာထပ်ကာမေးမြန်း၏။ နောက်ဆုံး၌ သောမဒတ္တမင်းကြီးသည် ရှောင်လွှဲ ဖုံးကွယ်ခြင်းငှာ မတတ်သာသည့်အတွက် အောက်ပါအတိုင်းပြောကြားရ လေသည်။

'ချစ်သမီး၊ ငါတို့၏မြတ်စွာဘုရားသခင်သည် ဆယ်ပါးသော ပါရမီ တို့ကို ရှေးဦးစွာ ဖြည့်ကျင့်တော်မူလျက် ဦးခေါင်းတော်,မျက်လုံးတော်, အသွေး,အသား,အသက်,ဇနီးမယား,သမီးသား,တိုင်းပြည်နှင့်တကွ စည်းစိမ်

ဥစ္စာတို့ကို စွန့်လွှတ်လှူဒါန်းတော်မူခဲ့ပေသည်။ ထိုသို့လှူပြီး၍ ပါရမီအထွတ်အထိပ်သို့အရောက် ကမ္ဘာအသချေ်တို့ကိုလွန်စေပြီး ကပိလဝတ်ပြည် သာကီဝင်မင်းမျိုး၌ ဖွားမြင်တော်မူခဲ့၏။ အရွယ်သို့ရောက်သော် သူအို, သူနာ, သူသေ, ရဟန်းဟုဆိုအပ်သော လေးပါးနိမိတ်ကို မြင်တော်မူ၍ စကြဝတေးမင်းအဖြစ်ကိုစွန့်ပယ်ကာ အလွန်မြတ်သောတောထွက်ခြင်းကို ပြုတော်မူခဲ့၏။ ထို့နောက် ဗောဓိပင်ရင်း ဝဇိရာသနပလ္လင်ထက်၌ စံနေတော်မူခိုက် လက်ရုံးတစ်ထောင်ကို ဖန်ဆင်းပြီး အထူးထူးသော လက်နက်တို့စွဲကိုင်ကာ ကြောက်မက်ဖွယ်အသွင်ကိုဆောင်သော မာရ်နတ်မင်းသည် မည်းနက်သော ကာဠပဗ္ဗတတောင်၏ အဆင်းနှင့်တူသော ဂိရိမေခလာဆင်ကိုစီးလျက် စစ်သည်ဗိုလ်ပါအခြံအရံများစွာဖြင့် စစ်ထိုးလာသည်ကို ပါရမီတော်တို့၏အစွမ်းဖြင့် အနိုင်ယူတော်မူခဲ့၏။ ထိုမာရ်နတ်မင်းနှင့်မာရ်စစ်သည်တို့အရှုံးကြီးရှုံး၍ ထွက်ပြေးသွားကြသောအခါ ထိုဗောဓိမဏ္ဍိုင်၌ ငါတို့၏မြတ်စွာဘုရားသခင်သည် တစ်ထောင့်ငါးရာကိလေသာကို ပယ်သတ်တော်မူနိုင်ခဲ့လေသည်။ မြတ်စွာဘုရားရှင်ကိုယ်တော်တိုင် မမှိတ်သောမျက်စိဖြင့် ခုနစ်ရက်တာကာလပတ်လုံး မဟာဗောဓိပင်ကို ရှုကြည့်တော်မူခဲ့သည်။ ထိုသို့မာရ်စစ်သည်တို့နှင့် ကိလေသာရန်ခပင်းကို နှိမ်နင်းအောင်မြင်တော်မူခဲ့ရာ ထိုမဟာဗောဓိပင်ကို လူနတ်ဗြဟ္မာ, ဝိဇ္ဇာဓိုရ် နဂါးတို့ အစဉ်သွားရောက်၍ ပူဇော်ကြကုန်၏။ ငါသည်လည်း ထိုမာရ်ငါးပါးကို အောင်တော်မူရာ မဟာဗောဓိပင်ရှိရာအရပ်သို့ အမြဲသွား၍ ပူဇော်နေခဲ့ပါ၏။

'ချစ်သမီး၊ အကြင်သူသည် မဟာဗောဓိပင်ကို အစဉ်သွား၍ နံ့သာ, ရေ, ဆီမီး, အခိုးအထုံ အထူးထူးသော ပူဇော်ဖွယ်တို့ဖြင့် ပူဇော်ပါမူ ထိုသူသည် မျက်မှောက်တမလွန်၌ အနာရောဂါကင်း၏။ သူတစ်ပါးတို့၏ ပူဇော်ခြင်းကိုခံယူရ၏။ သူတစ်ပါးတို့၏ မြတ်နိုးခြင်းကိုလည်း ခံယူရတတ်၏။ အသက်ရှည်၍ ခွန်အားဗလနှင့် ပြည့်စုံချမ်းသာခြင်းကို ရတတ်၏။

ထိုအကျိုးကျေးဇူးတို့ကို တောင့်တသောသတ္တဝါတို့သည် သဒ္ဓါတရားဖြင့် ထိုဗောဓိပင်ရှိရာအရပ်သို့ ဆည်းကပ်ကြရာ၏'ဟူ၍ အကျယ်တဝင့်ပြော ဆိုပြီး ဖြေကြားခဲ့လေ၏။

သောမဒတ္တမင်းကြီး၏စကားကိုကြားရသောအခါ ဗောဓိမင်းသမီး သည် တစ်ကိုယ်လုံးပီတိဖြစ်လျက် ခမည်းတော်မင်းကြီးကို ရှိခိုးပြီး 'ခမည်း တော်၊ ဗောဓိပင်တည်ရှိရာအရပ်သို့ ခမည်းတော် နောက်တစ်ကြိမ်သွားပါမူ ကျွန်ုပ်ကိုလည်း ခေါ်ယူ၍သွားပါ'ဟုပန်ကြားခဲ့လေ၏။ ခမည်းတော် မင်းကြီးက လမ်းခရီး၌ ဘေးအန္တရာယ်များစွာရှိ၍ သမီးတော်ကို မလိုက် လိုပါနှင့်ဟုတားမြစ်တော်မူရာ ဗောဓိမင်းသမီးက သုံးကြိမ်တိုင်အောင် အသနားခံပြီး လိုက်ခွင့်ရအောင် တောင်းခံခဲ့လေသည်။ စိတ်ဓာတ် ထက်သန်မြဲမြံလှသော ဗောဓိမင်းသမီး၏ဆန္ဒကို တားမြစ်ရန်မစွမ်းသာ သည့်အတွက် သောမဒတ္တမင်းကြီးသည် နောက်တစ်ကြိမ် ဗောဓိမဏ္ဍိုင် အရပ်သို့သွားလျှင် သမီးတော်ဗောဓိမင်းသမီးကိုပါ မိမိနှင့်အတူခေါ်သွား မည်ဟုကတိပြုလိုက်ရ၏။ ထို့နောက် သားအဖနှစ်ဦး မဟာဗောဓိပင်ရှိရာ သို့သွား၍ ပူဇော်သမှုပြုခဲ့ကြ၏။

ကာလမြင့်ရှည်ကြာလေသောအခါ သောမဒတ္တမင်းကြီးသည် သက် တော်ရွယ်တော်ကြီးရင့်လာပြီး အိပ်ရာထက်၌ လဲလျောင်းခဲ့ရရှာလေသည်။ ထိုအခါ၌ သောမဒတ္တမင်းကြီးက 'ငါ၏သမီးတော်သည် မဟာဗောဓိပင်သို့ ဆည်းကပ်ရန် အမြဲသွားလေ့ရှိ၏။ ထိုသို့သွားနေသော သမီးတော်၌ ဘေးအန္တရာယ်ဖြစ်သည်ရှိသော် ကူညီစောင့်ရှောက်နိုင်သော ခွန်အားဗလ ငါ့မှာမရှိ။ သို့ဖြစ်၍ သုဝီရကသိန္ဓောမြင်းနှင့် တိုင်ပင်မှသင့်မည်'ဟု အကြံရပြီး သိန္ဓောမြင်းကိုခေါ်ကာ 'ချစ်သား၊ ငါ၏သမီးတော်သည် ဗောဓိပင်ရှိရာအရပ်သို့ မပြတ်သွား၏။ သင်သည် သမီးတော်ကို ဘေး အန္တရာယ်မကြုံတွေ့စေရန် စောင့်ရှောက်ကာကွယ်ပါ'ဟု မှာကြားအပ်နှံ တော်မူခဲ့၏။ ထို့နောက် မကြာမီမှာပင် သောမဒတ္တမင်းကြီး သေလွန်

ခဲ့လေသည်။ ဖောဓိမင်းသမီးသည် ခမည်းတော်မရှိသည့်နောက်၌ သိန္ဓောမြင်းကိုစီး၍ တစ်နေ့သုံးကြိမ် ဖောဓိပင်ကို ဆည်းကပ်မြဲဆည်းကပ်နေခဲ့သည်။

ဖောဓိမင်းသမီးတစ်ဦးတည်း သိန္ဓောမြင်းကိုစီးကာ ကောင်းကင်ထက်မှ မဟာဖောဓိပင်သို့လာ၍ဖူးမြော်သည်ကို ထိုမဟာဖောဓိမဏ္ဍိုင်အရပ်၏အနီးရှိ ကျေးတောရွာနေ လူအပေါင်းတို့တွေ့ကြသောအခါ မိမိတို့၏တောအရပ်မှ ထွက်သောလက်ဆောင်ပဏ္ဏာတို့ကိုယူကြပြီး 'ငါတို့မင်းကြီးထံသွား၍ ဤမြင်းပျံရှင်မင်းသမီးအကြောင်းကို ပြောပြလျှင် မင်းကြီးသည် ငါတို့အား နန်းတွင်းအသုံးအဆောင်ပစ္စည်းတစ်စုံတစ်ခုကို ပြန်လည်၍ ချီးမြှောက်ပေးလိမ့်မည်'ဟု တိုင်ပင်ကြပြီး မင်းကြီးထံသွား၍ ဖောဓိမင်းသမီး အကြောင်းကို ပြောပြကြ၏။ ထိုမင်းသည်လည်း ဖောဓိမင်းသမီးကို လူကိုယ်တိုင်မမြင်ဖူးဘဲ တောသူတောင်သားတို့၏ပြောပြချက်အရ ဖောဓိမင်းသမီး၏ရှင်ကြည်သောအပြုံး၊ ချိုသာသောစကားသံ၊ တင့်တယ်သောအသွင်အပြင်၊ ကျစ်လျစ်ပြေပြစ် တပ်မက်နှစ်သက်ဖွယ်ကောင်းသောလုံးရပ်သဏ္ဌာန်စသည်တို့ကို မျက်စိ၌မြင်ယောင်ကာ သဝဏသံသဂ္ဂ–နားအကြားဖြင့် တပ်မက်နှစ်သက်သောရာဂ ဖြစ်ပေါ်လာပြီး စစ်သည်ဗိုလ်ပါအခြံအရံများစွာတို့ကိုခေါ်ယူပြီး မဟာဖောဓိပင်ရှိရာသို့ ထွက်လာခဲ့ကြ၏။

ထိုစဉ် ဖောဓိမင်းသမီးသည် မဟာဖောဓိပင်ကိုဖူးရန် ရောက်ရှိလာခဲ့၏။ ဖောဓိပင်တည်ရာ တံတိုင်းအပြင်ပတ်လည်မှနေ၍ 'ဖမ်းကြ၊ ဆီးကြ'ဟု ဆူညံသောအသံတို့ထွက်ပေါ်လာပြီး စစ်သည်ဗိုလ်ပါတို့က မင်းသမီးကိုဖမ်းယူရန် အားထုတ်ကြသည်။ ဖောဓိမင်းသမီးသည် သိန္ဓောမြင်းထက်သို့ လျင်စွာတက်ကာ ကောင်းကင်သို့ အမြန်တက်ပြေးရန် အချက်ပေးလိုက်လေ၏။ ဖောဓိမင်းသမီးသည် မြင်းပေါ်၌ ကောင်းစွာမထိုင်မိမီ သိန္ဓောမြင်းထက်ကောင်းကင်သို့ ပျံတက်သည့်အရှိန်ကြောင့်

မြင်းပေါ်မှလိမ့်ကျရှာလေသည်။ သိန္ဓောမြင်းသည် ဗောဓိမင်းသမီး ကျသည်ကိုသိလျှင်သိချင်း သောမဒတ္တမင်းကြီး၏ မှာကြားခဲ့သောစကားကို ကြားယောင်မိကာ လျင်သောအဟုန်ဖြင့် ဗောဓိမင်းသမီးကို မိမိ၏ကျောထက်သို့ ပြန်၍တင်ဆောင်ခဲ့လေသည်။ ထို့နောက် ပါဋလိပုတ်မြို့သို့ ပို့ဆောင်ခဲ့လေသည်။ တိရစ္ဆာန်ပင်ဖြစ်သော်လည်း သူ့ကျေးဇူးကို သိတတ်လှပေ၏။ တိရစ္ဆာန်ထက်မြတ်သော လူတို့မှုကား အဘယ်ဆိုဖွယ်ရှိတော့အံ့နည်း။

ဤဗောဓိမင်းသမီး၏ဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'သင်သူတော်ကောင်းတို့သည် မြတ်စွာဘုရားကိုယ်တော်တိုင် မမိုတ်သောမျက်စိဖြင့်ရှုကြည့်၍ ပူဇော်အပ်သော၊ သစ်ပင်တကာတို့ထက်မြတ်သော ထိုမဟာဗောဓိပင်ကို ပူဇော်ခြင်းဖြင့် ဆင်းရဲမှုအဖြာဖြာတို့မှ ကင်းငြိမ်း၍ ပညာရှိသူတော်စင်၏ချီးမွမ်းခြင်းကို ခံယူကြရာ၏'ဟု မှာကြားခဲ့ကြ၏။



## ဘဝခြားသော်လည်းကျေးဇူးကိုမမေ့သူ

[၄၀။ ကုဏ္ဍလိဝတ္ထု]

သီရိလင်္ကာကျွန်း ရောဟဏဇနပုဒ်၏တောင်ပိုင်း၌ မဟာဂါမ အမည်ရှိသော ရွာကြီးတစ်ရွာရှိခဲ့၏။ ထိုမဟာဂါမရွာ၌ ရဟန်းသံဃာတော် များစွာတို့ သီတင်းသုံးနေတော်မူကြသော တိဿဝိဟာရ ကျောင်းတိုက်ကြီး တည်ရှိပြီး၊ ထိုကျောင်းတိုက်ကြီးတွင် တိဿဘွဲ့အမည်ရှိသော သာမဏေ တစ်ပါး သီတင်းသုံးနေခဲ့သည်။

တစ်နေ့သော် ထိုတိဿသာမဏေသည် ပါသာဏဝါပီခေါ် ကျောက် ရေကန်ရွာသို့ ဆွမ်းအလို့ငှာ ကြွတော်မူရာ မျှတလောက်သောဆွမ်းနှင့် ထောပတ်ကို အလှူခံရရှိခဲ့၍ ဆွမ်းဘုဉ်းပေးရန် ရွာအပြင်သို့ ထွက်ခဲ့သည်။ ရွာတံခါးဝသို့ရောက်သော် ဆွမ်းဘုဉ်းပေးရန် ရေလိုအပ်သဖြင့် ရေရှိရာ အရပ်ကိုမေးရာ ရွာသားတို့က 'အရှင်ဘုရား၊ ရှေ့တည့်တည့်အရပ်သို့ ဆက်၍ကြွသွားပါက အလှမ်းမဝေးလှသောအရပ်တွင် ကကုဗန္ဒချောင်း တည်ပါရှိ၏။ ထိုချောင်းအတွင်း အေးမြသောရေသည် တသွင်သွင်စီးဆင်း နေပြီး ချောင်းအစပ်တွင် ညီညာပြေပြစ်သဲပြင်လည်းရှိနေပါသည်။ ထိုအရပ် ၌ အရှင်ဘုရားသည် ရေသုံးသပ်ပြီး ဆွမ်းဘုဉ်းပေးခြင်းကိစ္စကိုပြုနိုင်ပါသည် ဘုရား' ဟု လျှောက်ထားကြလေသည်။ ထိုအခါ တိဿသာမဏေလည်း 'ကောင်းပြီ' ဟုဆို၍ ထိုကကုဗန္ဒချောင်းတည်ရှိရာအရပ်သို့ ရှေးရှုပြီး ကြွသွားတော်မူလေသည်။

ထိုကကုဗန္ဓချောင်းသို့ရောက်လျှင် ထိုအရပ်၌ ဆွမ်းစားအုံ့ဟု ပြင်တော်မူသည်။ ထိုစဉ်အခါ တောလိုက်မုဆိုးတစ်ဦးမွေးထားသော ခွေးမလေးတစ်ကောင်သည် ထိုချောင်းအနီးရှိ တောင်ကြားမှာပင် ခွေးသားကလေးများကို မီးဖွားပြီး အစားရေစာမစားရ၍ ဆာလောင်မွတ်သိပ်နေရှာသည်။ ထိုခွေးမလေးသည် ဆာလောင်လှ၍ တစ်ကိုယ်လုံးဆတ်ဆတ်တုန်နေပြီး အစာရှိရာကို တရွေ့ရွေ့နှင့် တွား၍လာခဲ့ရာ ဆွမ်းစားအုံ့ဟုပြင်နေသော တိဿသာမဏေ၏ အနားသို့ ရောက်ရှိခဲ့၏။ သာမဏေ၏သပိတ်အတွင်းမှထွက်လာသော ထောပတ်ရနံ့ကိုရသောအခါ ခွေးမလေးမှာ ပို၍ဆာလောင်လာကာ အမြီးတနှံ့နှံ့ဖြင့် သာမဏေ၏မျက်နှာကို အသနားခံပြီး ကြည့်နေရှာသည်။ သာမဏေသည် ထိုခွေးမလေးကိုမြင်လျှင် စိတ်ထိခိုက်သွားပြီး မိမိဘုဉ်းပေးရန် ပြင်ထားသော ပထမဦးဆုံးဆွမ်းလုတ်ကို ခွေးမလေး၏ရှေ့၌ ချကာကျွေးလိုက်၏။ ခွေးမလေး အငန်းမရစားသည်ကိုမြင်သောအခါ သနားကြင်နာစိတ်ကြီးမားသော ထိုသာမဏေသည် ခွေးမလေးကို တစ်လုတ်ပြီးတစ်လုတ်ဆွမ်းကုန်သည်အထိ ကျွေးမွေးလိုက်ပြီး၊ ဆွမ်းကုန်သော် သပိတ်ကိုရေဆေး အိတ်၌ထည့်၍ ထိုနေရာမှ ကြွသွားတော်မူခဲ့လေသည်။

ထိုခွေးမလေးသည် သာမဏေအား ကြည်ညိုသောစိတ်ဖြင့်ပင် သေလွန်ခြင်းသို့ရောက်ခဲ့၏။ ထိုဘဝမှသေလွန်သော် ဇမ္ဗူဒိပ်ကျွန်း အိန္ဒိယနိုင်ငံ ဒေဝပုတ္တမင်းကြီး၏မိဖုရားဝမ်း၌ သန္ဓေစွဲတည်ခဲ့လေသည်။ မိဖုရားကြီး၌ ဖွားရက်စေ့သော် သမီးတော်ကလေးတစ်ပါး ဖွားမြင်ခဲ့၏။ ဆယ်လအရွယ်သို့ရောက်သောအခါ အမိအဖတို့က သမီးတော်ကလေးကို ဆံထုံးမင်္ဂလာပြုပေးကြ၏။ ထိုသမီးတော်ကလေး၏ဆံပင်တို့သည် နားတောင်းကဲ့သို့ အခွေလိုက်ဖြစ်နေသောကြောင့် သမီးတော်၏အမည်ကို ကုဏ္ဍလီဟုမှည့်ခေါ်ခဲ့ကြ၏။ ထိုကုဏ္ဍလီမင်းသမီးသည် ဆယ့်ခြောက်နှစ်အရွယ်သို့ ရောက်ခဲ့၏။

တစ်နေ့သော် သီရိလင်္ကာကျွန်း တိဿဝိဟာရကျောင်း၌ သီတင်းသုံးနေတော်မူသော တိဿမထေရ်သည် အိန္ဒိယနိုင်ငံ ဗုဒ္ဓဂယာရှိ မဟာဗောဓိပင်ကိုပူဇော်အံ့ဟု ကြံရွယ်ပြီး သီရိလင်္ကာကျွန်းမှ ဇမ္ဗူဒိပ်ကျွန်းသို့ လှေဖြင့် ကူးတော်မူခဲ့၏။ ဒေဝပုတ္တမြို့သို့ရောက်သောအခါ ဆွမ်းအလို့ငှာ မြို့တွင်းသို့ ဆွမ်းခံလှည့်တော်မူခဲ့၏။ ကုဏ္ဍလီမင်းသမီးသည်လည်း မိမိ၏ နန်းမဆောင် လေသာပြတင်းမှ လမ်းမသို့ရှုကြည့်နေစဉ် ဆွမ်းခံလှည့်တော်မူလာသော တိဿမထေရ်မြတ်ကို ဖူးတွေ့ရသောအခါ ရှေးဘဝက ဖြစ်ခဲ့သော သံယောဇဉ်ကြောင့် အလိုလိုခင်မင်ရင်းနှီးနေခဲ့လေသည်။

ထိုခဏမှာပင် ကုဏ္ဍလီမင်းသမီးသည် တစ်ခုသောဘဝ ဘိက္ခုနီဖြစ်စဉ်က ကညစ်၊ ပေစာနှင့်ဆီမီးစသည်ကို လှူဒါန်းခဲ့ပြီး ဇာတိဿရဉာဏ်ကိုရရပါလို၏ဟုဆုတောင်းခဲ့သဖြင့် ဖြစ်လာသောဇာတ်ဘဝကို အောက်မေ့သိရှိနိုင်သော ဇာတိဿရဉာဏ်ကိုရခဲ့လေသည်။ ထို့ကြောင့် ကုဏ္ဍလီမင်းသမီးသည် မိမိရရှိသောဇာတိဿရဉာဏ်ဖြင့် ဤအရှင်မြတ်သည် ရှေးအခါက ငါ့အား ကျေးဇူးပြုဖူးသည်ဟုသိမြင်ပြီး ဝမ်းမြောက်ဝမ်းသာဖြစ်ကာ ထိုအရှင်မြတ်ကို နန်းတွင်းသို့ပင့်ဆောင်စေခဲ့၏။ မြင့်မြတ်သော နေရာထိုင်ခင်းကိုခင်းကျင်း၍ မထေရ်ကိုနေစေပြီး အရသာနှင့်ပြည့်စုံသော ဆွမ်းဘောဇဉ်တို့ကို ကပ်လှူလေသည်။

ပြီးလျှင် မထေရ်မြတ်နှင့်မနီးမဝေး သင့်လျော်သောနေရာ၌ ထိုင်နေ၍ 'အရှင်ဘုရား၊ အကျွန်ုပ်ကို အရှင်ဘုရားသိပါ၏လော၊ အကျွန်ုပ်သည် ရှေးဘဝက အရှင်ဘုရား၏ကျွန်မဖြစ်ပါသည်။ အရှင်ဘုရားကြောင့် အကျွန်ုပ်၏အသက်ချမ်းသာရာရခဲ့ပါသည်'ဟု လျှောက်ထားခဲ့၏။ ထိုစကားကိုကြားသော် တိဿမထေရ်က 'နှမ...၊ ငါ့မှာ သင်လျှောက်ထားသကဲ့သို့ ကျွန်မဟူ၍ မရှိခဲ့ဖူးပါ။ သင့်ကိုလည်း ငါမသိ၊ သင်၏ အမည်သည် မည်သို့ခေါ်ပါသနည်း၊ ဘယ်သူ၏သမီးဖြစ်ပါသနည်း၊ အကြောင်းစုံကို လျှောက်ထားပါလေ'ဟု မိန့်ဆို၏။

ထိုအခါ ကုဏ္ဍလီမင်းသမီးက 'အရှင်ဘုရား၊ အကျွန်ုပ်၏အတိတ်ဘဝကို လျှောက်ထားပါမည်၊ အရှင်ဘုရားသည် တစ်ချိန်သောအခါက သီရိလင်္ကာကျွန်း ရောဟဏဇနပုဒ် ပါသာဏဝါပိရွာ၌ ဆွမ်းခံယူခဲ့ပြီး ကကုဗန္ဓချောင်းကမ်း၌ ဆွမ်းဘုဉ်းပေးရန် ပြင်ဆင်နေတော်မူစဉ် ကျွန်ုပ်သည် ခွေးငတ်မကလေးဖြစ်၍ ဆာလောင်မွတ်သိပ်လှသဖြင့် အသံပြုခဲ့မိပါသည်ဘုရား။ ထိုအခါ အရှင်ဘုရားသည် တပည့်တော်၏ဒုက္ခကိုကြည့်၍ ထိခိုက်သောစိတ်နှလုံးဖြင့် ဘုဉ်းပေးအံ့ဆဲဆဲဖြစ်သောဆွမ်းတို့ကို ကျွေးမွေး၍ နှစ်သက်စေခဲ့ပါသည်ဘုရား။ တပည့်တော်လည်း အရှင်ဘုရား၌ ကြည်ညိုသောစိတ်ဖြင့် ထိုဘဝမှလွန်ခဲ့၍ ထိုကြည်ညိုသောသဒ္ဓါတရား၏ အရှိန်ဓာတ်ကောင်းမှုကြောင့် ဤဘဝ၌ ပြည့်စုံကုံလုံသောစည်းစိမ်ဥစ္စာတို့ကို ရရှိခဲ့ပါသည်ဘုရား။

'အရှင်ဘုရား၊ မြတ်စွာဘုရား၌လည်းကောင်း၊ တရားတော်၌လည်းကောင်း၊ သံဃာတော်၌လည်းကောင်း ကြည်ညို၍ဖြစ်သော သဒ္ဓါတရား၏ အကျိုးသည် ကြီးမားပေစွ။ သို့ပါ၍ မိမိတို့၏ အခြားသော ဗာဟိရကိစ္စတို့ကိုထား၍ နေ့ညဉ့်ပတ်လုံး ရတနာသုံးပါး၌ ကြည်ညိုကြပါဟု တိုက်တွန်းလိုပါသည်ဘုရား'ဟု လျှောက်ထားပြီးလျှင် 'အရှင်မြတ်အား တစ်ဘဝမှတင်ခဲ့သော ထိုထမင်းတစ်နပ်ကျေးဇူးကိုဆပ်လို၍ ဤဒေဝပုတ္တမြို့၌ပင် သီတင်းသုံးတော်မူပါ'ဟုဆိုပြီး ကျောင်းတိုက်ကြီးတစ်တိုက်ကို ဆောက်လုပ်လှူဒါန်းခဲ့၏။ ထိုတိဿမထေရ်လည်း ကုဏ္ဍလီမင်းသမီးကလေးအား ခွေးမဘဝက မိမိပေးလှူခဲ့သောဆွမ်းအလှူကို ပြန်၍ ဆင်ခြင်ကာ ပီတိကို ဖြစ်စေပြီး၊ ဗုဒ္ဓါနုဿတိဘာဝနာနှင့်တကွ ဝိပဿနာဘာဝနာကို ဆက်လက်၍ ဆင်ခြင်ပွားများသောအခါ ရဟန္တာအဖြစ်သို့ ရောက်တော်မူခဲ့၏။

ဤကုဏ္ဍလီသတို့သမီး၏ဝတ္ထုကိုအကြောင်းပြု၍ ရှေးဆရာမြတ်တို့က 'ဤလောက၌ အတိတ်,အနာဂတ်,ပစ္စုပ္ပန်ဟု ကာလသုံးပါး ကာမ,

ရူပ,အရူပဟု လောကသုံးပါးရှိကြရာတွင် ဘုရား,တရား,သံဃာဟူသော ရတနာသုံးပါးမှလွဲ၍ အခြားသောအဖိုးတန်ရတနာဟူ၍မရှိပေ။ ထိုရတနာ မြတ်သုံးပါးတို့သည် အလိုရှိသော အကျိုးကျေးဇူးတို့ကို ပေးနိုင်စွမ်းသည့် နတ်တို့သစ်ပင် ပဒေသာဖြစ်ပါပေသတည်း'ဟု ဆိုခဲ့ကြ၏။

ဦးအောင်မွန် (မြတ်ဆုမွန်)



ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏
မြန်မာနိုင်ငံအတွင်း အရပ်ဒေသအသီးသီးတို့မှ
အမေးများကို ရှင်းလင်းဖြေဆိုတော်မူသော
သာသနာ့ သန့်ရှင်းရေး
ခေါ်

# သာသနဝိသောဓနီ

ပထမတွဲ

(လယ်တီဝိသောဓကမူ)

ထွက်ပါတော့မည်

မှာကြားရန်
မဟာလယ်တီတိုက်၊ လယ်တီရောင်ခြည်စာပေ၊ မုံရွာမြို့။
မြတ်ဆုမွန်စာပေထုတ်ဝေရေးလုပ်ငန်း၊ ရန်ကုန်မြို့။
ဖုန်း–၀၁–၇၀၉၂၀၇၊ ၀၉၈၀–၃၁၇၂၄

ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး၏

အင်္ဂလန်၊ ပြင်သစ်၊ သီရိလင်္ကာ စသောနိုင်ငံများမှ

အမေးများကို ရှင်းလင်းဖြေဆိုတော်မူခဲ့သော

# နိုင်ငံခြားပုစ္ဆာအဖြေပေါင်းချုပ်

(လယ်တီဝိသောဓကမူ)

ဒုတိယအကြိမ် ထွက်ပါတော့မည်

မှာကြားရန်

မဟာလယ်တီတိုက်၊ လယ်တီရောင်ခြည်စာပေ၊ မုံရွာမြို့။
မြတ်ဆုမွန်စာပေထုတ်ဝေရေးလုပ်ငန်း၊ ရန်ကုန်မြို့။
ဖုန်း-၀၁-၇၀၉၂၀၇၊ ၀၉၈၀-၃၁၇၂၄



ဥပုသ်သည်တို့ဖတ်ဖွယ်

# ပုံဝတ္ထုလေးဆယ်

ဦးအောင်မွန်(မြတ်ဆုမွန်)



Māyā Devī, From Anandā Temple, Bagan
graphic design : kyawzay(atomic)